# ဗုဒ္ဓဓမ္မသည် ဟိန္ဒူဓမ္မမှ ပေါက်ဖွားလာသော ဓမ္မမဟုတ်

မူရင်းစာရေးသူ

**Dr. Dharmkirti**



# ဗုဒ္ဓဓမ္မသည် ဟိန္ဒူဓမ္မမှ ပေါက်ဖွားလာသော ဓမ္မမဟုတ်။



မူရင်းစာရေးသူ

**Dr. Dharma Kiriti**
M.A M.D. M.Philosophy. Phd (Psyclogy)
Dlit ( Philosohpy)

သမ္မယက ဝရကာရှင်

ပထမအကြိမ်ပုံနှိပ်ထုတ်ဝေခြင်း ၂၀၁၀-ခုနှစ်၊ ၁၅၅၅ ဗုဒ္ဓသက္ကရာဇ်။

ထုတ်ဝေသူ- သမ္မယက ပရကါရှန်
၃၂-၃ ကလပ်လမ်း၊ ပစ္ဆိမပူရီ နယူးဒေလီ။ ၀၀၆၃-၀၈၊
တယ်လီဖုံး- ၆၅၇၀၆၈၈-၉၈၁၀၁၆၁၈၂၃
E-mail/ budhdharam@bol.net.in

Web: www.samyakprakashan.com





တန်းဘိုး ၁၅၀ ရူပီး။
Price : Rs. 150

စာအုပ်အမည် ဗုဒ္ဓဓမ္မသည် ဟိန္ဒူဓမ္မမှ ဆင်းသက်လာသည့် ဓမ္မမဟုတ်။

မူရင်းစါရေးသူ- ဒေါက်တာ ဓမ္မကီးတီး
ကွန် ပြူတာရိုက် Mr.Uk-Rajesh verma Tata sky micro Unit

ပုံနှိပ်သူ- ဂေါတမ Printer နယူးဒေလီမြို့



ဗုဒ္ဓဓမ္မ၏တိုးတက်ဖြန့်ချိရေးအတွက် စိတ်ရောကိုယ်ပါ အားထက်သန်နေသူ လာမာ ယွန်းဇင်း(Rimpoche Jee)အား သဒ္ဓါကြည်ညိုစွာဖြင့် ဆက်သအပ်ပါသည်။

## ဥယောဇဉ်

ဒေါက်တာခမ္မကီးတီး၏ ယွှစာအုပ်ကို ဖတ် ရှုလေ့လာပြီးသည့်နောက် ယနေ့ဘာရတ (အိန္ဒိယ)နိုင်ငံတွင် ဤစာအုပ်က အလွန် အရေးကြီးနေသော လိုအပ်ချက်ဖြစ်နေသည်ကို ကျနော်ရဲရဲ ပြောဆိုဝန်ခံရဲပါသည်၊ ထိုသို့ဆိုရခြင်း



၏အကြောင်းမှာ ဗုဒ္ဓဓမ္မသည် ဟိန္ဒူဓမ္မမှ ဆင်းသက်လာသည့်ဓမ္မမဟုတ်၊ များ စွာခြားနားနေသောဓမ္မတရပ် ဖြစ်နေလို့ သာဖြစ်သည်။ သို့သော် အချို့ အချို့သော သူများက မိမိအတ္တ အကျိုးကို ရှေ့ရှု၍ ဤတရားဓမ္မနှစ်ရပ်ကို အချင်းချင်းရော နှောသွားအောင် မတရားကြိုးစားနေကြ ပါသည်။ ထိုကြိုးစားမှုသည် ဗုဒ္ဓဓမ္မတရပ် အတွက် ကောင်းသောလက္ခဏာမဟုတ်၊ နောက်ပြဿနာတခုမှာ ဟိမာဠလပြည် နယ်တွင် ဟိန္ဒူဘာသာဝင်တို့သည် ယနေ့ အထိ မိမိတို့ ကိုးကွယ်ရာဖြစ်သောဒေဝီ၊ ဒေဝတာတို့ကို ပူဇော်ပသရာတွင် ကျွဲ၊ ဆိတ်၊ သိုး၊ ကြက်စသည့် သတ္တဝါများကို သတ်ဖြတ်ပူဇော်နေကြသည်၊ ထိုအပြုအမူ တို့သည် ဗုဒ္ဓဓမ္မ၏ ကရုဏာနှင့်မေတ္တာတရားတို့ကို ဆန့်ကျင်ရာရောက်သည်။ ထို့အပြင် ၎င်းတို့၏ ယင်းဆောင်ရွက်ခြင်းများမှာ ဗုဒ္ဓကျင့်ဝတ်ကောင်းတရား များနှင့်မညီ၊ အမင်္ဂလာဖြစ်သော လုပ်ရပ်ဖြစ်နေပါသည်။ ဟိန္ဒူဘာသာတရား တွင် များပြားသော ဆောင်ရွက်မှုများသည် မျက်ကန်းယုံကြည်မှုနှင့် ယုတ္တိမ ရှိသော အစီဇ္ဇာတို့ဖြင့် ပြည့်နေကြပါသည်။ အကယ်၍ ဗုဒ္ဓဘာသာကို ဟိန္ဒူ ဘာသာ၏ အစိတ်အပိုင်းတခု၊ သို့တည်းမဟုတ် ဂိုဏ်းဂဏတခုဟုဆိုခဲ့လျှင် ဗုဒ္ဓဓမ္မသည်လည်း ထိုမကောင်းဆိုးဝါးများကို ဗလိနတ်စားကျွေးခြင်း၊ ယုတ္တိ မရှိသောတရားများကို ယုံကြည်သော တရားဓမ္မတခုဖြစ်ကြောင်း အသိအမှတ် ပြုခံရလိမ့်မည်။ ဆိုလိုသည်မှာ ဟိန္ဒူဘာသာသည် ယင်းပါပကံတို့၏ အငွေ့အ

သက်တို့က ဗုဒ္ဓဓမ္မကိုလည်း လာရောက်ထိပါးလာနိုင်သည်။ ထိုကိစ္စများမှာ ဗုဒ္ဓတရားတော်၏ မဟာရည်မှန်းချက်၊ ဦးတည်ချက်များဖြစ်ကြသည့် ပညာ၊ သီလ၊ မေတ္တာ၊ ကရုဏာ တရားတို့၏ အမြစ်ကိုတူးဖော်၍ လှန်ရာကျပေလိမ့်မည်။ ကျနော် အံ့အားလည်းသင့်၍ စိတ်သောကလည်းဖြစ်ရသည့်အကြောင်းမှာ ဒေါက်တာရာဒါ ကိရိဗ္ဗနန်လို အတွေးအခေါ်ပညာရှင်တစ်ဦးက ဘုရားရှင်ဗုဒ္ဓအား ဝိသဒ္(နတ်သား)၏ ကိုယ်ပွါးတော်တယောက်ပါဟု ရေးသားအသိအမှတ်ပြုလာ သည်။ ရှင်ဗုဒ္ဓမှာ ထိုဘုရားသခင်၏ နဝမမြောက်သောကိုယ်ပွါးတော်ဖြစ် ကြောင်း ရေးသားဖော်ဆိုသည်။ ဆွာမိဝိဝေကာနန္ဒကတော့ဖြင့်သကျမုနိမဟာ မာနဝ ရှင်ဗုဒ္ဓကို(ဣသွားရ)သဘုရားသခင်အထိ ဆိုထားခဲ့လေသည်။ ဤသို့ပြောဆိုရေးသားခြင်းသည် ရှင်ဗုဒ္ဓအား မိစ္ဆာစွပ်စွဲခြင်း တစ်ခုဖြစ်နေသည်။ ကမ္ဘာတခုလုံးက အသိဖြစ်နေပြီး သမိုင်းဝင်အချက်တခုမှာ ခါတ်ကြီး(၄)ပါးနှင့် ဖွဲ့စည်းထားသော လူခန္ဓာကိုယ်ဖြင့်၊ ဗုဒ္ဓမှာ အခြားလူများနှင့်အတူလူတယောက်ဖြစ်သည်၊ သို့သော် ဗုဒ္ဓအဖြစ်ကို ရရှိလာသောခါ၊ သူသည် ဘုရားရှင်ဗုဒ္ဓ၊ သကျသီဟ၊ သကျမုနိ၊ တထာဂတ၊ မဟာမုနိ ဘုရားရှင်ဗုဒ္ဓစသည့်အခေါ်ဝေါ်ဖြင့် ခေါ်လာခဲ့ပါသည်၊ ဗုဒ္ဓက မိမိကိုယ်မိမိ တခါမျှ ဝိသဒ္၏ ကိုယ်ပွါးပါဟု မပြောဆိုခဲ့ပါ။ ဣသွာဘုရားသခင်ဖြစ်သည်ဟုလည်း ဝန်မခံခဲ့ပါ။ ရှင်ဗုဒ္ဓက အမြဲပင် သူ့ကိုယ်သူ အခြားလူများနှင့်အတူ(ပရကိရိကပုတ္တ)သဘာဝအတိုင်း မွေးဖွားပါသည်ဟုပြောဆိုမိန့်ကြားခဲ့ပါသည်။ ထို့အပြင် ဗုဒ္ဓဓမ္မကို ဟိန္ဒူဓမ္မ၏ ဂိုဏ်းဂဏတခုပါဟု ပြောဆိုခြင်းသည်လည်း မှားယွင်းနေပါသည်။ ဗုဒ္ဓဓမ္မသည် ဝေဒ၊ ဥပနိသျှဒ်ကျမ်းများကို အခြေခံ၍ ပေါ်ပေါက်လာရသည်ဟု ပြောဆိုခြင်းသည်လည်း သမိုင်းအထောက်အထားအရ မှားယွင်းနေသော အချက်တခုဖြစ်နေ ပါသည်။ စိတ်ကူးယဉ်သက်သာဖြစ်သော အဆိုးပါအဆိုမျိုးကိုဘယ် ဗုဒ္ဓဘာသာ ဝင်တစ်ဦးမှာ လက်ခံနိုင်မည်မဟုတ်။ သကျမုနိကို ဟိန္ဒူဓမ္မမှ လူမှုပြင်ဆင်ရေးသမားတစ်ဦးပါဟု ခေါ်ဆိုခြင်းလည်း မှားပါ၏။ အမှန်တရားတို့နှင့် ဝေးကွာပြီး သက်သက် မဟုတ်မမှန်သောစကားပင် ဖြစ်ရပေမည်။ ဤစာအုပ်တွင် ဗုဒ္ဓဘာသာပညာရှင် ဒေါက်တာဓမ္မကီးတီးမှာ စိတ်ကူးယဉ်သက်သက်ဖြစ်နေသော အဆို၊ ပုရာဏကျမ်းများ၌ ဆိုထားသောအဆိုပါ မဟုတ်မမှန်သော အချက်အလက်ကို ကောင်းကောင်း ချေပပြောဆိုရေးသားထားပါသည်။ အာရှနိုင်ငံရော ကမ္ဘာကြီးတခုလုံးမှာ သိန်းသောင်းနှင့်မက လူတို့ကိုမဟုတ်မမှန်သော ထိုအဆိုများဖြင့်လိမ်လည်၍ သကျမုနိအား ပြောဆိုတင်ပြနေကြပါသည်။ ယ





နေ့လောကမှာ ဗုဒ္ဓဓမ္မသည် ဟိနယာနခေါ် ထေရဝါဒနှင့် မဟာသာနဂိုဏ်း (၂)ခု ယေဘုယျရှိပါသည်။ ဗုဒ္ဓဘာသာ၏ အဘယ်ဂိုဏ်းတခုခုက သကျမုနိ တထာဂတအား ရာဒါကိရိဗ္ဗနန်နှင့် ဆွာမိဝိဝေကာနန္ဒကဲသို့ မြတ်စွာဘုရားအား ဗိဿနိုး၏ ကိုယ်ပွါးတော်ဟုယုံကြည်ကြသော ဂိုဏ်းတခုမရှိပါ။ ဗုဒ္ဓကို ထာဝရဘုရားသခင်ပါဟု ယုံကြည်ကြသော ဂိုဏ်းလည်းမရှိခဲ့ပါ။ ဗုဒ္ဓဓမ္မကို အကယ်၍ ဟိန္ဒူဘာသာမှ ဆင်းသက်လာသော ဝါဒဟုလက်ခံလာသော ဒဿနဆိုင်ရာ များစွာသော ပြဿနာများ ပေါ်ပေါက်လာရမည်ဖြစ်သည်။ ထိုဖြစ်မျိုး၌ ဟိန္ဒူဘာသာဝင်များက ဗြဟ္မဏဝါဒ၊ ထာဝရဝါဒ၊ ဣသွာရဝါဒ၊ အတ္တဝါဒနှင့် ဇရာဏဝါဒ ခေါ်ဇာတ်ခွဲမှုဝါဒစသည်တို့ကို လက်ခံရလိမ့်မည်။ ရုပ်တုကိုးကွယ်မှု ဗလိကံ မျက်ကန်းယုံကြည်မှုစသည့် ယုတ္တိမရှိသောဝါဒကို စွန့်လွှတ်ပြီး အနိစ္စဝါဒ၊ အနန္တဝါဒ၊ ခဏိကဝါဒ၊ အနတ္တဝါဒ၊ ဇာတ်စနစ်မရှိသော လူမှုအဖွဲ့အစည်းတို့ကို လက်ခံယုံကြည်ရပေလိမ့်မည်။ ဤသို့အခြေအနေမျိုးတွင် ဟိန္ဒူဘာသာ လုံးဝ ပျက်သုန်းသွားရမည်ဖြစ်ပါသည်။ သကျမုနိဗုဒ္ဓ၏ ဓမ္မမှာ ပဂျန်းသီလ၊ မေတ္တာ၊ ကရုဏာစသည့် လူမှုတန်ဘိုးကို တည်ထောင်ပေးသည့် ဓမ္မဖြစ်သည်။ အမှန်စင်စစ် အထက်ဖော်ပြပါ လူမှုတန်ဘိုးတို့က ဟိန္ဒူဘာသာတွင် အဘယ်မှာတွေ့ရပါမည်နည်း။ သို့ဖြစ်ပါ၍ ဗုဒ္ဓဓမ္မသည် ဟိန္ဒူဓမ္မ၏ ဂိုဏ်းတခုမဟုတ်သည် အဖြစ်မှာ ရှင်းနေပါသည်။ အမှန်စင်စစ် ဗုဒ္ဓဓမ္မသည် သကျမုနိ၏ ကြီးမားသော ရှာဖွေမှုတရပ် ဖြစ်သည်။ ဒေါက်တာရာဒါကိရိဗ္ဗနန်၏ပြောဆိုချက်များမှာ လုံး ဝ မှားယွင်းနေပါသည်။ ဗုဒ္ဓဓမ္မသည် ဝေဒကျမ်းများ ဥပနိသျှဒ်ကျမ်းများကို အခြခံသည်ဟူသော ခံယူချက်များက လုံးဝမှားယွင်းသော ခံယူချက်ဖြစ်နေပါသည်။ ဆွာမိဝိဝေကာနန္ဒက ဗုဒ္ဓဓမ္မကို ဝေဒန္တဒဿနသြဇာခံတရားဓမ္မဟု ပြောဆိုခဲ့ပါသည်။ ထိုကဲ့သို့သော ဒွိဟာသံသယဖြစ်စေသော စကားများအချက်၊ အလက်များကို ဤစာအုပ်တွင် ဒေါက်တာဓမ္မကီးတီးမှ ဖြေရှင်းထားပါသည်။ ဟိန္ဒူဓမ္မသည် ဇာတ်မြင့်ဟုခေါ်ရသော ဗြာဟ္မဏ၊ ခတ္တိယ၊ ဝေဿတို့၏ ကောင်းရာကောင်းကျိုးဖြစ်စေသော စကားများကိုသာ ပြောဆို၏ ထိုဓမ္မ၌ သုံဒြရကျွန်နှင့် အမျိုးသမီးများကို နိမ့်သောမျက်လုံးဖြင့်ကြည့်ကြ၏။ သကျမုနိဗုဒ္ဓသည် ဓမ္မဥပဒေသ ပြုပြီးနောက်၊ အသင့်ဘိက္ခုပေါင်းတို့ ဗဟုဇနဟိတာယ၊ ဗဟုဇန သုခါယ အများပြည်သူ့အကျိုး အများပြည်သူ့ချမ်းသာအတွက် သွားရောက်လုပ်ကြပါဟု မိန့်ကြားခဲ့ပါသည်။ တထာဂတဗုဒ္ဓက သီလ၊ သမာဓိ၊ ပညာတို့ကို လိုက်နာမှုရှိရမည်ဟု မိန့်ကြားခဲ့သည်။ ဤပညာရပ်များကို လေ့လာသွားလည်

မှသာ လူတို့သည် ဒုက္ခမှကင်းဝေးနိုင်ပြီး နိဗ္ဗာန်ကို မျက်မှောက်ပြုနိုင်သည်၊ ယနေ့ဘာရတနိုင်ငံတွင် ဒေါက်တာရာဒါကိရှစ္စန်နှင့် ဆွာမိဝိဝေကနန္ဒလို့ ဒဿန ဆရာပုဂ္ဂိုလ်တို့ကြောင့် လူများက များစွာဒွိဟသံသယ ဖြစ်နေကြပါသည်။ ယုတ္တိမရှိသော တွေးအခေါ်ဒဿနများစွာပွားများနေရပါသည်။ ထိုဒွိဟသံသယဖြစ်စေသော စကားများကို ဤစာအုပ်တွင် မဟာပညာရှင် ဒေါက်တာမွေကီးတီးက ရှင်းလင်းထားသည်။ ဤစာအုပ်ကို အင်္ဂလိပ်ဘာသာနှင့် အခြားဘာသာပြန်ဆိုချက်ကို အမြန်ဆုံး ထုတ်ဝေသွားကြရန် သက်ဆိုင်ရာသို့ ကျနော် ပန်ကြားစေချင်ပါသည်။

အမှန်စင်စစ် ဤစာအုပ်သည် ဟိန္ဒူဘာသာဝင်တို့အတွက် စိမ့်ခေါ်မှုတရပ် ဖြစ်နေပါ၍ ဗုဒ္ဓဘာသာဝင် တို့အတွက် လမ်းပြတခုဖြစ်နေပါသည်၊ ကျည်ဆံက မလုပ်ပေနိုင်သော အလုပ်ကို ဤစာအုပ်က လုပ်ပေးနိုင်ပါသည်။ ဤစာအုပ်၏ စာပေမှာ ရိုးဖြောင့်၍ ဖြေရှင်းချက်များက ထက်မြက်လှသည်။ အရေးအသားနှင့် ချေပပြောဆိုသည့်ရှုဒေါင့်နှင့် အချို့သောပုဂ္ဂိုလ်များက ဤစာအုပ်ကို ကြိုက်နှစ်သက်ခြင်းပြုမပြုကို ကျနော်မဆိုလိုပါ။ သို့သော် ကျနော်အမြင်မှာ ဤစာအုပ်သည် အချေအတင်ချေပပြောဆိုသည့်အဆင့်နှင့် မျက်ကန်းအုပ်စု ယုတ္တိမရှိမှုနှင်းကို လက်ခံယုံကြည်ကြသူများအတွက် အမှောင်ထုမှာ သူရိယနေမင်း၏ ရောင်ခြည်သဖွယ် အသုံးဝင်နိုင်သော စာအုပ်တစ်အုပ် ကေန်ဖြစ်လိမ့်မည်။ ဤစာအုပ်သည် လမ်းပျောက်နေသူတို့ လမ်းပြပေးသည့် စာအုပ်ဖြစ်နေပါသည်။ သို့ဖြစ်ပါ၍ ဤစာအုပ်ကို ရေးသားထုတ်ဝေသွားသည် ဗုဒ္ဓစာပေပညာရှင်ကြီး ဒေါက်တာမွေကီးတီးနှင့် ပုံနှိပ်ထုတ်ဝေသွားသော သန်တီးစရု(ပ်)တို့အား ချီးမွမ်းလိုက်ပါသည်။ သာဓုဟုခေါ်လိုက်ပါကြောင်း။ အများမင်္ဂလာဖြစ်ပါစေသတည်း။ လာမာယွန်းဂဇ်ဂီ ဇန်နဝါရီ(၁)ရက်၊ ၂၀၁၀-ခုနှစ် မဟာဟိမာလယဗော်ဒ္ဓကလျာရဏအသင်း၊ကုလ္လူခရိုင်၊ မာနာလီ၊ ဟိမ်ချလပရဒေ့ရှ်။

## ထုတ်ဝေသူ၏ အမှာ



လက်ရှိစာအုပ်ကို ရေးသားပြုစုခဲ့သူ ပညာရှိစာရေးဆရာဖြစ်သူ ဒေါက်တာမွေကီးတီးမှာ အကြောင်းအရာအမျိုးမျိုးနှင့် စာအုပ်သစ်များ ရေးသားရာတွင် ပြောင်မြောက်သူ တစ်ဦးဖြစ်ပါသည်။ ဆရာရေးသားခဲ့သည့် စာအုပ်ပေါင်း (၄၀) နီးပါးကို ကျနော်တို့ထုတ်ဝေသည့်ဌာနကပင် ထုတ်ဝေဖြန့်ချိခဲ့ပါသည်။ အခြားထုတ်ဝေသူများကလည်း ဆရာရေးသားခဲ့သည့် စာအုပ် ပေါင်း (၃၀)ကျော်တို့ကို ထုတ်ဝေခဲ့ပါသည်။ စာအုပ်ရေးသားပြုစုရာတွင် စာရေးဆရာက အစမှအဆုံးအထိ မိမိတင်ပြလိုသောကြောင်းအရာကို အထူးဂရုစိုက် တင်ပြသွားခြင်းသည်၊ ဆရာ၏ အဓိကအရည်အချင်းဖြစ်နေပါသည်။ လက်ရှိစာအုပ် ဗုဒ္ဓဓမ္မသည် ဟိန္ဒူဓမ္မမှ ဆင်းသက်လာသည်မဟုတ်မှာလည်း ကျနော် အဆိုကို ထောက်ခံသက်သေထူနိုင်ပါသည်၊ ဤစာအုပ်၏ အကြောင်းအရာသည် များစွာ အသုံးဝင်ပြီး အသိညာဏ်တိုးတက်လာဘွယ်ရာဖြစ်သည်။ ပညာရှိစာရေးဆရာ ဒေါက်တာမွေကီးတီးမှာ ဗြာဟ္မဏဝါဒ၏ အကောက်ကြံစည်မှု မျက်နှာဖုံးကို လုံးလုံးလျားလျား ချွတ်ထားပြသခဲ့သည်၊ ရာနှစ်ပေါင်းများစွာက ယင်းမျက်နှာဖုံးမှာ ဗုဒ္ဓမ္မ၏ အမွေ့အနှစ်များကို တိုက်ယူဖျက်ဆီးနေပါသည်။ မနေ့တနေ့အထိ ဗုဒ္ဓမ္မကို နိုင်ငံခြားမှလာသော တရားဓမ္မပါဟုပြောဆို စွပ်စွဲခဲ့ကြသောသူတို့မှာ ယနေ့ ဗုဒ္ဓဘာသာကို ငါတို့ဟိန္ဒူဓမ္မ၏ အစိတ်အပိုင်းတစ်ခုဖြစ်သည်ဟု အော်ကျယ်ဟစ်ကျယ်ပြောဆိုလာသည်မှာ စဉ်းစားစရာဖြစ်လာသည်။ သို့သော် ဤစာအုပ်တွင် စာရေးသူ့ ချေပပြောဆိုခြင်းမှာ အလွန်တိကျပြတ်သားနေသည်ကို တွေ့ရှိရလိမ့်မည်။

ဘာရတနိုင်ငံတွင် ကလေးများက အစသိထားသည့် အချက်တစ်ခုမှာ ဗုဒ္ဓဘာသာသည် ဟိန္ဒူဓမ္မသ၏ အစိတ်အပိုင်းတခု မဟုတ်ပါ၊ သီးသန့်တရားဓမ္မတခုဖြစ်ပါသည်။ ဤသို့ ဗုဒ္ဓဘာသာကို ဟိန္ဒူဓမ္မမှ ဆင်းသက်လာသည်ဟု ယုတ်မာစဉ်းလဲသည့် အချို့သောသူ့များက မိမိတို့ကိုယ်ကျိုးကို ရှေ့ရှု၍ အကောက်ကြံစည်ခြင်းသာဖြစ်သည်။ အသိဉာဏ်ရှိသူတစ်ယောက်က မိမိလက်ကို

မိမိ ခုတ်ဖြတ်နိုင်သည်မဟုတ်၊ မိမိခြေထောက်၊ ဦးခေါင်းတို့ကို ခုတ်ဖြတ်မည် မဟုတ်၊ အကယ်၍ ဗုဒ္ဓဓမ္မသည် အမှန်စင်စစ် ဟိန္ဒူဓမ္မ၏ အစိတ်အပိုင်းတစ်ခု ဖြစ်ခဲ့လျှင်၊ အာဒိဂုဂုဆံကရာစာရိယာ၏ ဦးဆောင်အားပေးမှုဖြင့် သုဓန္ဒဝါ၏ စစ်သည်များက ဗုဒ္ဓဓမ္မဝင်တိုကို ရက်ရက်စက်စက်သတ်ဖြတ်မှာ မဟုတ်၊ ဗုဒ္ဓ ဘာသာဝင်တို့၏ လေးစားကြည်ညိုစရာဖြစ်သော ဝိဟာရကျောင်းများ ထူပ များနှင့် သန့်စင်မွန်မြတ်သည့် စေတီတော်များကို ယှုလို မီးတိုက်ဖျက်ဆီးပစ်မှာ မဟုတ် ၊တန်ဘိုးမဖြတ်နိုင်သော ဗုဒ္ဓဝိဟာရကျောင်းများ၊ စေတီထူပများကို ဟိန္ဒူဘာသာဝင်တိုကို ကိုးကွယ်ရာအဖြစ် ပြောင်းပစ်ခြင်းတို့က အဘယ် ကြောင့်ပါနည်း၊ အကြောင်းကရှင်းပါ၏၊ ဗုဒ္ဓဓမ္မသည် ဟိန္ဒူဓမ္မအတွက်ဝါရုံနှင့် ပမဏာတူနေသည်၊ အစိတ်အပိုင်းတခု မဟုတ်လိုသောဖြစ်ရသည်။ သေးငယ် သောအပင်တခု၏အကိုင်းများသည် ကမ္ဘာကို လွှမ်းခြုံထားလို့မရနိုင်ပါ။ အတွေး အခေါ်အရဖြစ်စေ၊ လက်တွေ့မှာဖြစ်စေ၊ ဒဿနသဣာန်မှာပင်ဖြစ်စေ၊ ဟိန္ဒူဓမ္မ သည် ဗုဓမ္မကို မမှီနိုင်ပါ။ တုပခြင်းညီးမှုခြင်းတိုကို မဆောင်ရွက်နိုင်ပါ၊ ဗုဒ္ဓအယူ အဆဟာ မြောက်ယဉ်စွန်းတန်းဖြစ်လျှင် ဟိန္ဒူဓမ္မမှာ တောင်ယဉ်စွန်းတန်း ဘဲဖြစ်နိုင်သည်။ ဤတရားဓမ္မတို့၏ ဒဿနအမြင်သည် မိုးနှင့်မြေလိုဘဲ ကွာ ခြားနေကြပါသည်။ စိတ်ဝင်စား ရာကောင်းသည့်အချက်တခုမှာ နှစ်အနည်း ငယ်ကြာပြီးသောကာလက ဆိ(စ်)ဘာသာကို သီးသန့်ဘာသာအဖြစ် သတ် မှတ်ခံခဲ့ရပါသည်။ သို့သော် ဗုဒ္ဓဘာသာကို ဟိန္ဒူဘာသာ၏ အစိတ်အပိုင်း အဖြစ်သာ ယနေ့အထိ သတ်မှတ်ကြသည်။ အကြောင်းက ဘယ်လိုဖြစ်နိုင်သည် စဉ်းစားစရာဘဲ၊ ဤစာအုပ် ကို ဖတ်ရပြီးနောက် မည်သူမဆို ဘာရတီယလူ မျိုးဘဲဖြစ်ဖြစ်၊ နိုင်ငံခြားသားဘဲဖြစ်ဖြစ်၊ ဟိန္ဒူဗြာဟ္မဏဝါတဒီတို့၏ လှည့်ကွက် ကလိန်းဆင်ထားမှုကို ကောင်းစွာနားလည်သိရှိနိုင်ပါသည်။ စာရေးဆရာဓမ္မ ကီးတီးက ဤစာအုပ်ကို ရေးသားပြီး၊ ဗုဒ္ဓဘာသာကို ဗြာဟ္မဏတို့၏ ကျော့ ကွင်းမှ လွတ်မြောက်လာစေရန် ကြိုး ပမ်းမှုတရပ်၊ တော်လှန်ရေးတရပ်ကို ဆင်နွှဲ ထားပြီးဖြစ်သည်။ ဤကြိုးပမ်းမှုသည် ဗုဒ္ဓဘာသာပြန်လည်ထွန်းကားလာရန် ခိုင်မြဲသော ခြေလှမ်းတခုဖြစ်သည်။ သို့အတွက် ကျနော်စာရေးဆရာအားများ စွာ ကျေဇူးတင်ရှိပါသည်။ သာဓုအနုမောဒနာပြုအပ်ပါသည်။



## ဘာဝတုသဗ္ဗမင်္ဂလံ။
## ပရာက္ကထန

ကျနော့်မိတ်ဆွေ မဟော်ပသကာသန်တီးစရ(ပ်)တော်ဒ္ဓ၏ အကြိမ်ကြိမ် မေတ္တာရပ်ခံချက်ကို လေးစားသည့်အနေဖြင့်"ဗုဒ္ဓဓမ္မသည် ဟိန္ဒူဝါဒမှ ဆင်းသက်လာသည့် ဓမ္မမဟုတ်"ဟူသောဤစာအုပ်ကို ရေးခိုင်ရခြင်း၏ အကြောင်းမှာ(၂)ခု ရှိနိုင်ပါသည်။ ပထမအကြောင်းကတော့ ဒေါက်တာရာဒါကိရိရှ္စန် ဆွာမိဝိဝေကာနန္ဒစသည့်ပုဂ္ဂိုလ်များက ဗုဒ္ဓဓမ္မနှင့်ပါတ်သက်လို့ ဒွိဟဖြစ်စရာမဟုတ်၊ မတရားထင်မြင်စရာအကြောင်းအမျိုးမျိုးတို့ကို ရေးသားဖော်ပြပြောခဲ့ပြီး လူမှုအသိုင်းအဝိုင်း၌ ပြဿနာဖန်တီးခဲ့သည်။ ၎င်းတို့ရေးသားပြောဆိုချက်များကြောင့် ဗုဒ္ဓဓမ္မ၏ ရုပ်လွှာမှာ များစွာထိခိုက်နစ်နာလျက်ရှိသည်။ ဗုဒ္ဓဓမ္မကို ဆန့်ကျင်ပြောဆိုမှုကြောင့် ဗုဒ္ဓဓမ္မ၏ စစ်မှန်သောသဏ္ဍာန်မှာ များစွာထိခိုက်နေခဲ့ပါသည်။ ဗုဒ္ဓဓမ္မ၏ အစစ်အမှန်ကို လူများမသိနိုင်အောင်ပင် ဖြစ်ခဲ့ရပါသည်။ ၎င်းမဟုတ်မတရားတင်ပြချက်များကို ရှင်လင်းသွားရန် လိုအပ်နေသည်ကို တွေ့မြင်ခြင်းကြောင့် ပထမအကြောင်းဖြစ်နိုင်ပါသည်။ ဒုတိယအကြောင်းကတော့

ယနေ့အခါတွင် Rashatiya swam sevaka sangh Viswa Hindu prishadနှင့် အခြားအစွန်းရောက်ဟိန္ဒူအစည်းအရုံးများက ဗုဒ္ဓဓမ္မနှင့် ပါတ်သက်ပြီး၊ အဓိပ္ပါယ်မရှိသော ပြောဆိုချက်များပြုလုပ်ရာတွင် အလုပ်များနေကြသည်။ အခြေအမြစ် ဘာမှမရှိသည့်ပြောဆိုချက် ဝါဒပြန့်ချီရေးတို့ကို လုပ်နေကြသည်။ အစွန်းရောက်ဟိန္ဒူအစည်းအရုံးများက ဗုဒ္ဓနှင့်ဗုဒ္ဓဓမ္မနှင့် ပါတ်သက်၍ မိစ္ဆာပြောဆိုနေကြသည့် စကားတို့မှ (၁)၊ ဘုရားရှင်မြတ်ဗုဒ္ဓကဝိသနု၏ ကိုးပွဲးတော်ဖြစ်ကြောင်း။ (၂)၊ ဘုရားရှင်ဗုဒ္ဓကိုယ်တော်တိုင်က(ဣသွာရ) ထာဝရဘုရားသခင်ဖြစ်ကြောင်း။(၃)၊ ဗုဒ္ဓဓမ္မမှာဝေဒကျမ်းများ ဥပနိသျှဒ်ကျမ်း များမှ ပေါက်ဖွားလာသော ဓမ္မဖြစ်ကြောင်း။(၄)၊ ဗုဒ္ဓဓမ္မ၏ ရပ်တည်ချက်က ဝေဒ္ဒ ဒဿနဖြစ်ကြောင်း။(၅)၊ ဗုဒ္ဓဓမ္မသည် ဟိန္ဒူဓမ္မ၏ ဂိုဏ်းတခုဖြစ်ကြောင်းနှင့် (၆)၊ ဗုဒ္ဓက အသစ်အဆန်းဓမ္မတခုပေးရခြင်း မဟုတ်ဘဲနှင့် ဟိန္ဒူဓမ္မကိုပင် ပြင်ဆင် မွမ်းမံပေးခြင်းသာဖြစ်ကြောင်း တို့ဖြစ်ကြပါသည်။ ၎င်းတို့၏ အထက်ပြော ဆိုချက်(၆)၊ အချက်အားလုံးက မှားယွင်းနေပြီး ကိုယ်ကျိုးကို အဓိကထားပြီး

ပြောဆိုခြင်းများ ဖြစ်ကြောင်းကို စာအုပ်တွင် စာရေးဆရာက တခုချင်း အမှန်အတိုင်း ချေပပြောဆိုထားပါသည်။ ဤစာအုပ်တွင် ဒွိဟဖြစ်စေသော အပြောအဆို စဉ်းလဲကောက်ကျစ်မှုကို အရင်းခံ၍ ပြောဆိုချက် အမြောက်အများတို့ကို သူအမှန်အတိုင်း ချေပပြောဆိုရုံမက ယင်းပြောဆိုရေးသားခြင်းတို့၏ သမိုင်းနှင့်၊ ဒဿနဆိုင်ရာ အချက်အလက်နှင့်တကွ ရှင်းလင်းဖော်ပြ ရေးသားထားသည်။ အဆိုပါမိုက်မဲ့သော အပြောအဆိုကို ဖြေရှင်းချေပရေးသားရခြင်းက အရေးကြီးပါသည်။ အဘယ်ကြောင့်ဆိုသော် မဟုတ်မမှန်ဆိုသောစကားကို ဆက်ခါဆက်ခါ ပြောဆိုခြင်းအားဖြင့် ထိုမဟုတ်မမှန်သောစကားသည် ဟုတ်မှန်သလိုထင်မြင်လာကြလေ့ရှိသည်။ ယနေ့ဟိန္ဒူလူထုက ဒေါက်တာရာ ဒါကိရိဿနန်းနှင့် ဆွာမိဝိဝေကာနန္ဒ၊ အာဒိရှန်ကရာစာရိယာတို့ကို အကြောင်းပြု၍ ထိုမဟုတ်မမှန်စကားပြောဆိုချက်များကို ရေဒီယို၊ ရုပ်မြင်သံကြားစသည်တို့ကို အသုံးပြုလျက် နေ့စဉ်နှင့်အမျှ အကြိမ်ပေါင်းသောင်းသိန်းနှင့်မက ပြောဆိုပြသနေကြကုန်သည်။ ဤစာအုပ်ကို ရေးသားထုတ်ဝေခြင်းဖြင့် ထိုမဟုတ်မမှန်ပြောဆိုချက်အားလုံးကို ပိတ်ပင်သွားအောင် သေ့ခလောက်ခတ်လိုက်သည် ဖြစ်ရပါသည်။ ဤစာအုပ်မှာ လူတို့၏ဉာဏ်မျက်စိပွင့်လာအောင် ရေးသားပြုစု ထုတ်ဝေလိုက်သည်။ ဤစာအုပ်အပြည့်ကို အခန်း (၁၇) ခန်းခွဲ၍ရေးသားထားသည်။

ဤစာအုပ်ကို ဖတ်ရှုလေ့လာလျှင် များစွာအကျိုးရှိနိုင်ပါသည်။ စာအုပ်၏ ပထမအခန်းမှာ အကျဉ်းချုပ်၍ ဤစာအုပ်ရေးသားခြင်း ထုတ်ဝေဖြန့်ချီရခြင်း စာအုပ်ထုတ်ခြင်း၏ ရည်ရွယ်ချက်နှင့် အကြောင်းအရာတို့ကို အကျဉ်းချုပ်ရေးသားတင်ပြထားသည်။ အခန်း(၂)မှာ ဗုဒ္ဓသည် ဗိဿနိုး၏ ကိုယ်ပွားတော် မဟုတ်ခြင်းနှင့် စပ်ဆိုင်လျက်ရှိသည်။ ဤအခန်းတွင် ခေါင်းစဉ်ပါအကြောင်းအရာကို ဒဿနပြောင်မြောက်စွာဖြင့် ရေးသားဖော်ပြပေးထားသည်။ ဤအခန်းတွင် စိတ်ကူးယဉ်သက်သက်ဖြစ်သော ဗုဒ္ဓမှာ ဝိသနိုး၏ ကိုယ်ပွားဖြစ်သည့်ဟူသော မဟုတ်မှန်တင်ပြ ချက်များကိုချေပထားရုံမက ဗုဒ္ဓသည်သူလိုငါလို လူသားတစ်ဦးဖြစ်ကြောင်းကို ဖြေရှင်းရေးသားထားသည်။ အခန်းနှစ်နှင့်၊ သုံးတို့မှာ ဟိန္ဒူတို့၏ အနိုင်ကျင့်လိုသော စိတ်ဆန္ဒကို ဖွင့်ဟရေးသားထားသည်။ ဘယ်လိုဘဲလုပ်လုပ် ဘာပဲဖြစ်ဖြစ် ဒို့ကအနိုင်ဖက်ကဟူသော စကားကို လိမ်မာပါးနပ်စွာဖြင့် ရေးသားဖော်ပြပေးထားသည်။ ရှေ့နောက်မညီသော ဟိန္ဒူများ၏ ပြောဆိုကျင့်ကြံသည်ကို ပုံဖော်ထားသည်။ တဖက်မှာ ဗုဒ္ဓသည် ဗိဿနိုးဆိုသည့် ဘုရားရှင်၏ ကိုယ်ပွားဖြစ်သည်ဟုဆိုထားပြီး တဖက်တွင် ဗုဒ္ဓဆိုင်ရာရုပ်ပွားတော်များကို ထုခွဲဖျက်ဆီးပစ်ခြင်းတို့သည် အချင်းချင်းဆန့်ကျင်ဘက်လုပ်ရပ်များကို သက်ဝင်အောင် ရေးသားဖော်ပြပေးထားသည်။ ဤဆန့်ကျင့်ဘက်လုပ်ရပ်များကို အကယ်၍ ဒေါက်တာရာဒါကိရိဿနန်နှင့် ဆွာမိဝိဝေကာနန္ဒတို့ ယနေ့ အသက်ထင်းရှာခဲ့လျှင် အဘယ်သို့ ဖြေရှင်းပြသနိုင်မည်နည်း။ မဖြေရှင်းမပြသနိုင်ပါ။ ဤစာအုပ်၏ အခန်းလေးမှာ အမျိုးမျိုးသောအကြောင်းပြချက်တို့ဖြင့် သက်သေထူထားခဲ့၍ ဗုဒ္ဓဓမ္မသည် ဟိန္ဒူဓမ္မ၏ အစိတ်အပိုင်းတစ်ခု မဖြစ်ကြောင်းကို ရေးသားဖော်ပြထားပါသည်။ အကြွင်သူတိုသည် ဗုဒ္ဓဘာသာတရားကို ဟိန္ဒူဘာသာ၏ အစိတ်အပိုင်းဖြစ်ကြောင်း ပြောဆိုကြသည်။ ထိုသူတို့၏ ပြောဆိုချက်များက မဟုန်မမှန်ဖြစ်ပြီး အခြေခံဘာမှ မရှိခဲ့ပါ။ သမိုင်းကို ဆန်ကျင့်ပြောဆိုမှု သက်သက်သာဖြစ် ပါသည်။ အခန်းငါးထဲမှာ ဗုဒ္ဓဓမ္မသည် ဝေဒနှင့်၊ ဥပနိသျှဒ်ကျမ်းတို့ကို အခြေမခံ လုံးဝသီးသန့်ဖြစ်သော တရားဓမ္မဖြစ်ကြောင်းကို ရေးသားဖော်ပြပေးထားပါ သည်။ အကြွင့်သူတို့မှာ ဗုဒ္ဓဓမ္မကို ဝေဒကျမ်းများပေါ် အခြေခံသည်ဟု ပြောဆိုကြသည်။ ၄င်းတို့၏ ပြောဆိုချက်များက လုံးဝမှာယွင်းနေပါသည်။ စိတ်ကူးယဉ်သက်သက်ဖြစ်သည်။ ဒဿနသမိုင်းတို့နှင့် လုံးဝကိုက်ညီခြင်းမရှိပါ။ ဗုဒ္ဓဓမ္မဒဿနမှာ သစ္စာတရားပေါ် အခြေခံပြီး လူတို့၏ ကျင့်သုံးအားထုတ်မှုပေါ် မူတည်၍ သိပ္ပံပညာပေါ် မှီဝဲထားသည်။ ဤစာအုပ်၏ အခန်းခြောက်ထဲမှာ မဟာလူသားဗုဒ္ဓမှာ ဟိန္ဒူဓမ္မကို ပြန်လည်ပြင်ဆင်ပြီး တင်ပြထားသော တရားဓမ္မမဟုတ်ပါ။ လုံးဝဓမ္မသစ်တရားသစ်တခုဖြစ်ကြောင်း ရေးသားဖော်ပြပေးထားသည်။ ဗုဒ္ဓဓမ္မနှင့် ဟိန္ဒူဓမ္မတို့သည် အချင်းချင်း မိုးနှင့်၊ မြေကြီး ပမာဏကွားခြားမှုရှိပါသည်။ အခန်းခုနစ်တွင် ရှင်ဗုဒ္ဓမှာ ဟိန္ဒူတယောက်ဖြစ်ကြောင်း မဟုတ်မတရားပြောဆိုကြသော ပညာမဲ့၊ အသိဉာဏ်ကင်းသော သူတို့၏ ပြောဆိုချက်များကို ငြင်းပယ်ထားသည်။ အခန်းရှစ်ထဲမှာ ဒေါက်တာရာဒါကိရိဿနန်၏ ဗုဒ္ဓနှင့်ပတ်သက်ပြီး မဟုတ်မတရား ပြောဆိုချက်များကို ချေပထားသည်။ အခန်းကိုးမှာလည်း ဒေါက်တာရာဒါကိရိဿနန်နှင့် ပါတ်သက်နေပါသည်။ ဗုဒ္ဓဘာသာဝင်တို့ကို မနာလိုမှုဖြင့် ပြောဆိုခဲ့သည့်စကားများကို ချေပထားပါသည်။ အခန်းတစ်ဆယ်မှာ ဆွာမိဝိဝေကာနန္ဒက ဗုဒ္ဓဓမ္မနှင့်စပ်လျဉ်း၍ ဒွိဟဖြစ်စေသည်ဟု ပြောဆိုချက်များကို ချေပထားပါသည်။

အခန်း(၁၁)တွင် ပညာရှင်ဟုခေါ်အပ်သော အခြားဟိန္ဒူပညာရှင်များက ဗုဒ္ဓဘာသာနှင့်ပတ်သက်သည့် အခြားမဟုတ်မတရား ရေးသားချက်များကို ချေပထားသည်။ အခန်း(၁၂)တွင် မဟာပညာရှင်ကြီး မဟာပဏ္ဍိတရာဟုလသံကိစ္စယာယနစ်၏ ဗုဒ္ဓဘာသာနှင့်ပတ်သက်သည့် အမြင်ရှုဒေါင့်ကို အဓိပ္ပါယ်ရှိရှိတင်ပြဆွေးနွေးထားသည်။ အခန်း(၁၄)တွင် သဒ္ဓါကြည်ညိုအပ်သော လာမာယွန်းဇင် Rimpoche Jee ဗုဒ္ဓပေါ်ထား ရှိသည့် အမြင့်ရှုဒေါင့်ကို ရေးသားတင်ပြပေးထားသည်။ အခန်း(၁၅)တွင် ဗုဒ္ဓ ဓမ္မသည် ဟိန္ဒူဓမ္မနှင့် လုံးဝခြားနားသည့် တရားဓမ္မ ဖြစ်ကြောင်းကို ရေးသားထားသည်။ အခန်း(၁၆)တွင် ဟိန္ဒူဓနှင့် ဗုဒ္ဓဓမ္မတို့ အချင်းချင်းဘယ်နည်းနဲ့မှာ ဆက်ဆံမှု ပြုလို့မရနိုင်ကြောင်းကို ရေးသားဖော်ပြပေးထားသည်။ အခန်း(၁၇)တွင် ရိုးသားဖြောင့်မတ်သော နိုင်ငံခြားသား ဗုဒ္ဓဘာသာဝင်တို့အား ဟိန္ဒူဘာသာဝင်တို့၏ မဟုတ်မတရား တင်ပြချက်များ ပြောဆိုချက်၊ ရေးသားချက်များကို သတိထားကြရန် နိုးဆော်ထားသည်။ မဟာလူသား ဘုရားရှင်ဗုဒ္ဓ၏ တရားဓမ္မတို့က လူမှုစာနာမှုအပြည့်ရှိပါ၍ ဟိန္ဒူတရားဓမ္မတို့က လူသားမဆန်သော အညစ်အကြေးတို့၏ ပုံကြီးတခု ဖြစ်နေပါသည်။ ယနေ့ ဟိန္ဒူဓမ္မတွင် လေစားကြည်ညိုမှုခံအပ်သော သူတော်စင်များ ဓမ္မရှင်တရားရှင် အပေါင်းနှင့် ရေဒီယိုရုပ်မြင်သံကြား အစီအစဉ်များမှတဆင့် ဟိန္ဒူဓမ္မကို အမွှမ်းတင်နေကြပါသည်။ ယင်းကိစ္စကို အိန္ဒိယနိုင်ငံနယ်မြေ အသီးသီးရှိ ဗုဒ္ဓဘာသာဝင် ပြည်သူတရပ်လုံးက အထူးသတိပြုရန် လိုအပ်ပေလိမ့်မည်။ နို့ရည်နှင့်ပြည့်စုံနေသော အိုးကြီးတလုံးကို အဆိပ်တစက်လောက်ခတ်လိုက်သော်နို့တစ်အိုးလုံး ပျက်ရသည်နှင့်ပမာ တူသည်။ သို့အတွက် ဗုဒ္ဓဘာသာဝင်ထုတခုလုံးက စည်းစည်းလုံးလုံးဖြစ်နေဘို့လိုအပ်ပါသည်။ ဟိန္ဒူဘာသာဝင်တို့၏ ကလိမ်းဆင်ဉာဏ်သစ်၊ အကြံအစည်ကို ဖြစ်နိုင်သည့် နည်းနာများကို သုံးစွဲကာ တွန်းထုတ်ပစ်ချရန် လိုအပ်ပါကြောင်း။ ဤစာအုပ်ကို ဗုဒ္ဓဘာသာဝင်တို့တိုင်းက လေ့လာဖတ်ရှုသင့်သည်။ ဤစာအုပ်တွင် သုံးစွဲထားသည့် စာပေအသုံးအနှုန်း ကိုအချို့လူများက ကြိုက်နှစ်သက်ချင်မှ နှစ်သက်မည်။ သို့သော် ကင်ဆာရောဂါစွဲကပ်နေသူများကို ရိုးရိုးဆေးကုလို့မဖြစ်၊ ခွဲစိပ်ကုသရပါမည်။ ဤအချက်ကို မမေ့ပစ်ဖို့လိုအပ်သည်။ နောက်ဆုံးတွင် ကျနော်လားမားကြီးကို အထူးကျေးဇူး ဥပကာရတင်ရှိပါသည်။ လားမားကြီးက ဤစာအုပ်၏ ဥယောစဉ်စကားချီးကို



အထူးဂရုစိုက် ရေးသားခဲ့သည့်အတွက်နှင့် ကျနော်၏ ချစ်မိတ်ဆွေဖြစ်သော သန်တိစဂုပ်ဖော်ဒွတို့ကို သဒ္ဓါကြည်ညိုမှုဖြင့် အပြည့်အဝ ကျေးဇူးဥပကာရတင်ရှိကြောင်းပြောလိုပါသည် အားလုံးကိုယ်ရောစိတ်ပါ ချမ်းမြေ့ကြစေလိုသော

ဒေါက်တာဓမ္မကီးတီး ၂၀၀၉၊ ဇူလို၂၅-ရက်။

**မာတိကာ**

**ဥယျောဇာဉ်**

**ထုတ်ဝေသူ၏ အမှာ**

**စကားချီ**

## အခန်း(၁)
## မိတ်ဆက်

ဗုဒ္ဓဓမ္မနှင့် ဟိန္ဒူဓမ္မတို့၏ ဆက်ဆံမှု (Relation) ဆိုသည့်မေးခွန်းကို အဖြေပေးခြင်းအလုပ်မှာ ခက်ခဲသည့် ပြဿနာတရပ်မဟုတ်၊ လွယ်ကူသော ရိုးဖြောင့်ပြီး အလွန်တရာ လွယ်ကူသည့် အလုပ်တခုပါ။ ဤမေးခွန်းကို အဖြေပေးသူ ပညာရှင်တို့ကို နှစ်မျိုးနှစ်စား ခွဲဝေလို့ရနိုင်ပါသည်။ ပထမအစုထဲမှာ Ratriya Swar Sevak Sangh ESifh Viswa Hindu parishad နှင့် ဆက်စပ်မှုရှိကြသော လူများဖြစ်ကြပြီး အစွန်းရောက်ဟိန္ဒူများ ဖြစ်ကြသည်။ ၄င်းတို့က ဗုဒ္ဓဓမ္မနှင့် ဟိန္ဒူဓမ္မတို့က အဆင့်မြင့်ဆက်စပ်မှုရှိကြောင်း ပြောဆိုကြသည်။ (wigh podtive corelation) ရှိကြောင်းပြောဆိုသည်။ ဤအတန်းအစားထဲမှာ ပါဝင်သူများမှာ ဗုဒ္ဓဓမ္မကို ဟိန္ဒူဓမ္မမှ ဆင်းသက်သည်ဟု ယုံကြည်ပြောဆိုပါသည်။ ၄င်းတို့ထဲမှ အချို့သောသူများမှာ ဗုဒ္ဓဓမ္မသည် ဟိန္ဒူဓမ္မ၏ အစိတ်အပိုင်း တခုဖြစ်ကြောင်း ပြောဆိုကြသည်။ အချို့သောသူများမှာ ခေတ်တခေတ်တွင် ဟိန္ဒူဓမ္မမှာ အမျိုးမျိုးသော မကောင်းမှုများဝင်လာ၍ ညှိုးဖျင်းလာခဲ့ရာ ရှင်ဗုဒ္ဓမှာ ထိုမကောင်းမှုများကို ပစ်ပယ်သန့်စင်လာအောင် ပြန်လည်လုပ်ကိုင်ခဲ့၍ ဗုဒ္ဓမှာ ပြန်လည်လူမှုစံနှုန်းကို ပြင်ဆင်ပြီး တင်ပြလာသူတစ်ဦးဖြစ်ကြောင်းဟု ဆိုကြသည်။ အချို့သူများက ဗုဒ္ဓဓမ္မကို ဟိန္ဒူဓမ္မ၏ သဏ္ဌာန်ရုပ်လွှာတခုဖြစ်ကြောင်း ဝန်ခံပြောဆိုကြသည်။ အချို့သောသူများက ရှင်ဗုဒ္ဓ၏ ပြောဆိုဆုံးမသွန်သင်ချက်များမှာ အသစ်အဆန်းမဟုတ်၊ ၄င်းတို့မှာ ရှင်ဗုဒ္ဓက ဝိသနိုး၏ နဝမမြောက် ပေါ်ထွန်းလာသည့် ကိုယ်ပွါးဖြစ်ကြောင်း ရှိနိုးပူဇော်ကြကုန်၏။ ဗုဒ္ဓ၏ဆုံးမသွန်သင်ခြင်းများမှာ ဝေဒနှင့်၊ ဥပနိသျှဒ်ကျမ်းများတွင် ပါပြီးသားဖြစ်သည်ဟု ယူဆကြသည်။ ဆိုလိုရင်းမှာ ဤအတန်းအစားတွင် ပါဝင်သောသူများမှာ ဗုဒ္ဓဓမ္မမှာ ဟိန္ဒူဓမ္မမှ ခွဲခြား၍ မမြင်တတ်၊ တခုတည်းဖြစ်ကြောင်းကို လက်ခံယုံကြည်ယူဆကြသော သူများဖြစ်သည်။ ၄င်းတို့က ဟိန္ဒူဓမ္မကို ဗုဒ္ဓဓမ္မ၏ အကိုကြီးဟု သတ်မှတ်ကြသည်။ ဗုဒ္ဓဓမ္မသည် ညီငယ်နှင့်ပမာ တူသည်ဟု ယုံကြည်ကြသည်။ ဘာရတနိုင်ငံရှိ ဒုတိယအမျိုးစားဖြစ်ကြသော ပညာရှင်တို့က ဗုဒ္ဓဓမ္မနှင့် ဟိန္ဒူဓမ္မယ်အဆင့်မြင့်သော (High Negative Corelation) အပြုသဘောဆောင်သော အချင်းချင်းဆက်စပ် မှုရှိကြောင်းကို ယုံကြည်ကြပါသည်။



ဤအတန်းအစားတွင် ပါဝင်ကြသော ပညာရှင်တို့က ဟိန္ဒူဓမ္မမှာ ဒဿနအဆင့်မှာသော်၄င်း အခြား concept လက်ခံယုံ ကြည်မှုအရာ ကွာခြားနေကြောင်းကို သိရှိနားလည်ကြသည်။ ၄င်းတို့အရာ ယင်းကွာခြားမှု မြောက်ယဉ်စွန်းတန်းနှင့် တောင်ယဉ်စွန်းတန်းပမာ ကွာခြားနေကြောင်းကို ယုံကြည်လက်ခံသိရှိထားသူများ ဖြစ်ကြသည်။ ယင်းကိစ္စရပ်များ၏ ဒဿနဆိုင်ရာနှင့် သမိုင်းဆိုင်ရာ ကွာခြားမှုကို ရှေ့အခန်းများတွင် ရေးသားဖော်ပြပေးပါသည်။

အကြင်သူများက ဗုဒ္ဓဓမ္မမှာ ဟိန္ဒူဓမ္မမှဆင်းသက်လာသည်ဟု ပြောဆိုယုံကြည်ယူဆကြသော သူတို့၏ အမြင်မှာ လုံးဝသုည။ တကယ်အမှားကြီးမှားနေပါသည်။ သမိုင်းကိုလုံးဝ ဆန့်ကျင်နေသည့်စကားဖြစ်သည်။ အသိဉာဏ်မှတ်ကျောက်ပေါ် လုံးဝမတင်ခံရသော အပြောအဆိုဖြစ်ပါသည်။ ၄င်းတို့၏ ပြောဆိုချက်မှာ ဘုရားရှင်ဗုဒ္ဓ၏ မိဘများက ဟိန္ဒူဖြစ်ခဲ့ကြသည်။ ဟိန္ဒူမိသားစုနှင့် ပရဝုဏ်တွင် မွေးဖွားလာ၍ ရှင်ဗုဒ္ဓမှာ ဟိန္ဒူ ဖြစ်သည်ဟု ဆိုကြပါသည်။ ၄င်းတို့၏ ပြောဆိုချက်များက အမှန်စင်စစ် ရေပြင်ကိုတုတ်နှင့် ရိုက်သလို ဖြစ်နေပါသည်၊ လုံးဝအဓိပ္ပါယ်မဲ့၊ အချည်းနှီးဖြစ်သည်။ ၄င်းတို့မှာ သမိုင်းကို မလေ့လာဘဲနှင့် သမိုင်းကို ဆန့်ကျင်၍ပြောဆိုနေပါသည်။ ၄င်းတို့မှာ ဘာရတီယသမိုင်းကို တစ်ခါမျှမလေ့လာသော လူပိန်းများဖြစ်နေကြသည်။ အချေအထင် ချေပပြောဆိုသည်ဟု သျှထရအရ လုံးဝမှတ်ကျောက်တင်မခံနိုင်မည့်စကားများကို ပြောဆိုနေကြခြင်းဖြစ်ပါသည်။ ဗုဒ္ဓမွေးဖွားလာသည့်အချိန်တွင် ဟိန္ဒူဓမ္မမှာ ပေါ်ထွန်းလာခဲ့သည်၊ သိဒ္ဓတ္ထမင်းသား မွေးဖွားလာသည့် အချိန်ကလာတွင် မပေါ်ထွန်းခဲ့ပါ။ ထို့ကြောင့် ရှင်ဗုဒ္ဓကို ဟိန္ဒူဟု ကင်းမွန်းတပ်ပြောဆိုခြင်းသည် လုံးဝမဖြစ်နိုင်။ လူမိုက်တို့ ပြောသည့်စကားပင် ဖြစ်ရမည်။ ဤသို့ဆို့ရခြင်းသည် အဓိပ္ပါယ်မဲ့ လူဗာလတို့ပြောတတ်သည်စကားပင်ဖြစ်သည်။ ရူးသွပ်နေသူများ စကားပင် မှတ်ယူရမည်ဖြစ်သည်။ အသိဉာဏ်ရှိ လူပုဂ္ဂိုလ်များ ဦးနှောက်ထဲမှာ ဤမေးခွန်းပေါ်ထွန်းလာစရာ သူ့သဘောဝအတိုင်းပင် ဖြစ်ရမည်။ ဟိန္ဒူ ဆိုသည့်စကားလုံး ပေါ်ပေါက်လာသည့်အချိန်ကာနှင့် ၄င်းစကားလုံးပေါ်ပေါက်လာရခြင်း၏ နောက်ခံသမိုင်းကို လေ့လာရှာဖွေ့ရန် လိုအပ်လာမှာ အမှန်ပင်ဖြစ်သည်။ ဟိန္ဒူဆိုသည့်စကားလုံးကို ဝေဒ၊ ဥပနိသျှဒ်၊ ဗြာဟ္မဏကျမ်းစာ၊ မဟာဘာရတ၊ ဘဂဝါဂီတနှင့်၊ သမ္မတိကျမ်းစသည်တို့၌လည်း မတွေ့ရပါ။ သင

ဏယဉ်ကျေးမှုမှာလည်း ဤစကားလုံးနှင့် ၄င်း၏အဓိပ္ပါယ်ဖော်ပြမှုကို မတွေ့ရှိရပါ။ ဂျိန်းဘာသာဝင်နှင့် တိပိဋကကဲ့သို့ ဘုရားကျမ်းများ၌လည်း မတွေ့ရပါ။ ဘုရားဗုဒ္ဓနှင့် သူ့အရင်ပေါ်ထွန်းခဲ့သည်။ ဘုရားပြိုင်များဖြစ်ကြသော ပူရဏကဿပ၊ မက္ခလီဂေါသမ၊ အဇိတကေသကမ္ဗလီ၊ ပကုဓကစ္စာယန၊ နိဂဏ္ဌနာဋပုတ္တ(ဘုရားရှင်မဟာဝိရ)နှင့် သဉ္စယဗေလဋ္ဌပုတ္တ စသည်တို့ကလည်း ဟိန္ဒူစကားလုံးနှင့် ဟိန္ဒူမွေဟူသောဖော်ပြချက် မတွေ့ရှိရပါ။ ဟိန္ဒူဆိုသည့်စကားလုံးကို သုံးစွဲထားခြင်းမရှိပါ။ ဆိုလိုရင်းက ဘာရတနိုင်ငံတွင် မွတ်စလင်များရောက်ရှိလာပြီးနောက်ကာလတွင် ဤစကားလုံး ပေါ်ပေါက်လာရခြင်းဖြစ်၍ သုံးစွဲလာခဲ့ကြခြင်းဖြစ်ရသည်။ ဖာရဆီဘာသာတွင် ဟိန္ဒူဆိုသောစကားလုံး၏ အဓိပ္ပါယ်မှန်မှာ အသားမဲသူ၊ သူခိုး၊ လူလိမ်၊ လူညာ၊ ဒါးမြနှင့် ကျွန်ဖြစ်သည့် မွတ်စလင်များက ကဲ့ရဲ့ရှုံ့ချ၍ ဤအမည်နာမယ်ကို ပေးထားခြင်းဖြစ်သည်။ မိမိပြောစကားများကို အောက်တွင် ဥဒါဟရဏ်းတခုနှင့် သက်သေခံတင်ပြပေးပါမည်ဖြစ်သည်။'ဟိန္ဒူဒရမုဟာဝိရေ ဖာရဆီယံဇမာနီ ဒုဇ္ဇဒဝါရဟာ မနဘိအယဒ" ဖာရဆီဘာသာ၏ အဆိုတခုအရ ဟိန္ဒူဆိုသောစကားလုံး၏ အဓိပ္ပါယ်ကို သူခိုး၊ ဒါးမြများကို သုံးသည့်စကားလုံးဖြစ်သည်။ နာမည်ကြီး အဘိဓာန်ပြုဆရာ၏ အဘိဓာန်ကျမ်းတွင် ဟိန္ဒူစကားလုံး၏ အဓိပ္ပါယ်မှန်ကို ဟိန္ဒူစကားနိုတစ်ဦး (An Indian) ယွန် သူငါ (Assurant) ဂုလာ (Slave) ဒါးပြ (Robber) နာစ်တိက (An Lnide) အစောင့် (Watchman) မသုကအပျိုတစ်ဦး၏ပါးပြင်မှ မဲနက်သောအမှတ်အသားဟူ၍ ရေးသားဖော်ပြပေးထားသည်။ အာရ်ယဆမာ၍ကို စတင်တည်ထောင်ပေးခဲ့သူ မဟာရိက္ခိဒသံနန္ဒက သူ့ကိုယ်သူ ဟိန္ဒူမွေ၏ အနုယာယီမဟုတ်ကြောင်း ဝန်ခံပြောဆိုခဲ့ပါသည်။ ဤစကားလုံးကို မဟာရိက္ခိ ကဲ့ရဲ့စွပ်စွဲသည့် စကားလုံးဟူ၍ သတ်မှတ်သည်။ ဟိန္ဒူခေါ်ရမည့်နေရာတွင် သူက "အာရိယာ" ဟူသော စကားလုံးကို သုံးစွဲခဲ့သည်။ အခြားညီအစ်ကိုများကိုလည်း "အာရိယာ" ဟူသော စကားလုံးကို သုံးစွဲသွားကြရန် ဆုံးမသွန်သင်သည်။ အမှန်စင်စစ် "အာရိယာ" ဟူသောစကားလုံးသည် ရှေးဟောင်းကျသည့် ငါတို့ယဉ်ကျေးမှု၏ အမွေအနှစ်ဖြစ်သည်ဟုပြောခဲ့ပါသည်။

တခါက မဟာရိက္ခိကပူးနားမြို့တွင် လူထုပရိသတ်များ ရှေ့မှောက်တွင် ဟိန္ဒူဟူသော စကားလုံးကို သုံးမိခဲ့ရာ ထိုသို့သုံးမိသည်အတွက် ဝန်ချတောင်း



ပန်ခဲ့ဘူးပါသည်။ ဟိန္ဒူဆိုသည်စကားလုံး၏ အဓိပ္ပါယ်ဖွင့်ဆိုချက်ကို ရှင်းပြလျက် ဤသို့ဆိုခဲ့သည်။ ငါတို့က နည်းနည်းမှ စဉ်းစားကြတာ မဟုတ်ဘူး၊ ကိုယ့်ကိုယ်ကို ဟိန္ဒူ လို့ခေါ်တဲ့နေရာမှာ ဂုဏ်ယူကြတယ်။ ငါတို့က ကိုယ့်ကိုယ်ကို အာရိယ လို့ခေါ်ရမယ်၊ ဟိန္ဒူဆိုတာ မွတ်စလင်တွေက ငါတို့ကို ပေးထားတဲ့ နာမည်ဖြစ်တယ်။ သူတို့စကားနဲ့ ရုပ်ထုကိုးကွယ်တဲ့ ကါဖိရ်ရှူးမိုက်အသားမဲ သူခိုးလို့ အဓိပ္ပါယ်ရပါတယ်။ အချို့ချို့သောသူများက ဘာရတနိုင်ငံကို ဟိန္ဒူစတန်ဟူ၍ ခေါ်ဝေါ်ကြသည်။ ဤသို့ခေါ်ရခြင်းသည် လုံးဝမှားယွင်းနေသည်။ မဟာရိက္ခိဒယနန္ဒက ဤသို့ခေါ်ခြင်းကို မကြိုက်မနှစ်သက်ကြခဲ့ပါ။ ငါတို့နိုင်ငံ၏ အမည်နာမမှာ ဟိန္ဒူစတန်ခေါ်ဆိုမည်အစား အာရိယစတန် သို့မဟုတ် အာရိယခန္ဒဖြစ်သင့်ပါသည်။ မကောင်းသော အဓိပ္ပါယ်ထွက်ဆိုသော စကားလုံးကို ဘာကြောင့် သုံးစွဲကြသလဲ? ဟိန္ဒူဆိုတဲ့စကားလုံးရဲ့ အဓိပ္ပါယ်မှန်မှာ သူခိုး၊ ဒါးမြ၊ ဖြစ်တယ်၊ အဲဒီစကားလုံးကို စွန့်ပစ်သင့်ပါတယ်၊ ငါတို့ကဂုဏ်ပျက်ဖြစ်စေနေပါပြီ၊ နာမည်ပျက်တော့ မဖြစ်ကြပါနဲ့ဟု ဆက်လက်ပြောဆိုခဲ့သည်။ အထက်တွင်ဖော်ပြချက်အရ ဟိန္ဒူဆိုသည်စကားလုံးမှာ ဘယ်အချိန်ကဘယ်လို အခြေအနေမျိုးမှာ ရောက်လာပုံက ရှင်းသွားပါပြီ။ ထိုစကားလုံးမှာ မွတ်စလင်ခေတ်မှာ ပေါ်ပေါက်လာခဲ့ရသည်။ ဗုဒ္ဓခေတ်၊ ဗုဒ္ဓကာလမှာ ဤစကားလုံးပေါ်စရာ အကြောင်းစိုးစဉ်မျှမရှိ။ ပြီးတော့ ထိုစကားလုံးကို အခြေခံပြု၍ ရှင်ဗုဒ္ဓ၏ မိတ်များကို ဟိန္ဒူဟုခေါ်ရခြင်းမှာ ကောင်းပါ့မလား? စဉ်းစားစရာပါဘဲ။ ဟိန္ဒူဘာသာဝင်တို့၏ ယင်းအကျင့်သည် ဘယ်သောအခါမျိုး၌ ပြောင်းလာပါမည်နည်း? ယနေ့ခေတ်ကာလမှာ ထိုးစကားလုံးကို သုံးစွဲရာတွင် ကိုယ့်ကိုယ်ကို ဂုဏ်ယူကြစဲ့ပါဘဲ။

### ကိုးကားသည့် စာပေ


(၁)ရဂျနီကန်သျှတ္တရိရေး "ဟိန္ဒူဇာတိ၏ တိုးတက်မှုနှင့်ပျက်သုံးမှု" စာမျက်နှာ

(၃) (၁၉၇၆) အလ္လာဟာဘာဒ်မြို့။

(၂) A comperhensive Persian English Dictionary

(၃)ဥပဒေသမဉ္စရီ–မဟာရိက္ခိဒယါနန္ဒ။

## အခန်း(၂)
## ရှင်ဗုဒ္ဓမှာဝိသနု၏ ကိုယ်ပွါးတော်မဟုတ်

ခေတ်မီသိပ္ပညာရှင်၏ ဘခင်ဖြစ်သူ မစ္စတာဒေကာ(တ်)၏ ပြောဆိုချက်အရ "လူတစ်ယောက်၏ စိတ်ကူးစိတ်ကြံတို့က ရှင်းရှင်းလင်းလင်းဖြစ်ရပါသည်။ **Clear and distinct** ဖြစ်ပြီး ဒွိဟသံသယပွားစရာ မဖြစ်စေရ။ ထိုစကား မျိုးကို ရှင်ဗုဒ္ဓကလွန်ခဲ့သည် နှစ်ပေါင်း၂၅၀၀-ခန့်က သူ့၏ဘိက္ခုများနှင့် ဥပါသကာတို့အား ပြောပြခဲ့ဘူးသည်။ သစ္စာအမှန်ကို မသိမချင်းဆွေးနွေးမှု၊ အပြန်အလှန်ချေပပြောဆိုမှု လုပ်သွားရပါမည်"ဟု မိန်းကြားခဲ့ပါသည် မဟုတ်မမှန်တို့က ဒုက္ခဆင်းရဲနှင့် ကုံရပါသည်။ မဟုတ်မမှန်တို့က ဒွိဟ မသိနားလည်မှုတို့ကို ပွါးစေသည်။ ထိုအခြေအနေမျိုးအောက် လူတို့သည် အမွန်မြတ်ဆုံးဖြစ်သည့် ပရဂျန်း၊ သီလ၊ မေတ္တာ၊ ကရုဏာစသည်တို့က မရရှိခဲ့နိုင်ခဲ့။ ထိုလူသည် လမ်းမှန်ပျောက်ဆုံး၍ ဟိုဟိုသည်သည် လျှောက်သွားရ၏။ ရှင်ဗုဒ္ဓက အကြိမ်ပေါင်းများစွာပြောခဲ့သူမှာ ပရတီရိကိပုတ္တဖြစ်၏၊ သူမှာလည်း မိခင်ဖခင်တို့ ရှိခဲ့ဘူးသည်။ သူသည်လည်းအခြားလူများ မွေးဖွားလာသည့်နည်းတူ မွေးဖွားလာခဲ့ပါသည်။ ရှင်ဗုဒ္ဓက ဟိန္ဒူသူတော်စင်များ နားက မွေးဖွားလိုမွေးဖွား၊ မြေအိုးမှပေါက်လာ၊ ဆင်မ၊ သမင်မဝမ်းထဲမှာ ပေါက်ဖွားလာလို့လာတာမျိုး မဟုတ်ပါဘူး၊ ရှင်ဗုဒ္ဓသည် သဘာဝမကျသည့် မွေးဖွားခြင်းမျိုးကို လက်မခံခဲ့ပါ၊ ဘုရားရှင်ဗုဒ္ဓက မိမိကိုမိမိ (ဣသွာရ) ထာဝရဘုရားသခင်ဟု မဆိုမပြောခဲ့ပါ။ မိမိကိုယ်မိမိ ဝိသနိုး၏ ကိုယ်ပွါးတော်ဖြစ်ကြောင်း မကြေငြာခဲ့ပါ။ သူရှာဖွေခဲ့သည့် ဓမ္မလမ်းစဉ်များကို ဘုရားသခင်က မိန့်ကြားခဲ့သည် ဓမ္မလမ်းစဉ်ဖြစ်ကြောင်းကိုလည်း မပြောဆိုခဲ့၊ သူပြောဆိုခဲ့သည်မှာ ဤတရားလမ်းကြောင်းတို့သည် လူသားများအား ကလျာယဏာပြု၊အကျိုးပြုလမ်းစဉ်ဖြစ်သည်။ ဤလမ်းကြောင်းအတိုင်း ငါကိုယ်တိုင်ကိုယ်ကျ လျှောက်ခဲ့ပြီး သင့်တိုလည်း လျှောက်ကြည့်ကြပါ။ ကေန်အကျိုးဖြစ်လိမ့်မည်ဟု၍သာ ပြောဆိုခဲ့ပါသည်။ ဗြဟ္မဏတို့က အလွန်ပါးနပ်ကြသည်။ လည်းလွန်အားကြီးသည်။ ဘာရတနိုင်ငံတစ်လျှောက် ဗုဒ္ဓအလံလွှင်ထူးနေသည်ကို မြင်တွေ့လာရသည့် အခါမျိုး၌ စိတ်ကူးဉာဏ်သစ်တခုကို ထုတ်ခဲ့ကြသည်။ ရှင်ဗုဒ္ဓမှာ ငါတို့ဘုရားရှင် ဝိသနိုး၏ နဝမ



မြောက်ကိုယ်ပွါးတော်ဖြစ်ကြောင်း ကြေငြာလာခဲ့ကြသည်။ ဘုရားကျောင်းအချို့တို့တွင် ဘုရားရှင်ဗုဒ္ဓ၏ ရုပ်တုကို တည်ထောင်လာ၍ ကိုးကွယ်လာကြခဲ့သည်။ သူတို့က ဗုဒ္ဓဘာသာဝင်များကို လမ်းလွဲအောင် ယွှုလို ပြုနေကြပါသည်။ သူ့တို့စိတ်းကူးယဉ်ဘုရားရှင်သည် ပုရာဏာကျမ်းများအချို့က ပေါက်ဖွားပေးလိုက်သော ဘုရားဖြစ်သည်။ ပုရာဏာကျမ်းများက(၁၈)အုပ်ခန့်ရှိပါသည်။ အံ့ဩစရာကောင်းနေသည့် အချက်တချက်ကတော့ အားလုံးသော ပုရာဏာကျမ်းများက ရှင်ဗုဒ္ဓကို ဝိသနိုး၏ နဝမမြောက်ကိုယ်ပွါးတော်ဟု၍ လက်မခံ၊ အချို့ကျမ်းများကသာ လက်ခံခဲ့ကြသည်။

အချို့ပုရာဏာကျမ်းများက ဒသတေယအား ဝိသနိုး၏ကိုယ်ပွါးတော်ဟု ဆိုကြသည်။ အမှန်စင်စစ် ဗုဒ္ဓဘာသာဝင်တို့ကြားထဲမှာ သံသယပွားအောင်ဆင်ထားသည်လှည့်ကွက် တခုပင့်ဖြစ်သည်။ ဟိန္ဒူဘာသာဝင်တို့၏ ကိုယ်ပွားဘုရားများ လက်ထဲ၌ လေး၊ မြား၊ လှံ၊ သုဒဿနစကြာ၊ တင်းပုတ်စသည့် လက်နက်များကို ကိုင်ထားကြသည်။ ဟိန္ဒူဘာသာဝင်တို့ ထာဝရဘုရား၏ ကိုယ်ပွါးတော်တဆူမှာ နရသီဟဖြစ်ခဲ့ပါသည်။ ထိုနရသီဟမှာ လူတစ်ခြမ်း ခြင်္သေ့တစ်ပိုင်းဖြစ်ခဲ့သည်။ ထိုနရသီဟဘုရားက ဟိရညကသပကို လုပ်ကြံသတ်ဖြတ်ခဲ့ကြောင်းဆိုထားပါသည်။ နောက်ကိုယ်ပွားဘုရားဖြစ်ခဲ့သူ ပရဆုရမ်းက ဤကမ္ဘာမြေပေါ်ရှိ ခတ္တိယအနွယ်ဝင့်တို့အား (၂၁)ကြိမ်တိတိ သတ်ဖြတ်သုတ်သင်ခဲ့ပါကြောင်း ဟိန္ဒူဘာသာဝင်များ ကျမ်းအထွဋ်အမြတ်တို့က ဆိုသည်။ ဟိန္ဒူဘာသာဝင်များ၏ဆု ထာဝရဘုရားဖြစ်သော ဝိသနိုး၏ကိုယ်ပွားတစ်ဦးဖြစ်ခဲ့သော အာယုဒ္ဓယပြည့်ရှင် ဒသရထမင်းကြီး၏သားတော်ဖြစ်သူ ရာမမင်းက သီရိလင်္ကာပြည့်ရှင် ရာဝဏာ၏သားမြေးတို့ကို သတ်ဖြတ်၊သုတ်သင်ခဲ့ဘူးပါသည်။ ၎င်းရာမမင်းက သုံဒရအနွယ်ဝင် သမ္ဗုကအားလည်း သတ်ဖြတ်ခဲ့ပါသည်။ သုံဒရသမ္ဗုက၏ အပြစ်မှာ တမ္ဗအကျင့်ကို ကျင့်ကြံ၍ "သွားရဂ" ခေါ်နိဗ္ဗာန်တက်ဘို့ ကြိုးပမ်းခဲ့သည်။ ဟိန္ဒူဘာသာဝင်တို့၏ နောက်ကိုယ်ပွားဘုရားတစ်ဆူဖြစ်သော သိရိကိဿနာက လှည့်ကွက်တခုဖြင့် ပါဏ္ဍဝမင်းသားများနှင့် ကော်ရဝမင်းသားတို့အကြား 'မဟာဘာရတ' စစ်ပွဲကြီးဖြစ်အောင် အားပေးခဲ့ပါသည်။ ၎င်းစစ်ပွဲ၌ မိမိကိုင်စွဲထားသော သုဒဿနာစကြာဖြင့် သူရဲကောင်းကြီးများကို ကိုယ်တိုင်ကိုယ်ကျ သုတ်သင်ခဲ့ပါသည်။ ထိုနည်းတူ ဟိန္ဒူတို့၏ အခြားကိုယ်ပွားများတို့ကလည်း မိမိတို့ကိုင်စွဲထားသော လက်နက်ကို အချိန်အခါ

အားလျော်စွာ သုံးစွဲပြီး ဝိရောဓိများတို့အား သုတ်သင်ခဲ့ကြောင်း၊ ပုံကထာများဖြင့် ဟိန္ဒူကျမ်းကြီးကျမ်းငယ်တို့က ပြည့်လျှံနေပါသည်။ အနာဂါတ်ကာလတွင် ဝိသနိုးဘုရားသခင်၏ ဒသမမြောက် ကိုယ်ပွားတော်မှာ ကလ္လိကိဟုခေါ်ရပါလိမ့်မည်။ ထိုကလ္လိကိဘုရားသည် ဗုဒ္ဓဘာသာဝင်များကို သတ်ဖြတ်အဆုံးစီရင်တော့မည်ဖြစ်ပါသည်။ ဤသည်ကား ဟိန္ဒူဓမ္မဝင် ဝိသနိုး၏ လုပ်ရပ်များဖြစ်သည်ဟု ၎င်းတို့၏ ဓမ္မကျမ်းများ၌ ရေးသားဖော်ပြထားသည်။ ဝေဒခေတ်နှင့် ဟိန္ဒူဓမ္မစ၍ ဖြစ်ထွန်းလာသည့်ကာလတွင် ဟိန္ဒူဘာသာဝင်တို့က ပထမတန်းစား သေရည်သေရက်သောက်သုံးသူများ၊ မိန်းမလိုက်စားသူများ အတင်းအဓမ္မဗလက်ကာရပြုသူများဖြစ်ကြခဲ့ပါသည်။ ထိုဟိန္ဒူများ စိတ်ကူးခဲ့သမျှ ၎င်းတို့၏ နတ်များ၊ နတ်ကညာများ ကိုယ်ပွားတော်များ(မသန္တနအလေန ဤနခ့ညဆေကန)ဖြင့် လုပ်ငန်းကိုင်ကာ လုပ်တပ်သည်။ ဥပမာ မျက်စိတဖက်ကန်းနေသော လူတစ်ယောက်မှာ အခြားလူတစ်ယောက်ကို စိတ်ကူးမိရင် ထိုလူသည် လူကန်းပင် ဖြစ်နိုင်သည်။ ထိုနည်းပမာ ဝေဒခေတ်နှင့် ဟိန္ဒူယဉ်ကျေးမှုခေတ်တို့၌ ဟိန္ဒူတို့စိတ်ကူး မွေးထုတ်သမျှ နတ်များနတ်သမီးများ နောက်ဆုံးကိုယ်ပွားတော်များတို့တွင် မကောင်းဆိုးဝါးအကျင့်စရိုက်များကို ထည့်သွင်းခဲ့ရပါသည်ဟု ဆိုပါကမမှားနိုင်။ ဘာရတီယသမိုင်းကို လေ့လာကြည့်သော် ဟိန္ဒူများခေတ်တွင် ၎င်းတို့က ဗဘိကျာရီ၊ ဗလက်ကာရပြုကျင့်မှုနှင့် တူနေသောဒေဝီ၊ ဒေဝတာများ၊ ကိုယ်ပွားတော်များကို စိတ်ကူးခဲ့ကြသည်။ အပြုအမူပါဝင်ခဲ့သည်။ ဘုရားရှင်ဗုဒ္ဓ၏ တရားဓမ္မတွင် ဥပဇ္ဈာယ်ခံယူသည့်ကာလ၊ ဘိက္ခု၊ ဘိက္ခုနီတို့က၊ ရှစ်ပါးသီလနှင့် ရိုးရိုး ဥပါသကာ၊ ဥပါသိကာတို့ ငါးပါးသီလကို ခံယူရပါသည်။ ၎င်းသီလတို့မှာ အောက်ပါအတိုင်းဖြစ်သည်။

(၁)အကျွန်ုပ်သည် သက်ရှိသတ္တဝါတို့အား သတ်ဖြတ်ခြင်းကို မပြုလုပ်တော့ပါ။ ကျနော်ဤသီလကို စောင့်ထိန်းသွားမည်ဖြစ်ကြောင်း။

(၂)ကျနော်သည် သူ့တစ်ပါးပစ္စည်းကို မခိုးယူရန် သီလကို စောင့်ထိန်းသွားမည်ဖြစ်ကြောင်း။

(၃)ကျနော်သည် သူ့များသားသမီးများအပေါ် မပြစ်မှားရန် သီလကို စောင့်ထိန်းသွားမည်ဖြစ်ကြောင်း။

(၄)ကျနော်သည် မဟုတ်မတရား (မုသာဝါဒ)ပြောဆိုခြင်းကို ရှောင်ကြဉ်သွားမည်အကြောင်း သီလခံယူရပါကြောင်း။



(၅) ကျနော်သည် သေရည်သေရက်မသောက်သုံးရန် သီလခံယူပါကြောင်း။

(၆) ကျနော်သည် ဝိကာလဘောဇဉ် မစားသုံးရန် သီလခံယူကြောင်း။

(၇) ကျနော်သည် မွေ့ရာမြင့်သော အိပ်ရာပေါ်အိပ်ခြင်းကို ရှောင်းရှားသွားမည် အကြောင်းသီလခံယူပါသည်။

(၈) ကျနော်သည် ပွဲသဘင်များ၊ နံ့သာဆီများ၊ ပန်းမာလာစသည်တို့ကို ကိုယ်တိုင်ကိုယ်ကျ ရှောင်ကြဉ်သွားမည်ဟု သီလခံယူပါကြောင်း၊

ငါးပါးသီလနှင့်ရှစ်ပါးသီလတို့ကို ဗုဒ္ဓဘာသာဝင်တို့က အမြဲခံယူရပါသည်။ ဘုရားရှင်ဗုဒ္ဓက ဓမ္မပဒ၊ သုတ္တနိပါတ်စသည်ကျမ်းများ၌ သူ့အသက်သတ်ခြင်းကို ပိတ်ပင်ဟောကြားထားသည်။ အဟိံသတရားကို ကျင့်ကြံသွားရန် ဆုံးမသွန်သင်ထားသည်။ ဘုရားရှင်က 'ကိုယ်နှင့်အတူအခြား သတ္တဝါတွေက သက်ရှိသတ္တဝါပင်ဖြစ်သည် အခြားသတ္တဝါနှင့် ကိုယ်နှင့်ဘာမှ မခြားနားဘူး' သို့အတွက်ကြောင့် အခြားသတ္တဝါများကို မသတ်ဖြတ်ကြနှင့်ဟူ၍ မိမိကိုယ်ကို လိုက်နာမှုရှိသောသူများအား အမြဲဆုံးမသွန်သင်ခဲ့၏ မိမိကိုယ်တိုင်လည်း မသတ်မဖြတ်နှင့်၊ အခြားသူ့များကိုလည်း မသတ်ခိုင်းပါနှင့်ဟူ၍ ပိတ်ပင်ထားခဲ့ပါသည်။

ဟိန္ဒူဘာသာဝင်များ၏ ဘုရားတိုင်းက အသက်ထက်ဆုံး သတ်ဖြတ်ခြင်းကို အားပေးခဲ့ကြသည်။ အဆွမေဓယက ပူဇော်ပွဲ၊ ဂေါမေဓယာဇ် ပူဇော်ပွဲ၊ နရမေဓ ပူဇော်ပွဲစသည့် ယာဇ်ပူဇော်ပွဲများ လုပ်ခိုင်ခဲ့သည်။ ထိုပူဇော်ပွဲများ၌ မြင်း နွားစသည့် သတ္တဝါများကို အကြီးအကျယ် သတ်ဖြတ်ခဲ့ကြသော ဓလေ့ထုံးတမ်းရှိခဲ့ကြသည်။ ဟိန္ဒူတို့၏ လေးစာကြည်ညို မှုကိုခံယူထားသည့် ဘုရားရှင် သိရိကိရိစ္စနက အဇ္ဈုနမင်းသားအား နာဂပူဇော်ပွဲကို လပ်ခိုင်းခဲ့သည်။ ယင်းပူဇော်ပွဲ၌ ရာထောင်နှင့်ချီ၍ နာဂအမျိုးသား၊ အမျိုးသမီးများကို သတ်ဖြတ်ပူဇော်ခဲ့ကြည်။ ရှင်ဗုဒ္ဓခေတ်တွင် ကောသလပြည့်ရှင်ပသေနဒီကောသလမင်းကို ထိုယာဇ်ပူဇော်ပွဲမျိုးကို ကျင့်ပရန် စိစဉ်ခဲ့သည်။ ရှင်ဗုဒ္ဓမှာ ကောသလမင်းကြီးကို လူသိရှင်ကြား ယင်းပူဇော်ပွဲမျိုးမလုပ်ရန် တားမြစ်ခဲ့ပါသည်။ ထိုအကြောင်းအရာကို အများသိကြသော သမိုင်းခံထားသည့် အကြောင်းအရာတခုဖြစ်ပါသည်။ မဟာဘာရတစစ်ပွဲကြီးတွင် ဘုရားရှင်ကိရိစ္စနာက သိန်းသောင်းနှင့်

မက လူများကိုသတ်ဖြတ်ပြီး အောင်ပွဲခံခဲ့သည်။ ရှင်ဗုဒ္ဓက ရောဟိဏီမြစ်ရေနှင့် ပါတ်သက်လို့ ဖြစ်ပွားမည့်သကျနှင့် ကောလိယလူမျိုးကြား ဖြစ်နိုင်သည့် စစ်ပွဲကို ကြားဝင်ဖြေရှင်းခဲ့ပါသည်။ ဆိုလိုရင်မှာ ရှင်ဗုဒ္ဓ၏ အားလုံးသော တရားဥပဒေသများက လူ့အဖွဲ့အစည်း အချင်းချင်း ချစ်ခင်၊မေတ္တာ၊ ကရုဏာတရားတို့ကို ရှေ့ရှု ထားရန်ဖြစ်ခဲ့ပါကြောင်းနှင့် ဟိန္ဒူဘုရားများနှင့် လုံးဝဆန့်ကျင်ခဲ့သည့် တရားများဖြစ်ကြပါသည်။

ဗြဟ္မဏများက ပါးနပ်မှုကို အသုံးပြုကာ သမိုင်းဝင်မဟာလူသားဗုဒ္ဓ၏ နေရာတွင် ပုရာဏကျမ်းများတွင် ဖော်ပြထားခဲ့သည်။ ဝိသနိုး၏ကိုယ်ပွားတစ်ဦး (စိတ်ကူးသက်သက်ဖြစ်သော)ကို နဝမမြောက်ကိုယ်ပွားအဖြစ် လာရောက်ထူ ထောင်ခဲ့ကြသည်။ ယခုလိုစိတ်ကူးသက်သက်ဖြစ်သော ဝိသနိုး၏ ကိုယ်ပွါးတော် ဟုသမှတ်ရခြင်းမှာ အကြောင်းနှစ်ရပ်ရှိနိုင်သည်။ ပထမအကြောင်းကတော့ ဗုဒ္ဓဘာသာဝင်တို့သည် ၎င်းတို့ကို ရန်သူဟု မထင်မှတ်ရန် ရည်ရွယ်ခဲ့ခြင်း ဖြစ်နိုင်သည်။ ထိုအကြောင်းကို အရင်းခံပြီး ရှင်ဗုဒ္ဓကို ၎င်းတို့၏ ဘုရားရှင်ဝိသနိုး၏ နဝမမြောက်ကိုယ်ပွါးတော်ဖြစ်ကြောင်း ကြေငြာခဲ့ရပါသည်။ ဒုတိယအကြောင်း ရင်းက ဗြာဟ္မဏများက ဗုဒ္ဓဘာသာဝင်တို့ကြားမှာ ဒွိဟသံသယတခုဖြစ် လာအောင် ဖန်တီးပေးကြရန် ရည်ရွယ်ခဲ့ခြင်းဖြစ်ပါသည်။ ယခုဖန်တီးမှုကြောင့် ဗုဒ္ဓဘာသာဝင်များ သမိုင်းဝင်မဟာလူသားဗုဒ္ဓကို ကိုးကွယ်လာကြလိမ့်မည်ဟု ယူဆခဲ့ခြင်းဖြစ်သည်။ သို့သော ဗြဟ္မဏတို့က သူတို့၏ ယင်းကြိုးပမ်းမှုတွင် အောင်မြင်မှု မရရှိခဲ့ပါ။ အဘယ်ကြောင့်ဆိုသော် ကမ္ဘာပေါ်ရှိ ဗုဒ္ဓဘာသာနိုင်ငံ များမှာ ဇင်းမယ်ဗုဒ္ဓဘာသာဝင်တို့က ထိုမဟုတ်မမှန်သောကြေငြာချက်ကို လက်မခံပါ။ အန္ဒိယနိုင်ငံရှိ ဟိန္ဒူအချို့တို့က ထိုအမြင်ကို လက်ခံယူကြသည်။ ထို သို့စိတ်ကူးသက်သက်ဖြစ်နေသော ဝိသနိုး၏ ကိုပွါးတော်ကို လက်ခံကြသူဦး ရေသည် အလွန်အလွန်နည်းပါး၏။ ထိုအမြင်ကိုယူသောသူများမှာ မသိနား မလည်ဉာဏ်ပညာကင်းမဲ့သော သူများဖြစ်၍ အခြားတမျိုးမှာ လူလည်လူ မိုက်များသာဖြစ်ကြပါသည်။

## အခန်း (၃)

အကယ်၍ရှင်ဗုဒ္ဓကဝိသနိုး၏ ကိုယ်ပွါးဖြစ်ကြောင်းမှန်ခဲ့ပါလျှင် ဗြာဟ္မ ဏတို့က ဗုဒ္ဓရုပ်ပွါးတော်များကိုထုခွဲချိုးဖျက်ခြင်း၊ ရုပ်ပွါးတော်များအပေါ် တံ ထွေးထွေးခြင်းတို့ကို အဘယ်ကြောင်းလုပ်ခဲ့ရပါနည်း?။ ဤမေးခွန်းမှာ တရား



နည်းလမ်းကျသော သာမာန်အသိဉာဏ်မှ ပေါ်ပေါက်လာသော မေးခွန်းတရပ် ဖြစ်ပါသည်။ ဟိန္ဒူမြေများကတဖက်တွင် ရှင်ဗုဒ္ဓအား ၎င်းတို့ကိုးကွယ်ပူဇော်သည့် ဝိသနိုး၏ နဝမမြောက်ကိုပွါးဖြစ်သည်ဟု တကယ် သတ်မှတ်ကိုးကွယ်သည်ဆိုပါ က ၎င်းတို့သည် ရှင်ဗုဒ္ဓ၏ ရုပ်ပွားတော်များကို အဘယ်ကြောင့် ထုခွဲချိုးဖျက် ခြင်း၊ တံတွေးနှင့် ထွေးခြင်းစသည့်မလုပ်သင့် မလုပ်ထိုက်သည့် အပြုအကျင့်တို့ကို လုပ်ခဲ့ရပါသနည်း။ ၎င်းတို့၏ ယခုအပြုအမူများက ဗြာဟ္မဏများ တကယ်စိတ်ထဲ ကနေ ရှင်ဗုဒ္ဓကို ကဲ့ရဲ့ကြလို့ဘဲ ဖြစ်ရသည်။ နောက်တမျိုးဖြစ်နိုင်စရာအကြောင်း က ဗုဒ္ဓဘာသာဝင်တို့၏ စိတ်ထဲမှာ ဒွိဟသံသယဖြစ်စေနိုင်အောင် ယခုလို့စော် ကားခြင်းဖြစ်နိုင်သည်။ ကေရာဇ်ဘုရင်မင်းမြတ် အသောက၏ မြည်းတော်သူ ဘိရဟာရထာမင်း၏ သေနပတိဖြစ်သူ ဗြာဟ္မဏအမျိုးသားအနွယ်ဖြစ်သူ ပုဿ ပမိတ္တက ၎င်း၏ အရှင်သခင်ဖြစ်သူမင်းကြီးကို လုပ်ကြံသတ်ဖြတ်ခဲ့ပြီး နန်းတော် ကို သိမ်းဆီထားခဲ့သည်။ ပုဿပမိတ္တမှာ ဗုဒ္ဓဘာသာတို့၏ မဟာရန်သူတစ်ပါး ဖြစ်ခဲ့သည်။ ကေရာဇ်မင်းမြတ်က ၈၄၀၀၀-ဝသုတ္တိတို့ကို အခြေခံပြီး မင်းကြီး နိုးတဝှမ်းတွင် တည်ဆောက်စေခဲ့သော ထူပ၊ ဝိဟာရကျောင်း၊ ကျောက်စာ၊ ကျောက်တိုင်း၊ ရေတွင်၊ ဥယျာဉ်၊ဆေးခန်း၊ ဓမ္မသလာ၊ဇရပ်များတို့ကို သူ့တန်နိုင် သမျှတို့ကိုဖျက်ဆီးပစ်ခဲ့သည်။ မြေမြှုပ်ပစ်သည်။ ထိုထက်မက ဗုဒ္ဓဘာသာဝင် ဘိက္ခုတစ်ပါး၏ ဦးခေါင်းကိုဖြတ်လာရင့် ရွှေအသပြာ ၁၀၀-အထိ ဆုချမည်ဟု ကြေငြာထားသည်။ ထိုကြေငြာချက်ကြောင့် ရာထောင်မကသော ဘိက္ခုသံ ဃာများ ဦးခေါင်းဖြတ်ခံခဲ့ရသည်။ တပြည်လုံးတွင် ဒုတ်အုတ်သဲသဲဖြစ်လာပြီး ဘိက္ခုတို့၏ မိမိအသက်ကို ကာကွယ်နိုင်ရန် လွတ်ရာကျွတ်ရာဖြစ်သော သီရိ လင်္ကာ၊ မြန်မာ၊ နေပါလ်၊ တိဘက်အစရှိသော နိုင်ငံများသို့ ထွက်ပြေးတိမ် ရှောင်ခဲ့ရပါသည်။ အကယ်၍ ရှင်ဗုဒ္ဓက ဟိန္ဒူတို့ကိုးကွယ်သည် ဝိသနိုး၏ နဝမ မြောက်ကိုယ်ပွါးဖြစ်ခဲ့ရင်၊ ဤအဖြစ်အမျိုးကို ကြုံခဲ့ရမည်မဟုတ်။

ယနေ့ခေတ်တွင်မှာလည်း ရှင်ဗုဒ္ဓကလွဲလို ဟိန္ဒူတို့ ကိုးကွယ်ရာဖြစ်ခဲ့ သော ကျန် ၈-ခုသောကိုယ်ပွါးများဖြစ်ကြသည့် ငါး၊ လိပ်၊ ဝက်၊ နရသီဟာ၊ ဝါမန၊ ပသုရာမ၊ ရာမ၊ ကိရိဿနာ၊ အနာဂတ်တွင် ပေါ်ထွန်းလာမည့် ကလလ္လက ဘုရားတို့၏ ရုပ်ထုများဖြင့်ဘုရားကျောင်းများ ထောင်သောင်းနှင့်မက တည် လျှက်ကိုးကွယ်ကြသည်။ ဤမျှတင်မက မိမိသွီးရင်းဖြစ်သူ သုရသတိကို ဖလက် ကာရကျင့်ခဲ့သူဗြဟ္မ၊ လိမ်လည်သူ ဝိသနု၊ သျှိဝတို့၏ ရုပ်ထုများနှင့် ဘုရား

ကျောင်းများကို သူ့ထက်ငါ တည်ဆောက်၍ ကိုးကွယ်ကြသည်။ မျောက်မင်းဖြစ်သူ ဟနုမာန်မျောက်ကို ကိုးကွယ်ကြရုံတင်မက စိတ်ကူးယဉ်ဖြစ်သော နတ်ဘုရားမများ သေလပုတ္တိ၊ ဗြဟ္မစာရိဏီ၊ ခန္ဒပရာဘာ၊ ကုသမ္ဘဒါ ၊ သကံမောတာ၊ ကာတ္တယာယနိ၊ ကါလရာတိ၊ မဟာဂေါ်ရီနှင့်၊ သိဒ္ဓရာတိပမာ ထောင်သောင်းသော နတ်ကညာများကို ရုပ်ထုထု၍ ကျောင်းတည်လျက်ကိုးကွယ်ကြသည်။ သို့သော် ဗြာဟ္မဏဟိန္ဒူတစ်ယောက်က ရှင်ဗုဒ္ဓ၏ ဘုရားကျောင်းတည်ခြင်းကို လုံးဝရှောင်ကြသည်။ ယနေ့ အိန္ဒိယနိုင်ငံတွင် တွေ့ရှိရသော ဗုဒ္ဓဘုရားကျောင်း၊ ဗုဒ္ဓဝိဟာရတို့ကို ဗုဒ္ဓဘာသာဝင်တို့ကသာ တည်ထားကိုကွယ်ကြသည်။ ဘာရတနိုင်ငံအတွင်း ဗြာဟ္မဏများနှင့် မျက်ကန်းဟိန္ဒူများက ရှင်ဗုဒ္ဓကို ဖြစ်သလို သိက္ခာချဂုဏ်ပျက်အောင် အမျိုးမျိုးစော်ကားခဲ့ကြသည်။ ကမ္ဘာကျော် နာလန္ဒဝိဟာရတွင် ရှင်ဗုဒ္ဓ၏ ရုပ်ပွါးတော်က ယွှင်အတိုင်း ယျှအချိန်အထိ အသရေဖျက်လုပ်ရပ်ကို လုပ်နေဆဲပင်ဖြစ်သည်။ ယနေအထိ သမိုင်းဝင်ဗုဒ္ဓ၏ ရုပ်ထုများကို စော်ကါးသည့် လုပ်ရပ်များ လွန်ကျူးလျှက်ရှိကြသည်။ နာလန္ဒတွင် တည်ရှိ ဗုဒ္ဓရုပ်ပွါးတော်ကို ခဲနှင့်ပေါက်သည့် အလေ့အထ ယျှလည်းရှိပါသေးသည်။ ဗုဒ္ဓ၏ရုပ်ထုကို ဘုရားဗုဒ္ဓဟုမခေါ်ဘဲ လူတို့သည် ‘တေလိယာ’ ဘာသာဟုခေါ် ခေါ်ဝေါ်သမုတ်ကြသည်။ ထိုဆီလောင်းပေးသော အလေ့အထသည် ယနေ့ထိ ရှိပါသေးသည်။ ရှင်ဗုဒ္ဓအား ဟိန္ဒူဘုရားဝိသနိုး၏ ကိုယ်ပွါးဟုခေါ်ကြသော ဟိန္ဒူများက ဤကိစ္စကို ဘာဖြစ်လို့ ယနေ့အထိ မစဉ်းစားကြပါသလဲ? ထိုရုပ်ထုကို ယနေ့အထိ ရှင်ဗုဒ္ဓဟု မသတ်မှတ်ဘဲ “ခဲပစ်ခံ” ဘာသာဟုခေါ်ကြပါသည်။ ဗြဟ္မဏများ ဤနေမြေတစ်ဝှမ်း မှားယွင်းသော ခံယူမှုမျိုးကို လူထုကြား ဖြန့်ဝေထားသည်၊ မျက်စိမှိတ်၍ ထိုရုပ်တုကို ခဲဖြင့်မပစ်ပါက၊ တစုံတခုသော မကောင်းဆိုးဝါး၊ ကံကြမ္မာဆိုးနှင့်ကြုံတွေ့နိုင်ပါကြောင်း ဝါဒဖြန့်ထားသည်။ သို့ဖြစ်ပါ၍ နှစ်ပေါင်းရာနှင့်ချီ၍ ကစပြီး မသိနားမလည်းသော ဟိန္ဒူအရှုးတို့သည် ယင်းရုပ်ထုကို မြေခဲနှင့်ပစ်၍ အသရေပျက်အောင် လုပ်ကြသည်။ ထိုသမိုင်းဝင် ရုပ်ထုတော်ကို ‘မြေခဲ’ ဘာသာနှင့်၊ “တေလိယာ” ဘာသာဟု ခေါ်ဆိုသမုတ်ကြသည်။ ကံကြမ္မာဆိုးနှင့် မကြုံကြရန် လူမိုက်ဟိန္ဒူများ စနေဂြိုဟ်ပုံကို ဆီလောင်းပေးသလို ရှင်ဗုဒ္ဓ၏ ယင်းရုပ်ထုကို ဆီတို့ဖြင့်လောင်းပေးသည့် ဓလေ့ထုံးစံ ယျှလည်း ရှင်သန်ဆဲပင်ဖြစ်သည်။ ရှင်ဗုဒ္ဓ၏ ထောင်သောင်းမကသော ရုပ်ထုတော်များ ရေတွင်း၊ ရေကန်တွင် ပစ်ထားခံခဲ့ရပါသည်။ အချို့သော တန်းဘိုးမဖြတ်နိုင်သော ရုပ်ထုများ မြေမြှုပ်ခံခဲ့ရပါသည်။ ထိုမြေကွက်များကို တူးဖေါ်လို့ရရှိသော ဗုဒ္ဓရုပ်ထုတော်များက ရာထောင်ဂဏန်းနှင့်ရှိပါသည်။ အကယ်၍ ရှင်ဗုဒ္ဓကို ဟိန္ဒူများကိုးကွယ်ထားသည့် ဝိသနိုး၏ ကိုယ်ပွါးတစ်ဆူအဖြစ် သတ်မှတ်ကိုးကွယ်သည်ဆိုပါက ဟိန္ဒူတို့သည် ယင်းရုပ်ပျက်ဆင်းပျက်ဖြစ်စေသည့် လုပ်ရင့်မျိုး ဘယ်အခါမှ ကျူးလွန်ကြပါမည်မဟုတ်။ ထိုရုပ်ထုများကို ရှိခိုးပူဇော်ကြမည်သာဖြစ်သည်။ ကမ္ဘာတစ်ဝှမ်းလုံးရှိ ဗုဒ္ဓဘာသာဝင်တို့မှာ ဗောဓိညောင်ပင်ကို ရှိခိုးပူဇော်ကြ၏၊ ရှင်ဗုဒ္ဓထိုင်ခဲ့ပြီး တပ္ပအကျင့်ကို ကျင့်ခဲ့သည်။ “ဝဇ္ဇရအာသန” ကို ဆည်းကပ်သလို၊ ဟိန္ဒူများကလည်း သန့်စင်မွန်မြတ်သည့်အရာကို ရှိခိုးဆည်းကပ်ကြလိမ့်မည်ဖြစ်ပါသည်။ အဘယ် ဟိန္ဒူတယောက်ကမျှ ထိုသို့ရှိခိုးဆည်းကပ်ခြင်းမရှိ။ သို့သော် ရှင်ဗုဒ္ဓကို မနာလိုသော ဗြာဟ္မဏတို့က ဗော်ဓိညောင်ပင်ကို အမြစ်ကနေ တူးဖေါ်ဖျောက်ပစ်ရန် လုပ်ခဲ့ကြပါသည်။ ဗော်ဓိညောင်ကိုင်းများကို ခုတ်လှဲခဲ့ကြသည်။ ဧကရာဇ်ဘုရင်မင်းမြတ် အသောက တည်ထောင်ခဲ့သည့် မဟာဝိဟာရကျောင်းတွင်လည်း ခွဲပစ်၊ ချိုးဖျက်ပစ် လုပ်ရပ်များကို လုပ်ခဲ့ကြသည်။ မဟာဗော်ဓိစေတီတော်ကို မြေဖို့ခဲ့ကြသည်။ ထိုခေတ်ထိုအချိန်ကါလတွင် မထုရာမြို့မှာ ဗုဒ္ဓဓမ္မနှင့်ဗုဒ္ဓယဉ်ကျေးမှု ထွန်းကားခဲ့သော အချက်အချာနေရာဖြစ်ခဲ့သည်၊ တရုပ်ခရီးသည် ဟူအင်ရှန်၏ ရေးသား ဖော်ပြချက်အရ၊ ယမုနာမြစ်ကမ်းပါးဒေသတို့တွင် ရာနှင့်ချီ၍ စေတီပုထိုးများတည်ဆောက်ထားခဲ့သည်။



သို့သော် ဗြာဟ္မဏတို့က ယင်းစေတီပုထိုးများကို ခွဲပစ်ချိုးပစ်ခဲ့ကြသည်။ ယင်းစေတီပုထိုးများရှိ ဗုဒ္ဓရုပ်တုတော်များကို ရေတွင်း၊ ရေကန်တို့ထဲသို့ ပစ်လိုပစ်၊ မြေမြှုပ်ခဲ့ကြခဲ့သည်။ ယနေ့တိုင်း ထိုယမုနာမြစ်ကမ်းပါးတလျောက် မြေများ၊ ဂမုံများကို တူးဖေါ်ရာတွင် ခေတ်ဟောင်းက ဗုဒ္ဓရုပ်တုများကို တွေ့ရှိရပါသည်။ ၎င်းရရှိထားသော ရုပ်ထုတော်များကို မထုရာမြို့၏ သမိုင်းဝင်ပြတိုက်တွင် သိမ်းဆည်းပြသထားသည်။ ဆိုလိုရင်းအချုပ်က အကယ်၍ ရှင်ဗုဒ္ဓမှာ ဟိန္ဒူဘုရား ဖြစ်သော ဝိသနိုး၏ နဝမမြောက်ကိုပွါးဖြစ်ခဲ့လျှင် အထက်နေရာတွင် ဖော်ပြထားသည့် အခြေအနေမျိုးနှင့် ဘယ်သောအခါမှ မကြုံခဲ့ရပါဘူး။ ထိုရုပ်တုတော်များကို ရေတွင်းရေကန်ထဲ မပစ်ဘဲနှင့် တရိုတသေရှိခိုးပူဇော်ကြမည်ဖြစ်ပါသည်။ ဘာရတနိုင်ငံတစ်ဝှမ်းတွင် ဟိန္ဒူဘုရားဖြစ်ကြသော ဝိသနိုး၊ သျှိဝ၊ ရာမ၊ ကိရိဿနာစသည်ကိုယ်ပွါးတော်များအပြင် ဟနုမာန်၊ ဘဲရဝ်၊ မနေဒေဝ၊ စသည်တို့၏ မန္ဒိရဘုရားကျောင်း သိန်းသောင်းနှင့်ချီ၍ တည်ထောင်ထားသည်၊

တည်ဆဲလည်းဖြစ်ပါသည်။ ယင်းဘုရားကျောင်းများကို တည်ဆောက်ရာတွင် သူဌေးသူကြွယ်များအပြင် ပြည်နယ်အဆင့်ရှိ အစိုးရအမှုထမ်းတို့လည်း ပါဝင်ခဲ့ကြပါသည်။ သို့သောလည်း ယင်းဟိန္ဒူဘာသာဝင်ဖြစ်ကြသော သူဌေးသူကြွယ်များက တည်ဆောက်သွားသော ဗုဒ္ဓဘုရားကျောင်း တကျောင်းမှာ ပါဝင်ခြင်းမရှိခဲ့ပါ။ ဟိန္ဒူမန္ဒိရကျောင်း၌ ဗုဒ္ဓရုပ်ထုကိုလည်းထား၍ ကိုးကွယ်ခြင်းမရှိခဲ့ပါ။ ဒေလီမြို့ ဘိရလာမန္ဒိရ်နှင့် 'ဆန်တို ဆီမာတာ'တို့ ဘုရားကျောင်းများ တည်ထားသည်။

မန္ဒိရ်ပြင်ပမှာ ရှင်ဗုဒ္ဓ၏ ရုပ်ထုတခုကိုစီ တည်ပေးထားသည့်ကို တွေ့ရပါသည်။ ဒေလီမြို့ရှိ ပိစ္စိမာပူရီ ဗုဒ္ဓဘုရားကျောင်းကဲ့သို့ ဗုဒ္ဓကျောင်းများက ဗုဒ္ဓဘာသာဝင်တို့က တည်ထောင်သော ဘုရားကျောင်းဟု ခွဲခြား သိမြင်ရန် လိုအပ်ပါသည်။ ဘိရလာမန္ဒိရ်ဘုရားကျောင်း၏ဘေးတွင်ဗုဒ္ဓဝိဟာရကျောင်းတစ်ကျောင်း တည်ပေးထားသည်။ ထိုကျောင်းဝင်းတွင် တခါတုန်းက ဂျူဂလ်ကီးဂိလိရလာနှင့် ဒေါက်တာအမ္ဗေဒကာတို့ ရောက်ရှိလာခဲ့ကြသည်။ ကံ့အားလျော်စွာ စာရေးသူမှာလည်း ဘေးတွင်ပါရှိခဲ့သည်။ သူဌေးကြီးဂျူဂလ်ကီးဂဘိရလာက ဤသို့ပြောခဲ့သည် "ကြည့်ပါ ဘာရတနိုင်ငံမှာ အမွန်းမြတ်ဆုံးဖြစ်ခဲ့သော မဟာပုရိသကို ရည်စူး၍ ကျနော် ဤဘုရားကျောင်းကို တည်ပေးထားသည်။"

ထိုစကားကိုကြားရသော ကျနော်မှာ ဒေါက်တာအမ္ဗေဒကာက သူဌေးကြီးအား ကျေးဇူးတင်စကားများ ပြောလိမ့်မည်ဟု ထင်ခဲ့ပါသည်။ သို့သော် ဒေါက်တာက ချက်ချင်းပင် ပြန်ပြောလိုက်သည်မှာ ဘာရတနိုင်ငံမှာ မွေးဖွားခဲ့သူ အမွန်မြတ်ဆုံးပုဂ္ဂိုလ်အတွက် ဤအခန်းကျဉ်းကျဉ်းကို တည်ဆောက်ပေးခြင်းအတွက် ဂုဏ်မယူပါနှင့်တော့ စိတ်ကူးသက်သက်ဖြစ်သော ဘုရားများအတွက် ခန့်ခန့်ထည်ထည် ဆောက်ထားသည်ကိုဘဲ ဂုဏ်ယူပါတော့ဟု ပြန်ပြောလိုက်သည်။ ကျနော် တော်တော်များများ အံ့အားသင့်သွားခဲ့လေသည်။ ကံအားလျော်စွာ အတူတူရှိနေသော ဘဒ္ဒန္တအနန္ဒကောသလာယနလည်း အဆင့်သင့်ရှိနေလို့ အမြင်မှန်ရသွားခဲ့လေသည်။ ထိုအချိန်ကာလက ဘဒ္ဒန္တအနန္ဒကောသလာယနက "အကယ်၍ ဘာမှရှိခဲ့သော စာအုပ်ကို ရေးသားပြုစုနေသည့် အချိန်ဖြစ်ခဲ့၏ ဤအကြောင်းများကို ထောက်ရှုသော ရှင်ဗုဒ္ဓသည် ဟိန္ဒူတို့၏ စိတ်ကူးယဉ်ဘုရားဖြစ်သော ဝိသနိုး၏ ကိုယ်ပွါးမဖြစ်ကြောင်း ရှင်းပါသည်။ အကယ်၍



ရှင်ဗုဒ္ဓက ဝိသနိုး၏ ကိုယ်ပွါးဖြစ်ခဲ့လျှင် ဟိန္ဒူတို့၏ အခြားဘုရားဖြစ်သော သိရိကိရိဇ္ဇနာလိုဘဲ မိမိကိုဣသွာရ (ထာဝရ) ဘုရားသခင်လို့ ဖြေပြကြေငြာသွားမှာဖြစ်သည်။ ပြီးတော့ ဟိန္ဒူဘုရားဖြစ်ကြသည့် ဗြဟ္မာ၊ ဝိသနိုး၊ သျှိဝ၊ ရာမ၊ ကိရိဇ္ဇနာလို သူတို့နာမည်နှင့် ဘုရားကျောင်း သောင်းသိန်းကုဋေနှင့် ချီပြီး တည်ဆောက်ကိုးကွယ်ကြမှာဖြစ်သည်။ တထာဂတ၏ ရုပ်ထုများကို ချေဖျက်မှာမဟုတ်ပါ။

## အခန်း (၄ )
## ဗုဒ္ဓဓမ္မသည် ဟိန္ဒူဓမ္မ၏ ဂိုဏ်းမဟုတ်

လူအချို့တို့သည် မသိနားမလည် အဝိဇ္ဇာဖုံး၍ လူမိုက်စကားဖြစ်သော ဗုဒ္ဓဓမ္မမှာ ဟိန္ဒူဓမ္မ၏ ဂိုဏ်းတခုဖြစ်ပါကြောင်း ပြောဆိုကြသည်။ ယွှလို အရူးစကားပြောသူ၊ ဆိုသူတို့က ဗုဒ္ဓဓမ္မသည် ဘာရတနိုင်ငံမှ ပေါ်ထွန်းလာခဲ့သော တရားဓမ္မတခုဖြစ်ပါ၍ ဤဓမ္မသည် ဟိန္ဒူဓမ္မ၏ ဂိုဏ်းတခုပင်ဖြစ်ရပါသည်။ အခြေအမြစ်မရှိသော ထိုစကားပြောသူများ၏ စကားများ လုံးဝမှားယွင်းနေသည်။ မုသာဝါဒ သက်သက်ဖြစ်ပါသည်။ လယ်ကွင်းတခုတည်းမှာ သူ့သဘာဝဗီဇအရ အပင်အမျိုးမျိုး ပေါက်ရောက်သည်ဆိုသည့် ရိုးရိုးသိသင့်သိထိုက်သော ဝိဇ္ဇာဉာဏ်ဖြစ်သည်။ ဆေးပင်၊ ဝါးပင်၊ ဘိန်းပင်စသည့် အပင်များပေါက်နေသော လယ်ကွင်းတခုတည်း၌ စပါး၊ ဂျုံ၊ ကုလားပဲစသည့်စားပင်သီးပင်များလည်း ပေါက်တတ်သည်ကိုမျှ မသိကြဘူးလား?၊ အဲဒီလို လူ့သားများကို ဘာပြောရမှာလဲ? လူမိုက်လူညံ့ မသိနားမလည်သူ အဝိဇ္ဇာဖုံးလွှမ်းနေသူများဟုပင် ဆိုရပေမည်။ သူ့သာဘာဝအလျောက်နှင့် ဆီစသည်ပန်းများလည်း ပွင့်နိုင်သည်။

သရက်ပင်တပင်ပေါ်မှာ ကိုင်းကူး၍ အခြားသရက်ပင်အမျိုးအစားကို ပွားယူလို့ရပါသည်။ သရက်ပင်ပေါ် အမျိုးအစားမတူသည့် ညောင်တမာနှင့် ဆီစသည်များကို ကိုင်ကူးလို့မရနိုင်၊ သရက်ပင်တပင်ပေါ်မှာ အခြားသရက်ကိုင်းကူးလို့ ဖြစ်နိုင်သည်။ ထိုနည်းတူစွာ ဗုဒ္ဓဓမ္မသည် ဟိန္ဒူဓမ္မနှင့် ခြားနားနေသော

ဓမ္မဖြစ်သည်။ အစေ့ကသရက်ပင်နှင့် ပမာတူသည်။ ဗုဒ္ဓဓမ္မသည်လည်း ၎င်းတူ ဟိန္ဒူဓမ္မ၏ ဂိုဏ်းတခုမဖြစ်နိုင် သရက်ပင်တပင်၏ အားလုံးသော ဂိုဏ်းပေါ်မှာ သရက်ဘဲ သီးရသလို အခြားအသီးများဖြစ်ကြသည့် သဖန်သီး၊ ပိန္နဲသီးများ မသီးနိုင်။

ဗုဒ္ဓဓမ္မနှင့် ဟိန္ဒူဓမ္မတို့ အချင်းချင်း အတွေ့အခေါ်၊ ဒဿနအမြစ်၊ ဘာသာရေး၊ လူမှုရေး၊ နိုင်ငံရေး၊ သိက္ခာဆိုင်ရာများ ခြားနားနေပါသဖြင့် ဘယ်နည်းနှင့်မှာ မတူနိုင်၊ တခုတည်းထဲက ပေါက်မဖွားနိုင်။ ဗုဒ္ဓဓမ္မသည် ကြီးမားသော ပျဉ်ညောင်ပင်ကြီးတပင်နှင့်တူသည် ကြီးမားလှသည်။ ပျဉ်ညောင်ပင်ကြီး အခြားအပင်များဖြစ်သော တမာ၊ သဖန်းစသည့်တို့၏ ဂိုဏ်းမဖြစ်နိုင်ဘူး၊ ပျဉ်ညောင်ပင်ကြီးနှင့်တူသော ဗုဒ္ဓဓမ္မသည် သူဟာနှင့်သူ ဂိုဏ်းဂဏများရှိကြပါ၏။ ထိုဂိုဏ်းများအကြောင်းကို ဤနေရာ၌ ဖော်ပြပေးမည်။ အသိဉာဏ်ရှိသော လေ့လာသူများ လွယ်လင့်တကူ နားလည်သဘောပေါက်ကြရန် ဖြစ်သည်။ စူဠဝဂ္ဂသမ္မတိကာကျမ်းကြီးကို လေ့လာကြည့်လျှင် တွေ့ရှိနိုင်ပါသည်။ ဘုရားရှင် ပရိနိဗ္ဗာန်ပြုပြီး အနှစ် (၁၀၀) ကြာလာသောအခါ ဘိက္ခုသံဃာသည် ဂိုဏ်းကြီး နှစ်ဂိုဏ်းကွဲခဲ့သည်။ ရှင်ဗုဒ္ဓ၏ မူရင်းပြောသည့်စကားမှာ သိက္ခာများကို မူရင်းအတိုင်း လိုက်နာသူများနှင့် ဝိနယ(စည်းကမ်းစည်းမျဉ်း)တို့ကို အနည်းငယ်ပြောင်း၍ လက်ခံလာသူများဆိုပြီး နှစ်ဂိုဏ်းကွဲလာခဲ့ပါသည်။ မူရင်းကို သူ့မူရင်းအတိုင်း လက်ခံကျင့်ကြသူများအား ထေရဝါဒီဟုခေါ်၍ အခြားတခုကို မဟာသံဃိကဝါဒီဟု ခေါ်ခဲ့ပါသည်။ တမျိုးပြောရလျှင် ရှေးဟောင်းမူရင်းကို မူရင်းအတိုင်း လိုက်နာကျင့်ကြံသူများအား ဟိနယာနခေါ်၍ ဝိနယစသည်ကို ပြောင်း၍ လက်ခံယုံကြည်လိုက်နာကျင့်သုံးသော ဘိက္ခုဂိုဏ်းကို မဟာယာနဟူ၍ ခေါ်ဝေါ်သမုတ်ကြပါသည်။ ရှင်တော်ဗုဒ္ဓ ပရိနိဗ္ဗာန်ပြုပြီး အနှစ်(၂၀၀) ကြာလာသောအခါ ဇေရာဗ်မင်းမြတ် အာသောကလက်ထက်ကာလ ဟိနာယနနှင့် မဟာယာနတို့၏ သဘောထား တဖန်ကွဲလာပြန်၍ ဗုဒ္ဓဓမ္မသည် (၁၈) ဂိုဏ်း နိကာယ်ကွဲလာခဲ့ကြပါသည်။

**ကထာဝတ္ထုကျမ်းမြတ်၌ ထိုဂိုဏ်းဂဏများကို အောက်ပါအတိုင်း ရေးသားဖော်ပြပေးခဲ့သည်။**

၁။ ထေရဝါဒီ (ဟိနယာန)
၂။ ဝဇ္ဇီပုတ္တက
၃။ ဓမ္မောစာရိယ
၄။ ဘဒ္ဒရပါဏိက
၅။ ဆန္နာဂရိက
၆။ သမ္မိတိယ
၇။ မဟိံသက
၈။ ဓမ္မဂုတ္တိပ
၉။ သမ္မသိဝါဒီ
၁၀။ ကဿပိယ
၁၁။ သုတ္တံဝါဒီ
၁၂။ သံကန္တိ
၁၃။ မဟာမဟာယာန
၁၄။ ဂိုကုလိက (ဝါတ္တတိပုတ္တိယ)
၁၅။ ပရဂျတပ်
၁၆။ စေတ္တယဝါဒီ

ဘဒ္ဒန္တဝသုမိတ္တပြုစုခဲ့သည့် အဌာရသနိကါယ် တရုပ်ဘာသာပြန် ကျမ်းတွင် ဆယ်ရှစ်ခုသော ဂိုဏ်းဂဏကို ဤသို့ပြထားသည်။

ဗုဒ္ဓဓမ္မ။ ဂိုကုလိက၊

၁။ ထေရဝါဒီ
၂။ ထေဟာမဝတ
၃။ ဝါတ္တိပုတ္တယ
၄။ ဓမ္မောစာရိယ
၅။ ဘဒ္ဒယာဏိယ
၆။ တမ္မိတိယ
၇။ ခဏ္ဍာဂရိတ
၈။ သဗ္ဗာတ္တိတဝါဒီ
၉။ မဟိံသသက

၁၀။ဓမ္မဂုတ္တ
၁၁။ ကါသ္သပီယ
၁၂။ ဆော်သ္တန္တာရိက
၁၃။ မဟာသံဃိက
၁၄။ သိစိလှုန်
၁၅။ စေတ္တီယ
၁၆။ လေကာတ္တရဝါဒီ
၁၇။ ဧကဗျောဟာရိက

ဂိုဏ်း(၁၈၀)ခုအထိ ကွဲပြားသွားသော်လည်း ရှင်ဗုဒ္ဓ၏ မူလစကားများသည် သူ့မူရင်းအတိုင်း ယထာဝတတည်ရှိခဲ့ပါ။ ဥပမာအားဖြင့် ရတနာသုံးပါးကို ခိုကိုးခြင်း၊ ပဉ္စသီလ၊ ရှစ်ပါး၊ သီလ၊ မဂ္ဂင်ရှစ်ပါး၊ အရိယာသစ္စာ(၄)ပါး၊ အနိစ္စဝါဒ၊ အနတ္တဝါဒ၊ အနိစ္စာရ်ဝါဒ၊ သီလ၊ သမာဓိ၊ ပညာဂုဏ်း၊ တန်ဘူးရေးအမြင်ဝါဒတို့ ဂိုဏ်း(၁၈)ခုတို့အနက် တန်းတူညီမျှသည့်အဖြစ် တွေ့ရှိရပါသည်။ ရှင်ဗုဒ္ဓ၏ အမြင့်ဆုံးသွန်သင်ခြင်းမှာ ဒုက္ခအပေါင်းတို့မှ လွတ်ကင်းခြင်းနှင့် နိဗ္ဗာန်ကို မျက်မှောက်ပြုခြင်းတို့ဖြစ်ကြသည်။ သေးငယ်သည့် ပြဿနာအချို့တို့က လွဲ၍ ကာလ၊ ဒေသ၊ ပယောဂတို့ကြောင့် ဤဂိုဏ်းဂဏများ ပေါ်ပေါက်လာခဲ့သည်ဟု ဆိုပါက မမှားနိုင်။ သို့သော် ဂိုဏ်းဂဏအားလုံး၏ အချက်အချာကျသော သဘောတရားမှာ တခုတည်းပင်ဖြစ်နေရပါသည်။ ထိုအချက်အချာကျသော သဘောတရားမှာ ‘ဗုဒ္ဓနှင့်သူ၏ဓမ္မ’ ပင်ဖြစ်သည်။ သာမန်အားဖြင့် ဟိန္ဒူတို့ လေးစားကြည်ညိုသည့် ဘာသာတရားကို ဟိန္ဒူဘာသာဟု ခေါ်ကြသည်။ ဟိန္ဒူဘာသာဝင်တို့ ကိုးကွယ်မှုကို ယေဘုယျအားဖြင့် နှစ်မျိုးနှစ်စား ခွဲဝေကြည့်မြင်နိုင်သည်။ ပထမတမျိုးကို ဝေဒဓမ္မ ယင်းဓမ္မကို မဟာရိက္ခိဒယာနန္ဒက ပြန်လည်သန့်စင် အစိပ္ပါယ်ဖွင့်ဆိုပြီးနောက် ‘အာရိယဆမဂ္ဂ’ ဟု အမည်တွင် ခေါ်ဝေါ်လာခဲ့ကြသည်မှာ ဝေဒဓမ္မဖြစ်သည်။ နောက်တမျိုးမှာ “သနာတနဓမ္မ” ရှေးရိုးစွဲဝါဒီ ဟုခေါ်ပါသည်။ ဝေဒဓမ္မကို လိုက်နာမှုရှိကြသော သူတို့သည် ဤဓမ္မ၏ မူလဖြစ်သော ဝေဒကျမ်းများ ဥပနိသျှဒ်ကျမ်းများနှင့် မနုသမ္ပတ္တိကျမ်းတို့ကို လိုက်နာမှုရှိကြသည်။ ‘သနာတနဓမ္မ’ ကို လိုက်နာမှုရှိကြသော သူတို့မှာ၊ ပုရာဏကျမ်းများ ရာမစရိတ္တမနသကျမ်း၊ ဘဂဝပ်ဂီသာကျမ်းတို့ကို လိုက်နာမှုရှိကြသည်။ ယနေ့ယျွဆိုပါလျှင် “သနာတနဓမ္မ”မှာ ဟိန္ဒူဓမ္မဖြစ်နေပါသည်။ အမှန်တိုင်းပြောရမည်ဆိုပါက ဟိန္ဒူဓမ္မသည် ဂိုဏ်းဂဏပေါင်း ရာထောင်နှင့်မက



ရှိနေသည်။ ဤရာထောင်ရှိနေသော ဂိုဏ်းဂဏများအနက် အချို့သော ဝိသေသလက္ခဏာရှိကြောင်း တွေ့ရှိနိုင်ပါသည်။ ဤဂိုဏ်းဂဏများ အားလုံးနီးပါက လောကကြီးတွင် အရေးပါသော ဒေဝတာ(နတ်)သုံးပါးရှိကြောင်းကို လက်ခံကြ၏။ ထိုဒေဝတာတို့က ဗြဟ္မာ၊ ဝိသနိုးနှင့် မဟေ(စ်)တို့ဖြစ်ကြပါသည်။ ဗြဟ္မာမှာ လောကကြီးကို ဖန်ဆင်းပြီး၊ ဝိသနိုးမှာ ကျွေးမွေးစောင့်ရှောက်ရ၍ မဟေ(စ်) ခေါ်သျှိဝမှာ လောကကြီးကို ဖျက်စီးပျက်စေရာ အလုပ်တာဝန်များကို အသီးသီးတာဝန် ခွဲဝေယူရပါသည်။

ပထမမျိုးစားဖြစ်သော်ဝေဒဓမ္မကို လိုက်နာမရှိသော ဟိန္ဒူများသည် ဝေဒကျမ်းတို့၏ ဆုံးမသွန်းသင်ခြင် များဖြစ်သော ကမ္မကါဒ္ဒ၊ ယဇ်ပူဇော်ပွဲစသည်တို့ကို လက်ခံကြည်ကြ၍ ဘဝရှင်သန်ရပ်တည်မှုကိုလုပ်ကြသည်။ ဝေဒဓမ္မကို လိုက်နာသူများက ဗြဟ္မဝါဒ ဣသွာရဝါဒ၊ အတ္တမဝါဒနှင့် ဖန်းဆင်းရှင်ဝါဒကို ယုံကြည် လက်ခံကြသူများဖြစ်ပါသည်။ လောကကြီးမှာ မကောင်းမှုတို့က များပြားလာပြီး ကောင်းမှုများ ပျောက်ကင်းသွားသည်ဖြစ်၍ ပါပကံတို့က အုပ်ဆိုင်းသည့်အခါတိုင်းမှာ ဘုရားရှင် ဝိသနိုးက သူတော်စင်သူမြတ်တို့ကို ကယ်တင်စောင့်ရှောက်သည်အလို့ငှါ ဤကမ္ဘာလောကကြီးတွင် ပေါ်ထွန်းရပါသည်ဟု၍ ဟိန္ဒူဓမ္မကယုံကြည်လက်ခံသည်။ ဘုရားရှင်ဝိသနိုးက ကိုယ်ပွါးအနေဖြင့် မွေးဖွားပေါ်ထွန်းရသည်။ ဟိန္ဒူကျမ်းဖြစ်သော ပုရာဏကျမ်း အားလုံးကယ္ဘုသဘောတရားကို တစ်သမတ်တည်းလက်မခံ၊ သဘောထားကွဲလွဲမှုရှိ ကြပါသည်။ ပုရာဏကျမ်းအချို့တို့က ကိုယ်ပွားတော်များ (၁၀)ပါးရှိကြောင်း လက်ခံသည်။ အချို့ကမူကိုယ်ပွါးများ (၂၀) ရှိကြောင်းရေးသားဖော်ပြပေးသည်။ ကိုယ်ပွါး(၁၀) ခု ရှိကြောင်းလက်ခံယုံကြည်ကြသော ဟိန္ဒူများက ဘုရားရှင်ဝိသနိုး၏ ကိုယ်ပွါးတော်များကို အဆင့်လိုက်သတ်မှတ်ဖော်ပြသည်မှာ ငါး၊ လိပ်၊ ဝက်၊ နရသီဟ ကိုယ်တဝက်ကလူဖြစ်ပြီး ကျန်တဝက်က သီဟခြင်္သေ့ဖြစ်ကြောင်း ဝါမနာ ပရဆူရာမ၊ ရာမကိရိစ္စနာနှင့် ဗုဒ္ဓတို့ဖြစ်ကြသည်။ ဒသမမြောက်ပေါ်ထွန်းမည့်ဘုရားမှာ ကလ္လိကဖြစ်သည်။ အချိန်တန်လာသည်အခါ ပေါ်ထွန်းလာပါမည်ဟု ယုံကြည်လက်ခံကြပါသည်။ ဟိန္ဒူများ၏ ဘုရားရှင်များ ဖြစ်ကြသော ပဆူရမ်း၊ ရာမ၊ ကိရိစ္စနာ သျှိဝစသည်တို့က ကိုယ်စီကိုယ်စီ၊ ဒါးကောက်ရှည်၊ လေးမြား၊ စကြာ၊ လှံစသည် လက်နက်များကို ကိုင်ဆောင်သည်။ ယင်းလက်နက်

များကို ၎င်းတို့၏ ဝိရောဓိများကို သုတ်သင်ပစ်ရန် သုံးစွဲခဲ့ကြသည်။ နောက်တမျိုးပြောရလျှင် ၎င်းတို့မှာ သူသတ်သမားများ ဖြစ်ကြသည်ဟု ဆိုရပေမည်။

ဟိန္ဒူဓမ္မရှိ ဂိုဏ်းဂဏအားလုံးတို့က ရုပ်ထုကိုးကွယ်သူများ ဖြစ်ကြသည်။ ဟိန္ဒူတို့၏ ကွဲပြားခြားနားနေသော ဂိုဏ်းဂဏဝင်တို့ အားလုံးနီးပါးလောက်က မိမိတို့ယုံကြည်ရာ နတ်ဘုရားများ၏ ရုပ်ထုကို ထု၍ ဘုရားကျောင်းများ၌ တည်းထားကာ ကိုးကွယ်ကြသည်။ ဘုရားကျောင်းအချို့တွင် ဤဘုရားများကို အတူတူထား၍ ကိုးကွယ်ကြကြောင်း တွေ့ရပါ၍ အချို့ကျောင်းများက သူ့ဘုရားနှင့် သူရုပ်ထုတည်၍ ကိုးကွယ်ကြသည်။ ဘုရားရှင်ရာမမင်းကို ကိုးကွယ်ကြသူများက ရာမနှင့် သူ့ဇနီးသီတာဒေဝီတို့၏ ရုပ်ထုကို ကိုးကွယ်ကြ၍ အချို့သော သူတို့မှာ ဝိသနိုးနှင့် ၎င်း၏ဇနီး လက်ကျွမ်းဒေဝီကို ကိုးကွယ်ကြသည်။ ဘုရားရှင် ဆံကရကို ကိုးကွယ်ကြသူများက သူနှင့်သူ့ဇနီး၏ လိင်္ဂရုပ်ထုကို ကိုးကွယ်ပူဇော်ကြကုန်၏ ဤဂိုဏ်းဝင်အချို့တို့က ဘုရားရှင် ဆံကရ၏ သားတော် ဂနေ(ရှ်)ကို မဟာပိဋ္ဌနတ်အဖြစ် ပူဇော်ကိုးကွယ်ကြသည် ဤမျှမကသေး သျှိဝနှင့်၊ ဂနေ(ရှ်)တို့စီးသော ၎င်းတို့၏ စီးမြဲဖြစ်သော နွားလဥသဘနှင့် ကြွက်အကောင် အသီးသီးတို့၏ ရုပ်ထုကိုလည်း ရှိခိုးပူဇော်ကြကုန်၏။

ဟိန္ဒူဓမ္မတွင် ဘုရားရှင် သီရိကိရိစ္စနာကို လိုက်သူများက သီရိကိရိစ္စနာနှင့်အတူ ၎င်း၏ (Gefrliend) ရာဓါတို့အား ရုပ်ထုတည် ဘုရားကျောင်းဆောက်ကာ ကိုးကွယ်ကြသည်။ သီရိကိရိစ္စနာကို လိုက်နာသူများက သူ့၏ဇနီးဖြစ်သူ ဂုက်မဏီဒေဝီအား ရှိခိုးခြင်းမပြု၊ သူ့ဇနီးနေရာကိုသူ၏ (Girlfriend) ရုပ်ထုတည်က ကိုးကွယ်ကြသည်။ ရာမမင်းနှင့် သီတာဒေဝီတို့အား အတူထားကြ၍ ရှိခိုးပူဇော်ကြသည့် ဟိန္ဒူများက သီရိကိရိစ္စနားနှင့် သူ့ဇနီးဖြစ်သူ ရုက်မဏီအား ကိုးကွယ်ကြရမည့်အစား သူ့၏ချစ်သူတစ်ဦးအား အစားထိုး ကိုးကွယ်ခြင်းသည် ရှက်ဖွယ်ရာ ဖြစ်ရပါသည်။ သို့ကိုးကွယ်ခြင်းမှာ မသင့်တော်သည့်အပြင် နိတိမဲ့ကျပါသည်။

ဟိန္ဒူများကြားထဲမှာ ရုပ်ထုကိုးကွယ်ခြင်းကို မလိုက်နာကြသူများက အာရိယဆမာ၌ ကဘီးရပန်တီးရေဒါ (စ်) နာနကစသည့် သူတော်စင်မြတ်



တို့အား ကိုးကွယ်ကြသူများလည်းမနည်းလှပါ။ ထိုသူတို့က ဣဿွာရ(ထာဝရဘုရားသခင်) ရုပ်မရှိ၊ မွေးဖွားခြင်းမရှိ၊ ဘယ်သောအခါမျှ မပျက်စီး အမြဲတည်ရှိနေသော သတ္တိရှင်အဖြစ်ယူဆ ယုံကြည်ကြသူများ ဖြစ်ကြပါသည်။ တရားမျှတမှုရှိသော၊ လုံးဝသန့်စင်စင်ကြယ်သော၊ အနန္တ (ထာဝရရှိသော) အတိုင်းအဆမရှိသော စသည်ဖြင့်ယုံကြည်ပြောဆို လက်ခံကြ၍ ထိုဘုရားသခင်မှာ ဘယ်လူသား၊ သတ္တဝါအဖြစ်ဖြင့် မွေးဖွားလာခြင်းစသည်တို့ကို မပြုဟုယူဆယုံကြည်လက်ခံကြပါသည်။ ထိုဘုရားသခင်မှာ ကိုယ်ပွါးတော်အဖြစ်ဖြင့် ဘယ်သောအခါမျိုး၌ မပေါ်ထွန်းဟု၍ ယူဆသူများဖြစ်ကြသည်။ ၎င်းအပြင် ခန္ဓာကိုယ်နှင့် မွေးဖွားလာကြသော ရာမ၊ ကိရိစ္စနာစသည်ဘုရားများကို ထာဝရဘုရား၏ ကိုယ်ပွါးဖြစ် လက်ခံမယုံကြည်ကြသူများဖြစ်ကြသည်။ အထက်တွင် ဖော်ပြခဲ့ပြီးဖြစ်သော ဟိန္ဒူများဂိုဏ်းဂဏအပြင် အခြားအမည်မျိုးမျိုးတွင်ထားသည့်ဂိုဏ်းများမှာ ရာထောင်နှင့်မက ရှိပါသေးသည်။ အားလုံးခြုံပြီး ပြောမည်ဆိုပါက ဟိန္ဒူလို့ခေါ်လိုရပါသည်။ ဗုဒ္ဓဓမ္မကို ဟိန္ဒူဓမ္မပါလို့ခေါ်ရခြင်းအကြောင်းက ဤဓမ္မကို စတင်ခဲ့သူမှာ ဇမ္ဗူဒိပဖွားသူ တစ်ဦးဖြစ်ပါ၍ ၎င်းလုပ်ငန်းဌာနနယ်ပယ်မှာ ဇမ္ဗူဒိပတခွင်ဖြစ်ရသည်လောက်နှင့် ခေါ်ဆိုလို့မရနိုင်ပါ။ ဗုဒ္ဓဓမ္မကို ဟိန္ဒူဓမ္မဟု၍ ခေါ်ဆိုကြသူများက ရူးသွပ်နေသော လူများပင်ဖြစ်ရမည်ဟု ကျနော်ဆိုပါသည်။ ဗုဒ္ဓဓမ္မဒဿနနှင့် ဟိန္ဒူဓမ္မဒဿနတို့ အချင်းချင်း မိုးနှင့်မြေလောက်ခြားနားနေသည်။ တခုက ကမ္ဘာမြေ၏ မြောက်ဘက်ယဉ်စွန်းတန်းဖြစ်၍ နောက်တခုက တောင်ဘက်ယဉ်စွန်းတန်း ဖြစ်နေပါသည်။ အချင်းချင်း ဝိရောဓိအသွင်ဆောင်ကြသည်၊ ဒဿနအမြင်ချင်းလည်းမတူ ကွဲပြားခြားနားနေကြသည်၊ ဓမ္မနှစ်ခုဟာ တခုတည်းပါဟု၍ ဘယ်လို့လုပ်ပြီး ဆိုလိုရပါမည်နည်း? ဟိန္ဒူဓမ္မသည် အဓိကအားဖြင့် စိတ်ကူးယဉ်၊ နတ်ဒေဝတာတို့ကို ရှိုးခိုခြင်း၊ ပူဇော်ခြင်းမဟုတ်မတရားထင်မြင်ခြင်း၊ မျက်ကန်းယုံကြည်မှု၊ သွေးစုတ်မှု၊ သူ့တပါးကို ဒုက္ခဆင်းရဲဘုံသို့ ပို့ဆောင်ပေးမှု၊ သူ့အသက်သတ်မှု၊ ဗလက်ကါရပြုမှုစသည်တို့အပေါ်အခြေခံထားပါသည်။ ဗုဒ္ဓဘာသာ၊ ဗုဒ္ဓဓမ္မတို့က လူမှုတာဝန်သိရှိမှု၊ ပရဂျန်းဉာဏ်ပွါးမှု၊ သီလစောင့်တည်မှု၊ မေတ္တာတရားနှင့် ကရုဏာတရားတို့အပေါ်တည်ဆောက်ထားသည့် တရားဓမ္မတခုဖြစ်သည်။ လူ့တန်ဘိုး၊ လူ့ကျင့်ဝတ်ကောင်းအပေါ် အခြေခံတည်ဆောက်ထားသော ဓမ္မစစ်တရားဖြစ်ပါသည်။ ဟိန္ဒူဓမ္မမှ အဆိုပါတရားစစ်တရားမှန်တို့က အဘယ်မှလာ ပေါ်ထွန်းနိုင်ပါမည်နည်း?

## "ဗုဒ္ဓဓမ္မသည် ဟိန္ဒူဓမ္မမှ ပေါက်ဖွားလာသော ဓမ္မမဟုတ်"

ဘာရတနိုင်ငံတွင် နောက်ဆုံးကောက်ခံယူခဲ့သော သန်းကောင်စာရင်းအရ ဤနိုင်ငံအတွင်း ဟိန္ဒူတို့၏ လူဦးရေသည် လျော့ပါးသွားနေကြောင်း ထောက်ပြနေပါသည်။ မွတ်စလင်ဘာသာဝင်နှင့် ဗုဒ္ဓဘာသာဝင်တို့၏ ဦးရေမှာ အစဉ်တိုးတက်ကြီးပွားလာနေရသည်ကို အဆိုပါသန်းကောင်စာရင်းတို့က ပြသနေသည်။ ဤအချက်သည် ဟိန္ဒူဘာသာဝင်တို့အတွက် အန္တရာယ်ကြီး တခု၏ ခေါင်းလောင်းသံပေးခြင်းနှင့် တူနေပါသည်၊ လေးနက်သောပြဿနာတခုမှာ ဟိန္ဒူဘာသာဝင် ကုလားလူမျိုးများက မိမိတို့လူဦးရေအမှန်ကို ကမ္ဘာ့အလယ် ပြသပြီး 'ငါတို့ကအများဆုံးပါ' ဟု အဘယ်မှာ ဂုဏ်ယူဝင့်ကြွားနေလို့ မဖြစ်နိုင်သည် ဘဝမျိုးနှင့် မကြာသေးမီကါလအတွင်း ကြုံရပေလိမ့်မည်ဖြစ်သည်။ မွတ်စလင်ဘာသာဝင်တို့ ခရစ်ယာန်ဘာသာဝင်၊ သျှိခ်ဘာသာဝင်နှင့် ဗုဒ္ဓဘာသာဝင်ကုလားလူမျိုးကို ထည့်ပြလို့မဖြစ်နိုင်ပါ။ သျှိခ်ဘာသာဝင်တို့၏ အမြင့်ဆုံးကောင်စီဖြစ်သည့်၊ နီတိသတ်မှတ်ရေးကော်မိတီကြီးသည် အမိရသ်ဆာမြို့က သျှိခ်ဘာသာက ဟိန္ဒူဘာသာနှင့် မဆိုင်၊ လုံးဝသီးသန့်ဘာသာရပ်ဖြစ်ကြောင်း ကြေငြာထားခဲ့ပြီးဖြစ်သည်။ အမှန်တကယ်ပြောရမည်ဆိုပါလျှင် သျှိခ်ဘာသာနှင့် ဗုဒ္ဓဘာသာတို့က ဟိန္ဒူမဟုတ်ကြောင်း မှန်ကန်နေပါသည်။ သို့ဖြစ်ရပါ၍ ဗုဒ္ဓဘာသာဝင်တို့နှင့် ပေါင်းစည်း၍ ပြသနေလို့ မဖြစ်နိုင်သည့်ကိစ္စတခုဖြစ်လာမည်မှာ ကေန်မုချအချက်ပါဘဲ၊ ကမ္ဘာကြီးကို လိမ်လည်လှည့်ပတ်လို့ နောက်ထပ် ဖြစ်လာဘို့က မလွယ်ကူလှချေ။

ဤရှုဒေါင့်နှင့် ကြည့်မည်ဆိုပါက ဟိန္ဒူအများအပြားတို့သည် မဟုတ်မမှန်ပြောဆို နေကြသည်မှာ ဗုဒ္ဓဓမ္မသည် ဟိန္ဒူဓမ္မမှ ပေါက်ဖွားလာရပါသည်၊ ဤသို့သော ယုံကြည်မှုသည် သမိုင်းအချက်အလက်များအပေါ် မတည်ရှိဘဲ၊ ဟိန္ဒူတို့ မဟုတ်မမှန်သော အမြင်အပေါ် သို့တည်မဟုတ် ကလိမ်ကကျစ်ဆင်ထားသည့် ဉာဏ်ဆင်ပေါ်၊ သို့မှတ်မဟုတ် မသိနားမလည်မှုပေါ် အခြေခံသည်။ ဤအချက်ပေါ်ဆက်လက်ပြီး ဘာမှာမပြောခင် ဒီအချက်ကို ဒဿနအမြင်နှင့် စီးစစ်သွားဘို့လိုအပ်လိမ့်မည်။ သာမန်အားဖြင့် ပေါက်ဖွားလာသည် စကားလုံး၏အဓိပ္ပါယ်မှာ ပေါ်ထွန်းလာရခြင်းဟု အဓိပ္ပါယ်ရရှိပါသည်။ မည်သည့်အရာဝတ္ထုဘဲဖြစ်ဖြစ် မည်သည့်သတ္တဝါပင်ဖြစ်ဖြစ် မည်သည့်သစ်ပင်၊သစ်ရွက်တို့



၏ ပေါ်ထွန်းရခြင်း၏ အကြောင်းရင်းသည် သာမန်အားဖြင့် တူညီမှုရှိကြသည်။ ကုလားပဲက ကုလားပဲ၊ ဂျုံမှ ဂျုံပင်၊ စပါးမှ စပါးပင် ပေါ်ထွန်းရသလို၊ သရက်သီးမှ သရက်ပင်၊ တမာသီးမှ တမာပင်ဘဲ ပေါ်ထွန်းရသည်၊ ထိုနည်း ၎င်းလူတို့သည် လူမှုအသိုက်အဝန်းမှ ပေါ်ထွန်းနေရပါသည်။ အခြားနှင့်ပေါ်ထွန်းရလို့ မဖြစ်နိုင်။ ဗုဒ္ဓဓမ္မသည် အပြုသဘောဆောင် လူမှုစံဖြစ်သော ဓမ္မဖြစ်သည်၊ အပြုသဘောမဆောင်သည့် လက္ခဏာရှိသော၊ လူမှုမဆန်သော တရားဓမ္မတို့မှ ပေါက်ဖွားလာလို့မဖြစ်နိုင်ပါ။ ပိုမိုရှင်းလင်းအောင် ပြောပြရမည်ဆိုပါလျှင် နွားနို့မှ ဒိန်းချဉ်ထွက်ရခြင်း၏ အကြောင်းမှာ နွားနို့တွင် ဒိန်းချဉ်မှာ နဂိုမူလကပင် ကိန်းအောင်းထားသည်အဖြစ်နှင့် နှမ်းဆီ၊ မုံညင်းဆီတို့သည် သူသက်ဆိုင်ရာ နှမ်းစေ့နှင့် မုံညင်းအစေ့တို့မှာ ကိန်းအောင် ရှိနေကြောင့်တို့နှင့် ပမာတူသည်။ နှမ်းဆီ၊ ပဲဆီ၊ မုံညင်းဆီတို့က သဲသောင်၊ ကျောက်တုံးက ပေါ်ထွန်းမလာနိုင်ကြောင်းကို သတိပြုရန်ဖြစ်သည်။ ထိုနည်းတူ သစ္စကာယတို့မှာ အသစ္စာမဟုတ်မမှန် လုပ်ရပ်တို့မှ ပေါ်ထွန်းမလာနိုင်ဟု နားလည်သိရှိရန် လိုအပ်ပေလိမ့်မည်။

ဒဿနအမြင်မှာသစ္စာကါယကံနှင့် အသစ္စကါယကံတို့ နှစ်ရပ်လုံးမှာ သိပ္ပံပညာနှင့် ဆက်စပ်ဆိုင်နေကြသော ဝါဒများဖြစ်ကြ၏ အကယ်၍ ဗုဒ္ဓဓမ္မနှင့်ဟိန္ဒူဓမ္မတို့ကို ဒဿနိကအမြင် အချေအထင် အပြန်အလှန် ပြောဆိုဆန်းစစ်ကြည့်ပါက၊ ဗုဒ္ဓဓမ္မနှင့် ဟိန္ဒူဓမ္မတို့အချင်းချင်း ဝိရောဓိ တရားဓမ္မများဖြစ်နေကြောင်းကို ထင်ထင်ရှားရှားတွေ့မြင်နိုင်ပါသည်။ အကယ်၍ ဗုဒ္ဓဓမ္မမှာ ဟိန္ဒူဓမ္မမှ ပေါက်ဖွားပေါ်ထွန်းခဲ့သည်ကို လက်ခံယုံကြည်လာလျှင်လည်း ကါလဒေသ၊ ပယောဂ ပါလာသည်။ အဘယ်ကြောင့်ဆိုသော ဟိန္ဒူဓမ္မမှာ အလယ်အလတ်ခေတ်(မွတ်စလင်များ)ဘာရတနိုင်ငံသို့ ရောက်လာချိန်က ပေါ်ထွန်းခဲ့ရသည့်ဓမ္မဖြစ်သည်။ ဤခေတ်ဤကာလမှာ ပေါ်ထွန်းလာခဲ့သော ဓမ္မတရားတို့သည် သူ့ထက်စော၍ ပေါ်ထွန်းခဲ့သော ဗုဒ္ဓဓမ္မကို အဘယ်နည်းနှင့် ပေါက်ဖွားပေးရသည်က မေးစရာမေးခွန်းတရပ်ဖြစ်နေရပါမည်။ ခေတ်ဟောင်းက ပေါ် ထွန်းခဲ့သည့် ဗုဒ္ဓဓမ္မကို သူ့နောက်မှာ ပေါ်ထွန်းလာသည့် တရားဓမ္မတို့က အဘယ်သို့ပေါက်ဖွားပေးလို့ ရနိုင်ပါမည်နည်း? ဗုဒ္ဓဓမ္မနှင့် ဟိန္ဒူဓမ္မတို့၏ ရည်းမှန်းချက်ကို အောက်တွင် နိုင်ယှဉ်က ရေးသားဖော်ပြပေးထားသည်။ အသိညာဏ်ကြွယ်သော လေ့လာသူများနှင့် ဖတ်ရှုသောသူများက လွယ်လင့်တကူ ဖတ်ရှုသိနိုင်ပါကြောင်း။

## ဗုဒ္ဓဓမ္မ

၁။ ဗုဒ္ဓဓမ္မကို စတင်တည်ထောင်ဖော်ထုတ်ပေးသူမှာ မဟာလူသားဗုဒ္ဓဖြစ်သည်။

၁။ ဟိန္ဒူဓမ္မကို စတင်သူများက ဝိသနိုးနှင့် သူ့ကိုယ်ပွါးတော်များနှင့် အခြား ဘုရားသခင်ဆိုင်ရာ နတ်နှင့်နတ်သမီးများဖြစ်ကြသည်။

၂။ ဗုဒ္ဓဓမ္မမှာ ကိုယ်ပွါးတော်များကို ယုံကြည်ခြင်းမရှိ။

၂။ ဟိန္ဒူဓမ္မသည် ကိုယ်ပွါးတော်ဝါဒအပေါ် အခြေခံထားသည်။

၃။ ဗုဒ္ဓဓမ္မမှာ ပရဂျန်း(အသိဉာဏ်) သီလ၊ မေတ္တာနှင့် ကရုဏာစသော တရား ကောင်းများကို လက်တွေ့ကျင့်သုံး၊ ပွါးများယူရန် သွန်းသင်သည်။ ပရဂျန်း၊ သီလ၊ သမာဓိတို့ကို ပွါးများအောင် လုပ်ယူရမည်ဟု ဗုဒ္ဓက ဆုံးမသွန်သင်သည်။

၃။ ဟိန္ဒူဓမ္မမှာ မျက်ကန်းယုံကြည်မှု စာရိတ္တညံ့ဖျင်းမှုနှင့် ဟိသတို့ကို အားပေး အားထားပြုသည်။

၄။ ဗုဒ္ဓဓမ္မမှာ အနိစ္စသဘောတရားကို လက်ခံသည်၊ ထိုသဘောတရားနှင့်အညီ ဘဝရှင်သန်မှုပြုလုပ်သွားရမည်ဟု ဆုံးမသည်။

၄။ ဟိန္ဒူဓမ္မမှာ ဖန်းဆင်းရှင်ဝါဒကို လက်ခံသည်။ ထိုဖန်းဆင်ရှင်၏ အလိုအတိုင်း နေထိုင်သွားရန် ဆုံးမသွန်သင်သည်။

၅။ဗုဒ္ဓဓမ္မမှာ(အနိစ္စဝါဒ)ထာဝရဘုရားသခင်ဝါဒကို လက်မခံ၊ ဗုဒ္ဓဓမ္မဒဿနအ၏ အလိုအရ ဖန်ဆင်းရှင်မရှိ၊ ဘယ်သူမှ လောကကြီးကို ဖန်းတီးပေးရခြင်းမရှိဟု လက်ခံယုံကြည်သည်။

၅။ ဟိန္ဒူဓမ္မမှာ ဣဿရ ထာဝရဘုရားသခင်ရှိကြောင်း ယုံကြည်လက်ခံသည် ထိုဘုရားသခင်သည် လောကကို ဖန်ဆင်းပေးရသည်ဟု ပြောဆိုယုံကြည်ပါ သည်။

၆။ လူသည် အမျိုးမျိုးတို့ကို ပြုလုပ်ရာ၌ လွတ်လပ်သည်။ ကံများပြုလုပ်ရာတွင် သူတပါးထံ ကျွန်ခံစရာ မလိုအပ်ပေ။

၆။ လူ့သားတို့ ပြုလုပ်သမျှကံတို့ကို ထိန်းချုပ်ထားသူရှိ၏။ လူ့သားသည် သူပြု သမျှကံတို့က ဘုရားသခင်၏ အလို့တော်အတိုင်းဖြစ်သည်။

၇။ လူသားပြုသမျှကံတို့၏ ရလဒ်သည် သူ့သဘာဝအတိုင်းခံစားရသည်။ နှစ်ကို နှစ်နှင့်ပေါင်းသော် လေးဖြစ်လာသလိုပမာတူသည်။



၇။ လူ့သားပြုသမျှကံတို့၏ အကျိုးအပြစ်သည် ဘုရားသခင်လက်ထက်၌ ထိန်း ချုပ်ထားသည်။ ဘုရားသခင်၏ အလိုတော်အတိုင်းသာဖြစ်ရသည်။ နိဗ္ဗာန် (ဣဿရ)ပို့ချင်ပို့၊ သို့မဟုတ်(နိယရ)ငရဲဘုံသို့ တည့်တည့်ပို့နိုင်သည်။

၈။ ဗုဒ္ဓကဝေဒကျမ်းများကို လူ့သားတို့ ရေးသားပြုစုထားကြောင်း ယုံကြည် သည်။

၈။ ဟိန္ဒူဓမ္မမှာ ၄င်းဝေဒကျမ်းများက ဆုံးမသွန်းသင်မှုသည် ထာဝရဘုရားသခင် သွန်းသင်ထားသည်ဟု ယုံကြည်လက်ခံသည်။

၉။ ဗုဒ္ဓဓမ္မသည် ဗုဒ္ဓ၏ အဆုံးအမဥပဒေသကို အခြေခံသည်။ ပရဂျန်းကို အခြေ ခံထား၏။

၉။ ဟိန္ဒူဓမ္မသည် ပုရာဏကျမ်းများပေါ်အခြေခံ၏ စိတ်ကူးယဉ်သက်သက် အ ပေါ် အခြေခံထားသည်။ ထိုအခြေခံရာမှာ လုံးဝမိစ္ဆာဖြစ်နေသည်။

၁၀။ ဗုဒ္ဓဓမ္မသည် တန်းတူညီမျှမှု၊ လွတ်လပ်မှုနှင့်၊ တရားမျှတမှုတို့ကို အခြေ ခံထားသည်။

၁၀။ ဟိန္ဒူဓမ္မမှာ တန်းတူညီမျှမှုမရှိခြင်း၊ သူတပါးကို အားကိုးအားထားပြုခြင်း၊ ကျွန်ပြုခံရခြင်း၊ မတရားမှုအပေါ် မှီခဲခြင်း၊ ကိုယ်စားပြုသောဓမ္မဖြစ်သည်။

၁၁။ ဗုဒ္ဓဓမ္မမှာ သွေးစုတ်ခြယ်လှယ်ခြင်းမရှိ၊ လူမှုဖွဲ့အစည်းတရပ်ကို တည်ထောင် ကြရန် လိုလားသည်။

၁၁။ ဟိန္ဒူဓမ္မသည်(ဝရဏ)လူများအချင်းချင်း ဇာတ်ခွဲစံနစ်ကိုယုံကြည်သည်။ ဟိန္ဒူဓမ္မတွင်ဇာတ်မြင့်တို့က ဇာတ်နိမ့်များပေါ် အမျိုးမျိုးခြယ်လှယ် သွေးစုတ် မှုကို အားပေးထောက်ခံသည်။

၁၂။ ဗုဒ္ဓဓမ္မသည် ဇာတ်ခွဲမှုစံနစ်ကို လုံးဝလက်မခံ၊ လူ့သားအချင်းချင်း တွေ့ ထိဆက်ဆံခြင်းကို ခွင့်ပြုပေးထားသည်။

၁၂။ ဟိန္ဒူဓမ္မမှာ ဇာတ်ခွဲခြားမှု စံနစ်ကိုလက်ခံသည်။ အချင်းချင်းတွေ့ထိ ဆက် ဆံခြင်းကို ခွင့်မပြု၊ တားမြစ်သည်။

၁၃။ ဗုဒ္ဓဓမ္မမှာ ယုတ္တိဗေဒပညာပရနှစ်မျိုး ၂-ခုကို လက်ခံသည် ပထမမျိုးက မျက်မြင်သက်သေနှင့် ဒုတိယမျိုးစားမှာအနုမာန စိတ်ကူးတွက်ချက်မှုရခြင်း တို့ ဖြစ်ကြသည်။

၁၃။ ဟိန္ဒူဓမ္မသည် ယုတ္တိဗေဒတွင်၊ သက်သက်သော လေးမျိုး လေးစားကို လက်ခံယုံသည်။ (၁) မျက်မြင်၊ (၂) အနုမာန၊ (၃) စကားလုံး၊ (၄) ဥပမာနတို့ ဖြစ်ကြသည်။

၁၄။ ဗုဒ္ဓဓမ္မမှာ လောကသ္တန္တရ (ဒိမိုကရေစီ) ကျင့်သုံးခြင်းကိုလက်ခံသည်။

၁၄။ ဟိန္ဒူဓမ္မမှာ လောကသ္တန္တရ (ဒိမိုကရေစီ) ကျင့်သုံးခြင်းကို မကြိုက်၊ တချက်လွှတ်အာဏာ၊ အာဏာရှင်စံနစ်ကို ယုံကြည်ကြသည်။

၁၅။ဗုဒ္ဓမ္မသည် အဟိံသတရား၊ မေတ္တာနှင့် ကရုဏာတရား တိုးပွါးရန် အားပေးတိုက်တွန်းနှိုးဆော်သည်။

၁၅။ဟိန္ဒူဓမ္မမှာ ဟ်သနှင့်နတ်ဒေဝီ၊ ဒေဝတာတို့ကို ဗလိနတ်စာကျွေးမွေး၊ ပူဇော်ပသကြရန် တိုက်တွန်းနှိုးဆော်သည်။

၁၆။ ဗုဒ္ဓသည် သိပ္ပံရှုဒေါင့်ကို ကိုယ်စားပြု၊ အားပြုသည်။

၁၆။ ဟိန္ဒူဓမ္မမှာ မျက်ကန်းဝါဒ ယုံကြည်မှုများကို အားပြုအားထားပြုသည်။

၁၇။ ဗုဒ္ဓဓမ္မမှာ ကျားမမရွေးပညာသင်ခွင့်ရှိကြောင်း ထောက်ခံပြောဆိုသည်။

၁၇။ ဟိန္ဒူဓမ္မမှာ သုံဒရနှင့်၊ မိန်းမသားတို့ ပညာသင်ခွင့်မရှိကြောင်း ပြောဆိုသည်။

၁၈။ ဗုဒ္ဓဓမ္မသည် လူသားတို့၏ တန်ဖိုးကို နားလည်ပြီး၊ ယင်းဓမ္မသည် လူ့သားဖြစ်မှုကို အသိအမှတ်ပြု၍ လူ့သားတို့၏ ဘက်စုံတိုးတက်မှုအတွက် အားပြုအားထားသည်။

၁၈။ ဟိန္ဒူဓမ္မသည် လူ့သားကို တန်ဘိုးမထား၊ လူသားတို့၏ ပြုမှုကို အလေးမပေး၊ တန်ဘိုးမထားသောဓမ္မဖြစ်သည်။

၁၉။ ဗုဒ္ဓဓမ္မသည် 'ဗဟုဇနဟိတာယ၊ ဗဟုဇနသုခါယ' အတွက် တိုက်တွန်းနှိုးဆော်သည်။

၁၉။ ဟိန္ဒူဓမ္မသည် 'ဗြာဟ္မဏဟိတာယ၊ဗြဟ္မဏသုခါယ' အတွက် အားပြုအားထားပြုသည်။

၂၀။ ဗုဒ္ဓဓမ္မသည် 'အာစရမ်း' ခေါ် ဘဝသက်တမ်းအပိုင်းအခြား သတ်မှတ်ချက်ကို လက်မခံ။

၂၀။ ဟိန္ဒူဓမ္မမှာ ဘဝတစ်သက်တာကို (၄ )ပိုင်း ပိုင်း၍ သတ်မှတ်သည်။ (၁) ဗြာဟ္မစရိယ၊ (၂) ဂေဟ(စ်)ထ၊ (၃) ဝါနပရ (စ်)ထနှင့်၊ (၄) သံယနယစ် တို့ ဖြစ်ကြသည်။



အထက်တွင် ဗုဒ္ဓဓမ္မနှင့် ဟိန္ဒူဓမ္မတို့ကို နှိုင်းယှဉ်၍ ဖော်ပြပေးထားသည့် ဤအချက်များကို ဘက်မလိုက်လေ့လာ၊ သုံးသပ်၊ ဖတ်ရှုသူများက ထိုဓမ္မနှစ်ရပ်တို့၏ ခြားနားကွာဟပ်မှုကို ကောင်းစွာသိရှိနားလည်နိုင်ပါသည်။ နောက်ဆုံးအချုပ်မှာ သင်းပေါင်းပင်မှာ ပန်းသီး မသီးနိုင်သလိုပင် ဖြစ်ရသည်။ ဗုဒ္ဓဓမ္မသည် အမြိုက်ရည်နှင့်တူ၍ ဟိန္ဒူဓမ္မမှာ အဆိပ်ရည်နှင့် တူသည်။ ဗီဇသွေးချင်းမတူသော ဓမ္မပင်များဖြစ်ကြသည်၊ ဗုဒ္ဓဓမ္မနှင့် ဟိန္ဒူဓမ္မတို့သည် တခုနှင့်တခု၊ ခံယူခြင်း၊ ဒဿနစသည်တို့ ဝိရောဓိဖြစ်နေကြ၍ ဝိရောဓိဖြစ်နေသော ဟိန္ဒူဓမ္မက ဗုဒ္ဓဓမ္မလို ပရဂျန်း၊ သီလ၊ သမာဓိ၊ မေတ္တာ၊ ကရုဏာတရားတို့အပေါ် အခြေခံထားသည့် တရားစစ်တရားမှန်ကို အဘယ်သို့ မွေးဖွားပေးနိုင်အံ့၊ လုံးဝမဖြစ်နိုင်သည့် အရာဖြစ်သည်။ "ဗုဒ္ဓသည် ဟိန္ဒူဓမ္မကို ပြန်လည်သန့်စင်ပြင်ဆင်ခဲ့သည် မဟုတ်၊ လုံးဝဓမ္မသစ်တခုကို ရှာဖွေတည်တွင်ခဲ့ခြင်းဖြစ်သည်။ အချို့အချို့သော ပညာတတ်ဟိန္ဒူလူမိုက်များက ဤသို့ဆိုကြသည်။ ဗုဒ္ဓသည် ဟိန္ဒူဓမ္မ၏မှားယွင်းမှုအချို့ကို ပြန်လည်ပြင်ဆင်ကာ တင်ပြဖော်ထုတ်ပေးခဲ့ပါသည်။ ပြန်လည်ပြင်ဆင်ပေးခဲ့သည်။ ဟိန္ဒူဓမ္မကို ဗုဒ္ဓဓမ္မဟု အမည်ထွင်ပေးခဲ့သည်။ ၄င်းဟိန္ဒူပညာတတ်လူမိုက်တို့၏၊ ဤသို့ပြောဆိုခြင်းမှာ လုံးဝမှားယွင်းနေသည်။ အခြေအမြစ်မရှိ၊ သမိုင်းနှင့်ဒဿနအမြင်တို့ကို ဆန့်ကျင်၍ ပြောဆိုခြင်း ဖြစ်ပါသည်။ ပညာရှင်အချို့နှင့် သမိုင်းဆရာအချို့တို့က ဟိန္ဒူဓမ္မ၏ ပေါ်ထွန်းလာရာကို ပုရာဏာကျမ်း၊ သမ္ဗုတိကျမ်း၊ ရာမာယနနှင့်၊ မဟာဘာရတကျမ်း၊ ဂီတကျမ်းတို့ကို သတ်မှတ်ကြပါသည်။

သို့သော် ဤကျမ်းများကို ဟိန္ဒူဓမ္မ၏ အခြေခံကျမ်းစာဟူ၍ လုံးလုံးလျားလျား ဖြစ်ကြောင်းက သိပ္ပံနည်းကျပြောဆိုလို့ မရနိုင်ပါ။ ရေသောက်မြစ်ဟူ၍လည်း လုံးလုံးလျားလျား မဖြစ်နိုင်ပါ။ ဗုဒ္ဓမပေါ်ထွန်းလာခင်၊ ဝေဒကျမ်းသုံးပုံ ပေါ်ထွန်းခဲ့ပါပြီဆိုသော အချက်သည် သမိုင်းအမှန်တရားတခုဖြစ်သည်။ ရိဂဝေဒ၊ သာမဝေဒနှင့် ယဇုဝေဒ ဤဝေဒသုံးပုံတို့က ဗုဒ္ဓ မပေါ်ထွန်းခင်အချိန်က ပေါ်ထွန်းခဲ့သည့် ကျမ်းများဖြစ်ကြသည်။ ဤဝေဒကျမ်း သုံးပုံတွင် ရိဂဝေဒကျမ်းသည် ရှေးအကျဆုံးကျမ်းဖြစ်သည်၊ ရိဂဝေဒသံဟိတာ ဟုခေါ်ရပါသည်။ ဤကျမ်းစာကို ပြုစုခဲ့ကြသည့် ရိက္ခိပညာရှင်တို့အနက် ဝိဿာမိတ္တာ၊ ဝါသေဋ္ဌ၊ ဘာရဒွါဇနှင့်၊ ဂေါတမတို့က ရှေးအကျဆုံး ရိက္ခိပညာရှင်များဖြစ်ခဲ့ကြသည်။ ဤရိက္ခိပညာရှင်တို့အနက် ဝိဿာမိတ္တာနှင့် ဝါသေဋ္ဌတို့က ခေတ်ပြိုင်ရိက္ခိများ ဖြစ်ခဲ့ကြပြီး

ကျန်ရိုက်ဒ်(၂)ပါးတို့မှာ နောက်အဆက်များဖြစ်ကြသည်။ ရိဂဝေဒကျမ်းကို အပြီး အစီးပြုစုခဲ့ကြသော ပညာရှင်အချင်းချင်းတို့က လူ့အဆက်(၆)ဆက်၊ (၇)ဆက် ကွာခြားကြောင့် ဘိရိဟာစွပတိ ရေးသားဖော်ညွှန်းထားသည့် ဝံသာနုပြပုံကို လေ့လာလျှင် သိအပ်ပါသည်။ အဆိုပါဝံသနုပုံမှာ အောက်ပါအတိုင်းဖြစ်သည်။ အင်္ဂီရာလလ၊ ဘရိဟာစွပတိ(ခရစ်သက္ကရာဇ်ပပေါ်မှီ ၁၅၂၀–ခုနှစ်) ဘာရဒွါဇ (၁၅၀၀–နှစ် ယခင်) ဝိဒယီနရ(၁၄၆၉–ခုနှစ်ယခင်) သံသကိရိတိ(၁၄၄၀–ခုနှစ်) ခရစ်တော်မပေါ်မီကာလ ဂေါ်ရဝိတိ(၁၄၂၉–ခုနှစ်၊ ယခင် ရန်တိဒေဝီ)။

ဝေဒခေတ်ရိက္ခ်များက ဓမ္မနှင့်၊ ဒေဝါခေါ်နတ်၊ နတ်ဘုရားမကို ယုံကြည်ကြသည်။ မျက်ကန်းယုံကြည်မှုမျိုးဖြစ်သည်။ ယဇ်ပူဇော်ပွဲများနှင့် အလှူဒါနတို့ဖြင့် လက်ရှိဘဝမှသေးဆုံပြီးနောက် ဘဝကောင်းတခုရနိုင်ပါကြောင်း ယုံကြည်ကြသည်။ ယနေ့ခေတ်တွင် 'ဒဿန' လို့ခေါ်သည့်အရာသည်၊ ဝေဒခေတ်တွင် မတွေ့ရှိရပါ။ နတ်ဘုရားမများကို မျက်စိမှိတ် ကိုးကွယ်ခဲ့ကြသည်။ ထိုသို့သော ယုံကြည်မှုမျိုးနောက် ရွှေ့လျားနေသောစွမ်းအင် မရွှေ့နိုင်သော စွမ်းပကားတို့က ဘာပါလိမ်? ဤကမ္ဘာကြီး၏ အစသည် ဘာပါလိမ့်?စသည့် မေးခွန်းများ၏အဖြေက ယဇုဝေဒကျမ်းတွင် တွေ့ရှိနိုင်ပါသည်။ ထိုအဖြေများမှာလည်း ယုတ္တိမရှိ မရှင်းမလင်း စိတ်ကူးယဉ်သက်သက် ဖြစ်နေပါသည်။ ဗုဒ္ဓမပွင့်ခင်၊ အနှစ်၇၀၀–ကျော်လောက်က ဥပနိသျှဒ်ကျမ်းများ ပေါ်ပေါက်ခဲ့သည်။ ဥပနိသျှဒ်ကျမ်းများ၏ ဒဿနဆိုင်ရာအကြောင်းအရာများမှာ ဗြဟ္မ၊ ဣသွာရ၊ ဖန်တီးမှု၊ စိတ်နှင့်၊ ဉာဏ်တို့ဖြစ်ကြခဲ့ပါသည်။ ဝေဒယဉ်ကျေးမှုဆိုင်ရာ အထူးပြုသောအရာသည် 'ဝရဏ' အစီအစဉ်ဖြစ်သည်။ ထို 'ဝရဏ' အစီအစဉ်အရ၊ ဇာတ်စံနစ်ပေါ်လာသည်။ ဇာတ်စံနစ်မှတဆင့် ခွဲခြားမှု ပေါ်ထွန်းခဲ့သည်။ ထိုဇာတ်ခွဲခြားမှုအရ လူမှုအသိုင်းအဝိုင်းကို တခါ လေးမျိုး၊ လေးတန် ခွဲခြားလိုက်ပါသည်၊ အမြင့်ဆုံး ဇာတ်စံနစ်ခွဲခြားမှုသည် လူ့သားအချင်းချင်း မတူညီမှုနှင့်၊ တွေ့ထိခြင်းတို့ကဲ့သို့သော မတရားစံနစ်တို့ကို ပေါက်ဖွားပေးခဲ့သည်။ ဤစီစဉ်မှုအောက် ဇာတ်မြင့်သောသူ့တို့မှာ မိမိတို့ထက် ဇာတ်နိမ့်ကျသည့် လူများအပေါ် သွေးစုပ်ခြယ်လှယ်ခြင်းအမျိုးမျိုးတို့ကို လုပ်လာခဲ့ကြသည်။ ဇာတ်နိမ့်သူများအပေါ် မဟုတ်မတရားပြုခြင်း အမျိုးမျိုးတို့ကို လုပ်ပိုင်ခွင့်ရှိ၍ လိုင်စင်ရထားပြီးသားဖြစ်နေပါခဲ့သည်။ 'ဇာတ်နိမ့်၊ ဇာတ်မြင့် ခွဲခြား



သောစံနစ်သည် အိန္ဒိယနိုင်ငံတခုတည်း၌သာတွေ့ရှိရသည်။ အခြားနိုင်ငံများ၌မရှိ။ ဤဇာတ်စံနစ်ခွဲခြားမှုတွင် အမြင့်ဆုံးဇာတ်က ဗြာဟ္မဏဖြစ်သည်။ ဗြာဟ္မဏတို့၏တာဝန်မှာ ဝေဒကျမ်းတို့လေ့လာခြင်း၊ သင်ပေးခြင်း အလှူဒါနများ လက်ခံခြင်းဟူ၍ သတ်မှတ်သည်။ ဤစံနစ်အရ ဒုတိယအမြင့်ဆုံးဖြစ်သော သူတို့အား 'ခတ္တိယ' ဟုခေါ်ခဲ့ပါသည်။ ခတ္တိယတို့၏ တာဝန်မှာ လူမှုအဖွဲ့အစည်း၏ လုံခြုံရေးနှင့်၊ အုပ်ချုပ်မှုတို့ ဖြစ်ကြပါသည်။ ခတ္တိယတို့က လက်နက်ကိုင်သူများဖြစ်ကြပြီး ကျူးကျော်စစ်ပြုလာသည်။ အင်အားစုနှင့်တိုက်ခိုက်သွားရန် တာဝန်ရှိကြခဲ့သည်။ ခတ္တိယတို့က မင်းပြုအုပ်စိုးသော လူတန်းစားဖြစ်ခဲ့ရပါသည်။ လက်နက်ကိုင်သူများဖြစ်သည့်အားလျော်စွာ မိမိတို့ထက်ဇာတ်နိမ့်သူ 'ဝသာယ' နှင့် သုံဒရအပေါ်ဖိနှိပ်ခြင်း၊ ခြယ်လှယ်ခြင်းအမျိုးမျိုးတို့ကို လုပ်ခွင့်ရ လူတန်းစား ဖြစ်လာခဲ့ပါသည်။

ဇာတ်စံနစ်ကြီးမှာ တတိယနေရာ ရရှိသူများကို ဝိသာယဟု ခေါ်ခဲ့သည်။ ဤအတန်းစားတွင် လယ်ယာလုပ်ကိုင်သူများနှင့်၊ အရောင်းအဝယ်ပြုလုပ်သူ ကုန်သည်ပွဲစားများ ပါဝင်ခဲ့ကြပါသည်။ အမြင့်ဆုံးဖြစ်သော ဗြာဟ္မဏလူမျိုးနှင့်၊ လက်နက်ကိုင်ခွင့်ရှိသော 'ခတ္တိယ' အနွယ်ဝင်တို့၏ ပူးပေါင်းခြယ်လှယ်မှုအောက်တွင် ရှေးဟောင်းအိန္ဒိယနိုင်ငံမှာ ဇာတ်နိမ့်ပြည်သူများက ဆိုးဆိုးရွားရွား ဆုံးရှုံးခံခဲ့ရသည်။ ဇာတ်စံနစ်ကြီးအောက် စတုတ္ထနှင့်၊ အောက်ဆုံးအဆင့်ကို 'သုံဒရ'ဟုခေါ်ခဲ့ပါသည်။ ဤအဆင့်တွင်ကျရောက်သောလူတို့ကို တွေ့ထိလို့မရနိုင်သောအဆင့်တွင်ထားခဲ့သည်။ ဤအဆင့်တွင်ကျရောက်သောလူတို့သည် အထက်အဆင့်ရှိသော ဗြာဟ္မဏ၊ ခတ္တိယနှင့်၊ ဝသာယတို့ကို အလုပ်အကျွေးပြုကြရပါသည်။ 'သုံဒရ' တို့မှာ တာဝန်ဝတ္တရားပြန်ဒွာန်းထားသည့် အခွင့်အဏါစိုးစဉ်းမျှ မပေးထားခဲ့ပါ။ အမှန်စင်စစ် ဇာတ်စံနစ်ကြီးအောက် စတုတ္ထအဆင့်ဖြစ်သော 'သုံဒရ'တို့၏ဘဝသည် တိရိစ္ဆာန်ကောင်နှင့် လုံဝခြားနားခြင်း မရှိခဲ့ပါ။ ငရဲကျနေသောသူတို့နှင့် ပမာတူခဲ့သည်။ ဗြာဟ္မဏတို့က အယူအဆတစ်ခုတည်းကိုသာ ဆုပ်ကိုင်ထားသည်။ ထိုအယူအဆမှာ 'သုံဒရ' တစ်ဦးသည် သူ့တာဝန်ကို သိစွာရှိရှိယုံကြည်စွာ ထမ်းဆောင်သွားသူမှာ နောက်ဘဝတွင် နိဗ္ဗာန်ရောက်ရသည်ဟူသော အယူအဆ၊ ယုံကြည်မှုကို သွတ်သွင်းထားခြင်းပင်ဖြစ်သည်။ ဝေဒယဉ်ကျေးမှုတွင် ယာဇ်ပူဇော်ခြင်းကို ထိပ်တန်းပူဇော်ပွဲဟူ၍ သတ်မှတ်ကြသည်။ 'ဂေါမေဓ အဆွမေဓ' ယာဇ်ပူဇော်ပွဲ

များကို ကျင်းပကြပါစည်။ 'ဂေါမေဓ' ယာဇ်ပူဇော်ပွဲသည် နွားမများကို သတ်ဖြတ်၍ ပူဇော်ခြင်းဖြစ်ပါ၍ 'အဿမေဓ'ပူဇော်ပွဲများတွင် မြင်းများကို သတ်ဖြတ်ပြီး ပူဇော်ရသည်။ ထိုသို့ပူဇော်ခြင်းကို မြင့်မြတ်သည့် ပူဇော်ပွဲများဟူ၍ သတ်မှတ်ခဲ့ကြပါသည်။ ဤသို့ပူဇော်ပွဲများတွင် သတ်ဖြတ်ခံရသော သတ္တဝါအသားတို့ကို မီးကင်၍ အာရိယာန်လူမျိုးတို့က စားသောက်လေ့ရှိကြသည်။ မီးကင်ထားသော ထိုအသားများကို အရက်နှင့်မြည်းကြ၊ စားသောက်ကြလေ့ရှိခဲ့ကြပါသည်။ ဝေဒခေတ်ကာလ လူမှုအသိုင်းအဝိုင်းတွင် သေရည်သေရက်သောက်စားခြင်း အလေ့အကျင့်တို့ ခေတ်စားခဲ့သော အပြုအကျင့်တစ်ခုဖြစ်ခဲ့ရပါသည်။ အကျဉ်းချုပ်ပြောရမည်ဆိုပါလျှင် ဝေဒခေတ်တွင် နွားမသား(အမဲသား)စားခြင်း အလေ့အထတခုလည်း ဖြစ်နေပါသည်။ အာရိယန်လူမျိုးများ၏ ရိဂ္ဂဒ်ပုနိ တကာတကာမအားလုံးတို့က အသားစား၊ သေရည်သောက်သုံးကြသူများ ဖြစ်ကြပါသည်။ ဝေဒခေတ်ကာလတွင် သေရည်သေရက် သောက်စားခြင်းသည်။ လူမှုပရဝုဏ်တွင် ခေတ်စားနေခဲ့သော ထုံးတမ်းစဉ်လာတခုဖြစ်ခဲ့ရပါသည်။ ဂေါဒီ၊ ဓပစ္စတိ၊ မာစွဝိ၊ ကာဒမ္ဗရိ၊ ဟေသာလိ၊ လာဂ်လေယာ၊ တာလဇာတ်စသော အရက်များဖြစ်ခဲ့ကြပါသည်။ အကျဉ်းချုပ်ပြောရမည်ဆိုပါလျှင် ထိုခေတ်ကာလတွင် အမဲသားစားသူတို့က များပြားခဲ့ကြပါသည်။ ထိုခေတ်ကာလက အမဲသားစား၊ သေရည်သောက်သုံးမှု များပြားနေခဲ့ပါလျှင် ထိုအဖွဲ့အစည်းကို ကောင်းကောင်းစိတ်ကူးလို့ရပါသည်။ ဟိန္ဒူတို့၏ ဘုရားကိုယ်ပွါးတော်များကလည်း မတူခြားနားခဲ့ကြပါ။ ဝေဒခေတ်က သနာတနာ(ရှေးရိုးစွဲဝါဒီ)ရိဂ္ဂဒ်မုနိပညာရှင်နှင့် နောက်လိုက်များက ကာမဂုဏ်လိုက်စားသည့် နေရာများတွင် ယနေ့ခေတ် လူကျင့်ဝတ်တို့နှင့် တိုင်းတာကြည့်ပါက ၎င်းတို့အား လူ့ကျင့်ဝတ်နှင့် လုံးဝမကိုက်ညီသောသူများဖြစ်ခဲ့ကြပါသည်ဟုပင် ဆိုရပါလိမ့်မည်။ ထိုခေတ် ထိုအခါက (Free Sex) လူမှုပရဝုဏ်ဖြစ်နေခဲ့ပါသည်။ ဗြာဟ္မဏလူမျိုးများက မိမိတို့အဆင့်ကို သုံးစွဲကာ မိန်းမလိုက်စားသည့်ကိစ္စတွင် အခွင့်အသာဆုံးနေရာကို ယူထားကြပါသည်။ ထိုသို့သော စည်းမဲ့ကမ်းမဲ့မိန်းမလိုက်စားရခြင်းက၊ မနု (Manu) စီစဉ်မှုဟု ခေါ်ပါသည်။ ဤစီစဉ်မှုအောက် ဗြာဟ္မဏလူမျိုးယောက်ကျ၊ လက်အောက်ခံ လူမျိုးများဖြစ်ကြသော ခတ္တိယ၊ ဝသာယနှင့်၊ သုံဒ္ဒရမည်သည့်အမျိုးအနွယ်မိန်းမများကို အိမ်ထောင်ပြုလို့ရပါသည်။ ယင်းအိမ်ထောင်မျိုးကို 'အနုလောမ' အိမ်ထောင်ဟု ခေါ်ခဲ့ပါသည်။ ဒုတိယအဆင့်တွင် ခတ္တယမျိုးနွယ်တို့လည်း ပါဝင်ကြသည်။ ခတ္တိယတို့သည် လက်နက်ကိုင်လူတန်းစားများဖြစ်သည်။



လူမှုပရဝုဏ်တွင် သြဇာအာဏာရှိကြသည်။ ၎င်းတို့မှာ ဗြာဟ္မဏများကို ပေါင်းသင်းထားပြီး၊ အိန္ဒိယနိုင်ငံ ရှေးဟောင်းလူအဖွဲ့အစည်း၌ ကြိုက်သလို ခြယ်လှယ်ခဲ့ကြသည်။ သူ့တပါးအားဖိနှိပ်ခြင်း၊ သွေးစုတ်ခြင်း၊ မဟုတ်မတရားပြုခြင်းတို့ကို မိမိတို့ ကြိုက်နှစ်သက်သလို ပြုကျင်ခဲ့ကြပါသည်။

တတိယအဆင့်တွင် ကျရောက်သောသူတို့အား 'ဝိသယ'ဟု ခေါ်ပါသည်။ ၎င်းတို့၏တာဝန်မှာ လယ်ယာလုပ်ကိုင်ခြင်းနှင့်၊ မွေးမြူရေးတို့ဖြစ်ကြသည်။ စတုတ္ထနှင့်၊ အောက်ဆုံးအဆင့်ရှိလူတို့ကို 'သုံဒ္ဒရ'ဟုခေါ်ကြသည်။ သုံဒ္ဒရတို့မှာ မိမိတို့ထက်အဆင့်မြင့်သော ဝသယ၊ ခတ္တိယ၊ ဗြာဟ္မဏတို့အား အလုပ်အကျွေးပြုရပါသည်။ သုံဒ္ဒရတို့မှာ တာဝန်သတ်မှတ်ထားသည်။ အခွင့်အာဏာလုံးဝပေးထားခြင်း မရှိခဲ့ပါ။ သုံဒ္ဒတို့၏ဘဝသည် သားကောင်သတ္တဝါတို့၏ ဘဝများထက် မည်သို့မျှ မခြားနားခဲ့ပါ။ ၎င်းတို့အတွက် ဗြာဟ္မဏများ စည်းကမ်းသတ်မှတ်ထားသည်မှာ 'သုံဒ္ဒရ'တယောက်သည် သစ္စာရှိရှိ၊ ယုံယုံကြည်ကြည်၊ မိမိတို့ထက် အဆင့်မြင့်သောသူများအား အလုပ်အကျွေးပြုသွားလျှင် နိဗ္ဗာန်ရောက်လိမ့်မည်။

အစောပိုင်းကတင်ပြခဲ့ပြီး 'အနုလောမ အိမ်ထောင်ပြု' စံနစ်ကလွဲလို အခြားရှစ်မျိုးသော အိမ်ထောင်ပြုခြင်းတို့ကို ဝေဒခေတ်က သတ်မှတ်ပြဌာန်းခဲ့ပါသည်။ ယင်းရှစ်မျိုး (ပဋိလောမ) အိမ်ထောင်ပြုသည်စံနစ်အရ ဗြာဟ္မဏ၊ ခတ္တိယ၊ ဝသယ၊ သုံဒ္ဒရတို့မျိုးနွယ်မှ ယောက်ျားများသည် မိမိတို့ထက် အဆင့်မြင့်ကြသော မျိုးနွယ်တို့မှာ မိန်းမမျိုးနှင့် အိမ်ထောင်ပြုလာရခြင်းကို (ပဋိလောမ) အိမ်ထောင်ပြုနည်းဟု ခေါ်ခဲ့ကြသည်။ သို့သော ထိုခေတ်ထိုအခါမှာ ပတိလောမ အိမ်ထောင်ပြုခြင်းသည် ရှားပါးခဲ့သည်။ အခြားအိမ်ထောင်ပြုသည့်စံနစ်မျိုးမှာ (၁) ဗြာဟ္မ၊ ဒေဝ၊ အာစ်၊ ပရဇာပတ္တယ၊ အသုရ၊ဂန္ဒဗ္ဗယက္ခနှင့်၊ ပဲဆာကျစံနစ်တို့ဖြစ်ခဲ့ကြသည်။ လက်ရှိ အိန္ဒိယနိုင်ငံ၏ အခြေခံဥပဒေများက ဂန္ဒဗ္ဗနှင့် ပဲဆာကျ အိမ်ထောင်ပြုသည်နည်းစံနစ်များကို ခွင့်မပြု၊ အိမ်ထောင်ကျင့်ဝတ်နှင့် မကိုက်ညီပါဟုတရားမဝင် အိမ်ထောင်မျိုးဟု သတ်မှတ်ထားသည်။ ဝေဒခေတ် အာရိယာန်လူမျိုးများသည် လူကျင့်ဝတ်ဆိုင်ရာကိစ္စများ အမည်တပ်ကာ ပြည့်တန်ဆာရုံနှင့် မိန်းမပျက်ရုံလို နေရာမျိုးကို ဖွင့်လှစ်ပေးထားခြင်းသာ ဖြစ်သည်။

လူမှုကျင့်ဝတ်ကောင်းတခုမျှလိုက်နာခြင်းမရှိခဲ့ပါ။ သူတို့ခေတ်တွင် ယာဇ်ပူဇော်ပွဲနေရာများသည် 'အမဲသတ်ရုံ' များထက် ဘာမျှမခြားဖြစ်နေခဲ့ရပါသည်

ဝေဒခေတ်တွင် 'နိယောဂ' ခေါ် အလေ့အထတခုရှိခဲ့ပါသည်။ နိယောဂ၏အနက်မှာ မုဆိုးမတစ်ဦးသည် မိမိနှင့်ရင်းနှီးသည့် ဆွေမျိုးသားချင်း တစ်ဦးဦးနှင့် ကါမစပ်ရက်မှုပြု၍ ခလေးမွေးလို့ရနိုင်သည့်စီစဉ်မှုကို ဆိုလိုပါသည်။ သမိုင်းကျော်ရာမလက္ခဏ၊ ဘာရတစသည့်မင်းသားများသည် ထိုစီစဉ်မှုအရ မွေးဖွားလာခဲ့ရပါသည်။ မဟာဘာရတဇာတ်ထဲက ပါဏ္ဍဝမင်းသားများတို့က ထို 'နိယောဂ' စီစဉ်မှုဖြင့် မွေးဖွားလာခဲ့သူများ ဖြစ်ကြခဲ့ပါသည်။ ဝေဒခေတ်တွင် ယမီခေါ် နှမအရင်းဖြစ်သူ အမျိုးသမီးမှာ အကိုအရင်းဖြစ်သူ (ယမ) အား ကါမစပ်ရက်မှုပြုလုပ်ရန် မေတ္တာရပ်ခံ တောင်းဆိုခဲ့ပါသည်။ ထိုခေတ်၊ ထိုအခါက အဟိလ္လိယာ၊ ဒြုပဒီ၊ တာရာ၊ ကွန်းသီးနှင့်၊ မန်ဒိုဒရီခေါ် ငါးပါးသောကညာတို့ကို အောက်မေ့တမ်းတလျှက် အပြစ်မျိုးစုံမှ လွှင်ကင်းနိုင်ပါသည်။ အမှန်စင်စစ် ယင်ငါးပါးစလုံးတို့က လူ့ကျင့်ဝင်ပျက်ပြားခဲ့သော မိန်းမမျိုးဖြစ်ခဲ့ပါသည်။ တမျိုးပြောရပါက (ဗျာဘာကျရီဏီ) လို့ဆိုရပါမည်။

ဟိန္ဒူဘာသာဝင်တို့၏ လေးစားမြဲအပ်သောဝိသုန္နိုနတ်သည် 'ဗရိန္ဒာ' ခေါ်မယား ကျင့်ဝတ်နှင့်အညီနေထိုင်သူအား လှည့်ပြား၍ ကါမစပ်ရက်ခဲ့ပါသည်။ ထိုတင်မက ဟိန္ဒူများ၏ ဗြာဟ္မာက သ္မီးသူရသတီနတ်သ္မီးကိုပင်ကြံစည်ပြုလုပ်ခဲ့ပါသည်။ ဒေဝတာ (နတ်) တို့၏ ဂုရုကြီးဖြစ်သော ဘိရိဟစွကိကြီး မိမိအကို အရင်းဖြစ်သူ၏မယားမ ပတာဒေဝီအား သဘောမတူဆက်ဆံလာသည့်အခါ 'ဘာရဒွါဇ' ကို မွေးဖွားခဲ့ပါသည်။ အဒ္ဒြရမှာ နတ်ဒေဝတာတို့၏မင်းဖြစ်သည်။ ထိုနတ်မင်း၏ သဘင်တွင် များပြားသော အပ္ပဆရာ (ကချေသည်) များရှိနေကြသည်။ အိဒ္ဒြရ၏ နတ်သဘင်တွင် ဟိန္ဒူဘာသာဝင်တို့ ကိုးကွယ်ကြသော ရိက္ခိမုနိများအပြင် အခြားနတ်ဒေဝတာတို့ တက်ကြပါသည်။ ၎င်းတို့က ယင်းကချေသည်များနှင့် မကြာခဏ ဖောက်ပြန်လေ့ရှိကြသည်ဟု ဆိုထားသည်။ နတ်မင်းကြီး အိဒ္ဒြရ (သိကြာမင်း)က အဟိလ္လကို မုဒိမ်းကျင့်ခဲ့သည်။ နတ်အပေါင်းတို့၏ ဆရာ (ဂုရု) ကြီးဖြစ်သော ဘိရိဟစ္စပတိက မဟုတ်မတရားပြုကျင့်ခဲ့သည့်အတွက် ဘာရဒွါဇမုနိကို မွေးဖွားခဲ့ရပါသည်။ သိကြာမင်းက ယင်းဆရာကြီး၏ တပည့်ရင်းဖြစ်သူ စန္ဒြာနှင့်ပေါင်းစီး အဟိလ္လယာအား



ဟိန္ဒူများကပိုင်သည်ဟုစွပ်စွဲက သိမ်းဆီထားသည်။ မဟာဝိဟာရကျောင်းတွင်မှာ သျှိဝလိင်ဂ်ကို ထာပနာထားခြင်းမှာ ဟိန္ဒူများလက်ချက်ဖြစ်သည်။ အရှုရာယ်ဖြစ်အောင်ဖန်တီးထားသော လုပ်ရပ်ဖြစ်နေပါသည်။ ဝိဟာရကျောင်းအပြင်ရှိ အခန်း (၅) ခန်းထဲမှာရှိနေသော ပဥ္စဝဂ္ဂီငါးပါးတို့၏ ရုပ်ထုများကို ပါဏ္ဍဝမင်းသားငါးပါးတို့၏ ရုပ်ထုပါဟု မဟုတ်မတရား ကြေငြာခြင်း ပြောဆိုခြင်းမျိုးမှာ ဟိန္ဒူမြေမနုဝါဒတို့၏ ပြောဆိုခြင်းများ ကြေငြာခြင်းများမှာ ရယ်စရာဖြစ်နေပါသည်။ ယ္ခုလိုဝါဒဖြန့်ချိမှုမျိုးက နိုင်ငံခြားသြေ့သည် ဗုဒ္ဓဘာသာဝင်တို့အကြား သံသယပွါးများစေပါသည်။ ထိုအပြုအမူများက မနုဝါဒတို့၏ သေချာစဉ်းစားထားသော ကလိမ်ဉာဏ်သာ ဖြစ်သည်။

ထိုအခြေအနေနှင့် အဖြစ်မျိုးတွင် ရှင်ဗုဒ္ဓအား ဝိသနိုး၏ ကိုယ်ပွါးဗုဒ္ဓဘာသာက ဟိန္ဒူမြေမှ ဆင်းသက်လာ သောမြေ၊ ဗုဒ္ဓဘာသာသည် ဟိန္ဒူဘာသာ၏ အစိတ်အပိုင်း၊ တခုဖြစ်ကြောင်းဟု ပြောဆိုဝါဒဖြန့်သူများကို ကန့်ကွက်ဆန့်ကျင့်သွားရမည့်တာဝန်မှာ အိန္ဒိယနိုင်ငံသား ဗုဒ္ဓဘာသာဝင်တို့၏ တာဝန်ဖြစ်ရမည်။ ကမ္ဘာရှိဗုဒ္ဓဘာသာများတို့ ဒီလိုပြောဆိုခြင်း ယုံကြည်ယူဆခြင်းမှာ မိစ္ဆာဒိဋ္ဌိဖြစ်သည်။ ရှုးသွပ်နေကြသူများစကါးဖြစ်သည်ဟု ကန့်ကွက်ဆန့်ကျင်သွားရပါမည်။ ထိုအဖြစ်မှ လွှတ်ကင်းရန် အောက်တွင်ဖော်ပြထားသည့်အတိုင်း ကြိုးပမ်းအားထုတ်သွားရပါမည်။

၁။ ရှေးဟောင်းခေတ်ကတည်ဆောက်ထားခဲ့သည် ဗုဒ္ဓကျောင်း ဝိဟာရ၊ ပုထိုးစေတီများကို ဗြာဟ္မဏလက်ထဲမှ မိမိတို့လက်ထဲ့သို့ယူနိုင်ရန် အဆက်မပြတ်ကြိုးစားသွားရပါမည်။ ၂။ ရှင်ဗုဒ္ဓမှာ ဝိသနိုး၏ ကိုယ်ပွါးမဟုတ်ကြောင်း အကြောင်းအရာနှင့် စပ်လျဉ်းပြီး အကြိဖလှယ်ပွဲများ
ယ်သည့်အနေဖြင့် လမ်စုံနေရာတို့ မှာ မီးရှို့ဖျက်ဆီးပေးရမည်၊

မဟုတ်မတရား ကျင့်ခဲ့သည်။ သူရိယနေမင်းက ကွန်သီးကို မဟုတ်မတရား ကျင့်ခဲ့သည်။ ကွန်းသီးမှာ ပါဏ္ဍဝမင်းသားတို့၏ မိခင်ဖြစ်သည်။ မဟာဘာရတ၊ ဝိသုနိုပုရာဏကျမ်း၊ သိရီမဒဘာဝပ်ဂီတာကျမ်းနှင့်၊ ဟရိဝံသပုရာဏကျမ်းတို့၌ သိရိကိရိဋ္ဌနာ (ပုလွေကိုင်ဘုရာ)၏ ဘရ၍ဝါသိနီ (ဘရ၍နယ်မှာ) နေထိုင်ကြသူ အမျိုးသ္မီးပျိုတို့ အချင်းချင်းချစ်ကြိုက်သည့် ဇာတ်လမ်းများကို တရိတသေဖော်ပြပေးထားသည်။ ၎င်းတို့အချင်းချင်း ဆင်နွဲခဲ့ကြသည့်ဇာတ်လမ်းများ အက်မ

လိုက်ဖတ်ရှု လေ့လာသူများက ယင်းပြုလုပ်ချက်များကို လူမိုက် လူယုတ်များ၏ ပြုလုပ်ချက်များဖြစ်ကြောင့်သာ ပြောဆိုဝေဖန်ကြမည်ဖြစ်သည်။

ဟိန္ဒူများကိုးကွယ်လာခဲ့ကြသော ရိက္ခိမုနိတို့က အတိုင်းထက်အလွန် ဗျာဘိစာရီ (ကါမကျူးသူ) များဖြစ်ကြသည်။ မဟာရိက္ခိပရာဆာရသည် မဟာရိက္ခိများအရေးအတွက်တွင် ပါဝင်ခဲ့သူတစ်ဦးဖြစ်သည်။ ထိုသူသည် ပရာဆရ မရမိကမည်သော ကျမ်းစာအုပ်ကို ရေးသားပြုစုခဲ့သော ကျမ်းဆရာကြီး အနေဖြင့် ထင်ပေါ်ကျော်ကြားသည်။ ၎င်းကျမ်းကို ဟိန္ဒူဘာသာဝင်တို့က တရိုတသေ ဖတ်ရှုလေ့လာကြပါသည်။ ထိုကျမ်းပြုဆရာကြီးမှာ လှေထိုးသမားတစ်ဦး၏ သမီးသုရသဝတီအား အနိုင်ကျင့်ကြံခဲ့ပါ၍ ၎င်းမှာ မဟာဘာရတကျမ်းကြီးကို ရေးသားခဲ့သည်။ ဗျာသကြီးမွေးဖွားခဲ့ပါသည်။ မဟာရိက္ခိဝိဆွာမိတ္တသည် မေနကါအမည်ရှိ ပြည့်တန်ဆာတဦးကို ကျင့်ကြံခဲ့ရာ၊ သကုန္တလာ မွေးဖွားခဲ့ရပါသည်။ သကုန္တလာမှာ နောက်ပိုင်းတွင် ဒုစယန္တခေါ် ဘုရင်ကြီးကို ချစ်ကြိုက်မိခဲ့ပါသည်။ မဟာရိက္ခိဘာဒွါဇာ၏ မတော်မတရား ကျင့်ကြံမှုကြောင့် ဒေါဏ ပုဏ္ဏားကြီး မွေးဖွားခဲ့ရပါသည်။ မဟာဘာရတ မဟာကဗျာကျမ်းကြီး၏ ဇာတ်ကောင်များဖြစ်ခဲ့သော ဂါရိပနှင့်၊ ကရိပီတို့က ဤသို့ပင် မတော်မတရားကျင့်ခံရသူများ၏ ရင်သွေးများ ဖြစ်ကြခဲ့ပါသည်။ မဟာရိက္ခိသဂ္ဂုတ်နှင့် ဝါသေဋ္ဌတို့ကလည်း ယ္ခုလိုမတော်မတရားကျင့်ခံရသူမှ ပေါက်ဖွားလာကြသူများ ဖြစ်ကြပါသည်။ နောက်ဆုံးတွင် ဆိုလိုခြင်းမှာ ဝေဒိကဓမ္မနှင့် ဟိန္ဒူဓမ္မတို့၏ သမိုင်းမှာ မတော်မတရားကျင့်ခံရသူများ၏ ဇာတ်လမ်းဖြစ်ကြောင်း ထောက်ပြလိုပါသည်။ တမျိုးပြောရပါလျှင် ဟိန္ဒူဓမ္မ၏အကြောင်းရင်းတို့သည် ပရဂျန်း၊ သီလာ ကရုဏာနှင့် မေတ္တာတရားတို့အပေါ် အခြေမခံဘဲ၊ မတော်မတရားကျင့်ကြံခြင်း၊ သတ်ဖြတ်ခြင်း၊ မဟုတ်မတရားပြုလုပ်ခြင်း၊ နိုင်ထက်စီးနင်းပြုခြင်းတို့အပေါ် အခြေခံကြောင်း ထင်ရှားနေပါသည်။ များပြားသောလူတို့သည် ယနေ့အထိ ဟိန္ဒူဓမ္မကို ယုံကြည့်အားကိုးကာ ယာဇ်ပူဇော်ခြင်းများ လုပ်လေ့ရှိသည်။ ၎င်းယာဇ်ပူဇော်ခြင်းများတွင် ကျွဲ၊ နွား၊ ကြက်၊ ငှက်၊ ဆိတ်၊ သိုးစသော သတ္တဝါများအား သတ်ဖြတ် ဗလိနတ်စားအဖြစ်သတ်မှတ်ကာ ပူဇော်လေ့ရှိကြပါသည်။ ဤသို့ပြုလုပ်ခြင်းသည် အိန္ဒိယနိုင်ငံ၏ နယ်မြေတခုတည်း၌ ပြုလုပ်ခြင်းမျိုးမဟုတ်ဘဲ အိန္ဒိယတစ်ဝှမ်းလုံးတွင် ပြုလုပ်လေ့ရှိကြပါသည်။ ရံဖန်ရံခါ ကလေးသူငယ်များကိုလည်း ဗလိနတ်စားအဖြစ်သတ်ဖြတ်သွားသည်။ များပြားသော ဖြစ် လာ



သူတော်စင်များ အမည်ခံတို့က ဤကဲ့သို့သော မဟုတ်မတရားပြုခြင်းတို့၌ ပါဝင်လျက်ရှိကြောင်းကို တွေ့ရှိရပါသည်။ အမည်ခံသူတော်စင်များသည် မိမိ၏ တပည့်သာဝက ကျား၊ မ မရွေးလိင်ဆက်ဆံမှုကို ပြုလုပ်လေ့ရှိကြပါသည်။ မဟုတ်မတရားပြောဆိုခြင်း၊ ပြုလုပ်ခြင်းတို့က ဟိန္ဒူလူမှုအသိုင်းအဝိုင်းတွင် သာမန်ကိစ္စဖြစ်နေကြောင်း တွေ့ရှိနေရပါသည်။ လောင်းကစားခြင်း၊ ဆေးခြောက်ရှူခြင်း၊ ကာမဂုဏ်ကို အားပေးမြှင့်တင်ပေးသော စိတ်ကြွဆေးရည်များ သောက်သုံးခြင်းစသော မကောင်းမှုများကို ၎င်းတို့ကိုးကွယ်ကြလေ့ရှိသော် နတ်ဘုရားများဖြစ်သော သျှိဝ၊ ရှန်ကါရ်၊ ဘေရဝါတို့ကို အမှီပြု၍ သောက်သုံးလေ့ရှိကြပါသည်။ ဆိုလိုရင်းမှာ ယနေ့ပြုလုပ်လျက်ရှိသော မကောင်းမှုများ လူ့ကျင့်ဝတ်နှင့်မကိုက်ညီသော လုပ်ရပ်ရာများအားလုံးတို့က ဝေဒနှင့်၊ ဟိန္ဒူဓမ္မအမည်ခံကာ လုပ်နေကြသည်။

လူအချို့တိုက ပြောဆိုလေ့ရှိသည့်မှာ အရှင်ဗုဒ္ဓပြဌာန်းပေးသော ဓမ္မသည် အထူးအဆန်းမဟုတ်ပါ။ ၎င်းဓမ္မသည် ဟိန္ဒူဓမ္မအား ပြန်လည်ပြင်ဆင်သော သဏ္ဍာန်တခုဖြစ်သည်ဟု ဆိုကြပါသည်။ ဗုဒ္ဓပေးခဲ့သော ဓမ္မဒဿနသည် ယခင်ကတည်းက ကျွန်ုပ်တို့ ဝေဒကျမ်းများနှင့် ဥပနိသျှဒ်ကျမ်းများမှ သွန်းသင်သော ဓမ္မဒဿနမျှသာ ဖြစ်ပါသည်ဟုဆိုကြပြန်သည်။ ယနေ့ခေတ်တွင် ဆွာမိဒယနန္ဒ၊ ဆွာမိဝိဝေကနန္ဒ၊ ဆွာမိသဒ္ဓါနန္ဒ၊ ရာဇာရမ်းမိုဟန်ရာယကဲ့သို့သော ပုဂ္ဂိုလ်ကြီးများက ဟိန္ဒူဓမ္မကို သန့်စင်ပေးသူများတို့ကို လူအများက လေးစားကြည်ညိုကြပါသည်။ ၎င်းပုဂ္ဂိုလ်ကြီးများမှာ အာရိယာန်ဆမာ ခေါ်အသင်းအဖွဲ့မှာ ပုဂ္ဂိုလ်များ ဖြစ်ကြသည်။ ၎င်းတို့အား လိုက်နာမှုရှိသော လူဦးရေလည်းများပြားပါသည်။ လေးစားညိုဘွယ်ကောင်းသော ပုဂ္ဂိုလ်ထူးများဖြစ်ကြသည်။ သို့သော် ၎င်းပုဂ္ဂိုလ်များမှာ ဝေဒနှင့် ဥပနိသျှဒ်ကျမ်းများ၌ သွန်းသင်ချက်များကို ပြန်လည်အဓိပ္ပါယ်ဖွင့်ပြီး တကယ်လူမှုအသိုက်အဝန်းကို ပြန်လည်သန့်စင် စင်ကြယ်သွားအောင် ကြိုးပမ်းအားထုတ် ကြသူများ ကြပါသည်။ ၎င်းတို့မှာ ဝေဒဓမ္မနှင့် ဟိန္ဒူဓမ္မကို ပြန်လည်းသန့်စင်စင်ကြယ် အောင်လုပ်သူများဖြစ်ကြပါသည်။

သို့သော် ရှင်ဗုဒ္ဓမှာ ဝေဒနှင့်ဟိန္ဒူဓမ္မကျမ်းများမှ ဘာမျှမယူ လုံးဝ ဓမ္မသစ်ဒဿနသစ်တခုကို တည်ထောင်ပေးသူ မဟာမာနာ တစ်ဦးဖြစ်ခဲ့ပါသည်။ ဓမ္မသစ်တရားသစ်တခုကို စတင်တည်ထောင်ပေးသူ ရှင်ဗုဒ္ဓအား ဟိန္ဒူများက အစဉ်ပြက်ရက်ပြုမသင့် မလျော်ကန်သည့်စကားလုံးများဖြင့် သုံးစွဲပြောဆိုစွပ်စွဲခဲ့ကြပါသည်။ ရာမာယနကျမ်းကြီးတွင် ရေးသာဖော်ပြပေးသည့် ဥပမာတခုကို ဒီနေရာတွင် တင်ပြလိုက်ပါသည်၊ သူခိုးတယောက်ကို အပြစ်ပေးထိုက်သည့် ဥပမာနှင့် ဗုဒ္ဓဘာသာဝင်တို့ အပြစ်ဒါဏ်ခတ်သင့်ပါသည်ဟူ၍ ရေးသားထား ပါသည်။ တောတောင်ထဲမှာ ခွေးအများအော်ဟစ်သလို လူ့ပုရပုဏ်တွင် ဗုဒ္ဓနှင့် ဗုဒ္ဓဘာသာဝင်တို့ အော်ဟစ်ကြပါကြောင်းကို ဆက်လက်ရေးသားထားသည်။ အထက်စွပ်စွဲချက်၊ ဆဲဆိုးခြင်းကို တွေ့ရှိရ၍ ဟိန္ဒူဘာသာဝင်တို့က ဗုဒ္ဓဘာ သာဝင်တို့ပေါ်ထားရှိသည့်သဘောထားက ရှင်းနေပါသည်။ အကယ်၍ ရှင်ဗုဒ္ဓ က ဟိန္ဒူဘာသာကို ပြန်လည်ပြင်ဆင်၍ တင်ပြထားသည်ဆိုပါက ၎င်းဟိန္ဒူ များက ဘယ်နည်းနဲ့မှ ဤသို့သောစကားများကို သုံးစွဲသွားကြမှာမဟုတ်။ ဘုရားရှင်ဗုဒ္ဓ၏တရားများက ဘက်လိုက်ခြင်း ကင်းမဲ့စွာ ဖတ်ရှုလေ့လာသွား ပါက၊ ဗုဒ္ဓဘာသာသည် ဟိန္ဒူဘာသာ၏ ပြန်လည်သန့်စင်ထားကြပါသည်။ ၎င်းတို့မှာ ဝေဒဓမ္မနှင့် ဟိန္ဒူဓမ္မကို ပြန်လည်းသန့်စင်စင်ကြယ် အောင်လုပ်သူ များဖြစ်ကြပါသည်။ ၎င်းတို့မှာ ဝေဒဓမ္မနှင့်၊ ဟိန္ဒူဓမ္မကို သဏ္ဌာန်တခုဖြစ် ကြောင်း လို့ပြောဆိုကြသူများ၏ ထိုသို့ပြောဆိုချက်မှာ ဒဿနနှင့်မညီ၊ သမိုင်း အထောက်အထားမရှိ၊ အခြေအမြစ်မရှိ၊ လုံးဝမှားနေသော ပြောဆိုချက်များ ဖြစ်နေကြပါသည်။ ကျွန်ုပ်ပြောဆိုနေသည်ကို အောက်ပါအချက်အလက်များနှင့် ထောက်ခံပေးသွားမည်ဖြစ်ကြောင်း။ ၁။ ဝေဒဓမ္မမှာ ဝေဒကျမ်းများမှ ပေါ်ထွန်း လာခဲ့ရပါသည်။ ဝေဒကျမ်းများမှာ ထာဝရဘုရား (ဣဿရ)၏ တည်ထွင်ချက် များဖြစ်သည်။ ရှင်ဗုဒ္ဓက ထိုအချက်အလက်များကို မယုံကြည်။ သို့ဖြစ်ပါ၍ ဟိန္ဒူများက ရှင်ဗုဒ္ဓအား ဝေဒကို ဆန့်ကျင်သော ပုဂ္ဂိုလ်တစ်ဦးအနေဖြင့် သတ် မှတ်ကြကုန်သည်။ ပြက်ရက်ပြုကြသည်။ ၂။ ဝေဒကျမ်းက စကြဝဠာ၏ နောက် ဆုံးအဏာပိုင်မှာ ထာဝရဘုရားသခင်ကို သတ်မှတ်သည်။ ယုံကြည်ကြသည်။ ရှင်ဗုဒ္ဓက ကမ္ဘာနှင့် ကမ္ဘာရှိသတ္တဝါအပေါင်းတို့အစဉ် ပြောင်းလဲမှုရှိကြောင်း လက်ခံယုံကြည်သည်။ တခဏနှင့် တသက်လျာဖြစ်ကြောင်း ယုံကြည်သည်။



၃။ ဝေဒက အတ္တမကိုယုံကြည်သည်။ အတ္တမသည် ဘယ်သောအခါမျှ မပျက်စီး။ အမြဲတည်ရှိသည်အရာ ဖြစ်ကြောင်းယုံကြည်ကြသည်။ ရှင်ဗုဒ္ဓက အတ္တမရှိ ကြောင်းကို လက်မခံ၊ အတ္တမအမြဲတည်ရှိနေပုံကိုလည်း မယုံကြည်၊ လက်မခံ ဖြစ်သည်။ ၄။ ဝေဒက ဗြာဟ္မာနှင့် ထာဝရဘုရားသခင်၏ အာဏာကို ယုံကြည် လက်ခံသည်။ ရှင်ဗုဒ္ဓက ထိုအယူအဆမျိုးက စိတ်ကူးယဉ်သက်သက် ဖြစ် ကြောင်း ပြောဆိုသည်။ ၅။ ဝေဒကျမ်းများ၌ ယက်ဇ်ပူဇော်ပွဲများ ပြုလုပ်သွားရန် ပြဋ္ဌာန်းချက်များရှိကြသည်။ ယာဇ်ပူဇော်ပွဲများတွင် ဗလိနတ်စားကျွေးခြင်း သတ္တဝါများကို သတ်ဖြတ်ပူဇော်ခြင်းစသော လုပ်ရပ်မျိုးကို ရှင်ဗုဒ္ဓက တားမြစ် ပါသည်။ ယာဇ်ပူဇော်ပွဲ မကျှာပ်သို့ ကိုယ်တိုင်ကြွချီ၍ ပိတ်ပင်တားမြစ်ခဲ့ပါသည်။ ၆။ဝေဒကျမ်းများက ဇာတ်ခွဲသည့်စံနစ်ကို ထောက်ခံအားပေးသည်၊ ထို့အပြင် အာရှရမ်းဟူသော ဘဝခြားနားပိုင်းထားသည့်စံနစ်ကို လက်ခံယုံကြည်သည်။ ရှင်ဗုဒ္ဓက ဇာတ်အနိမ့်၊ အမြင့်ခွဲခြား၍ မမြင်တတ်၊ အာရှရမ်းစံနစ်ကိုလည်း မ ယုံကြည်၊ လူလူချင်းခြားနားမှုကို လက်မခံ၊ အားလုံးသောလူတို့သည် တန်းတူ ညီမျှသည်။ ရှင်ဗုဒ္ဓက မိမိသံဃာအဖွဲ့တွင် မိန်းမသားများ ဝင်ခွင့်ပြုသည်။ ဟိန္ဒူ ဘာသာဝင်တို့က ယနေ့တိုင် ဇာတ်စံနစ်ကို လက်ခံကျင့်သုံးလျက် ရှိနေကြောင်း တွေ့ရှိရပါသည်။

၇။ ဝေဒကဓမ္မနှင့် ဟိန္ဒူဓမ္မတို့မှာ မျက်ကန်းယုံကြည်မှုအပေါ် အခြေခံကြသည်၊ ဗုဒ္ဓဓမ္မမှာ ရေနှင့်နို့ရည်ကို ခွဲခြား၍ မြင်တတ်သော ဉာဏ်ပညာ(ပရဂျန်း) ဉာဏ် အပေါ်အခြေခံသည်။ သိပ္ပံအမြင်ရှိ၏။ ၈။ ဝေဒဓမ္မနှင့်ဟိန္ဒူဓမ္မတို့က ဒုစရိုက် ကျင့်စဉ်၊ အမေတ္တာ၊ စာရိတ္တပျက်ပြားခြင်း၊ ဒုရာစာရတို့အပေါ်အခြေခံသည်။ ဗုဒ္ဓဓမ္မမှာ မေတ္တာ၊ သီလ၊ ကရုဏာစသောတရားစစ်၊ တရားမှန်တို့ကို အခြေခံ ထားသည်။

၉။ ဟိန္ဒူဘာသာဝင်တို့ ယနေ့တိုင်ကျောက်များဖြင့် ထုထားသည့်ရုပ်ထုများ ရှေ့၊ ကျွဲ၊ နွား၊ ဆိတ်၊ သိုးစသောသတ္တဝါများကို သတ်ဖြတ်ပူဇော်ခြင်းမျိုးကို လုပ်ကြသည်။

၁၀။ ရှင်ဗုဒ္ဓနှင့်ဓမ္မမှာ ထိုအပြုအကျင့်များအတွက် နေရာမရှိ။ ဗုဒ္ဓဘာသာသည် အဟိံသတရားပေါ်အခြေခံ၏။ ထို့ကြောင့် ယင်းဓမ္မနှင်၊ ဓမ္မဝင်တို့သည် သတ္တဝါ တိုင်းအပေါ် မေတ္တာထားကြ၏။ ထိုသို့အကျင့်မျိုးကို တန်ဘိုးထားကြသည်။

၁၁။ ဟိန္ဒူတို့သည် နတ်များ၊ နတ်သမီးများကိုဗန်းပြ၍ ဆေးခြောက် ဘိန်းစသည့် မူးယစ်ဆေးဝါမျိုးစုံတို့ကို မှီဝဲကြသည်။ ထိုသို့မူးယစ်စေသော အရာများကို

မှီဝဲခြင်းမှာ သန့်စင်မှန်မြတ်ကြောင်း ယူဆကြသည်။ ထိုသို့ ၄င်းတို့ ကျူးလွန်သည့် လုပ်ရပ်များမှာ အမင်္ဂလာ၊ ဒုစရိုက်နှင့် မပြုလုပ်အပ်သော အရာပင်ဖြစ်ကြ၏။ အထက်တွင်ပြထားသည့်အချက်၁၀–ချက်များကို ထောက်ရှုသော် ဗုဒ္ဓဓမ္မမှာ ဝေဒနှင့်၊ ဟိန္ဒူဓမ္မတို့၏ သန့်စင်ပြန်လည်မွန်းမံထားသည့် သာမန်မဟုတ်နိုင်ကြောင်း ထင်ရှားနေပါသည်။ ယင်းဓမ္မနှစ်ရပ်စလုံးမှာ တခုနှင့်တခု ဆန့်ကျင်ဘက်တရားပေါ် Law of contradiction ပေါ် ဆက်ဆံမှုရှိပါကြောင်း။ ရှင်ဗုဒ္ဓက လုံးဝဓမ္မသစ်တခုကို ရှာဖွေတည်ထောင်သွားခဲ့ပါသည်။ ဗုဒ္ဓဓမ္မသည် ဝေဒနှင့်၊ ဟိန္ဒူဓမ္မတို့၏ အခြေခံမှာ ကွဲပြားခြားနားနေသည့် တရားဓမ္မတခု ဖြစ်သည်။ ၄င်းဓမ္မတို့ အချင်းချင်းဆက်ဆံမှုကို (High Nagative cocrdire lation) ရှိကြောင်း ပြောဆိုနိုင်ပါသည်။

မြောက်ယဉ်စွန်းတန်းနှင့် တောင်ယဉ်စွန်းတန်းသဖွယ် ကွားခြားမှုရှိနေပါသည်။ ဗုဒ္ဓယဉ်ကျေးမှုထုံတမ်းဓလေ့တို့က လွဲ၍ ဒဿနာဆိုင်ရာကိစ္စများ၌ လုံးဝခြားနားနေကြပါသည်။ ရှင်ဗုဒ္ဓ၏ တရားတော်များမှာ 'ဒုက္ခမှ လွတ်ကင်းခြင်း' အတွက် ဖြစ်ပါသည်။ နိဗ္ဗာန်ရောက်ကြောင်း လမ်းပြပေးသော တရားများဖြစ်ကြပါသည်။ ရှင်ဗုဒ္ဓမှာ အစွန်းနှစ်ဖက်ကိုပယ်၍ မဇ္ဈိမလမ်းကို လျှောက်ရန်ပြောခဲ့ပါသည်။ ဝေဒကျမ်းများ၌ ကိုယ်ချင်းစာတရား၊ သီလ၊ သမာဓိနှင့် နေထိုင်ရပါမည်ဟု အဘယ်မှာမှ မပြောထား၊ ထို့အပြင် ရှင်ဗုဒ္ဓမှာသစ္စာလေးပါး၊ အရိယသစ္စာ (ဝါ) ဒုက္ခဖြစ်ရခြင်း၏အကြောင်း ၄င်းဒုက္ခမှာ မည်သို့ တားမြစ်နိုင်ကြောင်း (နိရာဓ) သစ္စာနှင့်၊ မဂ္ဂင်းရှစ်ပါးတို့ကို ဟောပြောဆုံးမသွန်သင်ထားပါသည်။ ဗုဒ္ဓဓမ္မမှာ ပညာဉာဏ်ပေါ် အခြေခံသဖြင့်သိပ္ပံဆန်၏ ပဋိစ္စသမုပ္ပါဒ် အကြောင်းအကျိုးဖြစ်သည်ဟူသော တရားပေါ်အခြေခံထားသည်။ ဗုဒ္ဓတရားတော်မှာ ဘယ်နည်းနဲ့မှ ဟိန္ဒူဓမ္မ (ဝါ) ဝေဒဓမ္မများမဖြစ်နိုင်။ ယင်းဓမ္မသည် ဟိန္ဒူဓမ္မ၏သန့်စင်သည့် သဏ္ဍာန်တခုမဖြစ်နိုင်၊ လုံးဝ ဓမ္မသစ် တရားသစ်ဖြစ်ပါသည်။

## ဗုဒ္ဓမှာဟိန္ဒူမဟုတ်၊

မသိနားမလည်ကြသောသူတို့သည် ဤသို့ပြောလေ့ရှိကြသည်။ ဘုရားရှင်၏ ဖခမည်းတော်သုဒ္ဓေါဒနမင်းကြီးသည် ဟိန္ဒူဓမ္မကို လိုက်နာကိုးကွယ်သည့် သူတယောက်ဖြစ်၍ သိဒ္ဓတ္ထမင်းသားအလိုအလျောက် ဟိန္ဒူဘာသာ ဝင်တစ်ဦးဖြစ်နေပြီး၊ အချို့အချို့သော သူတို့သည်၊ ဗုဒ္ဓမှာ ဟိန္ဒူစ္စတန်နိုင်ငံတွင်



မွေးဖွားလာခဲ့သဖြင့် ဟိန္ဒူတစ်ဦးဖြစ်ကြောင်း အကြောင်းပြပြောဆိုလေ့ရှိကြသည်။ ဤသို့သော ပြောဆိုခြင်း ၂–ရပ်လုံးမှာ သမိုင်းကို နားမလည်၊ အခြေခံဘာမျှမရှိ၊ မဟုတ်မမှန် ပြောဆိုခြင်းမျိုးသာဖြစ်သည်။ အကြောင်းမှန်အဖြစ်မှန်က ဤသို့တည်း။ ၁။ ယွှုလိုပြောဆိုနေကြသော လူဗာလတို့က သိဒ္ဓတ္ထမင်းသားမှာ ဟိန္ဒူစ္စတန်နိုင်ငံတွင် မွေးဖွားခဲ့ပါသည်။ သူ့မွေးဖွားခဲ့သည့် နေရာမှန်က ဇမ္ဗူဒီပဖြစ်သည်၊ ဗုဒ္ဓကာလက အိန္ဒိယပြည်မြောက်ပိုင်း နီပေါလ်နိုင်ငံအပါအဝင် ဒေသများကို ဇမ္ဗူဒီပဟုခေါ်ခဲ့ကြပါသည်။ ယနေ့ခေတ်တွင် နီပေါနိုင်ငံတောင်ပိုင်းတွင် ကပိလဝတ္ထုခေါ် နေရာရှိပါသည်။ ထိုမှာ လုမ္ဗိနီမည်သော တောရှိခဲ့ရာ၊ သိဒ္ဓတ္ထမင်းသားမှာ ထိုလုမ္ဗိနီတောထဲ၌ မွေးဖွားခဲ့ပါသည်။ သူ၏ဖခမည်းတော်မှာ ကပိလဝတ္ထုမှာ မင်းပြုခဲ့၏။ ၂။ သိဒ္ဓတ္ထမင်းသားမွေးဖွါးခဲ့သည့် ခေတ်ကာလတွင် ဟိန္ဒူဓမ္မမပေါ်ထွန်းခဲ့ပါ။ သို့အတွက်ကြောင်း ဇမ္ဗူဒီပကို ဟိန္ဒူစ္စတန်ဟု ပြောဆိုခြင်းမှာ မှားယွင်းနေသော အချက်တခုဖြစ်နေပါသည်ဆိုတာလောက်ကို မသိရာကြဘူးလာ? သမိုင်းအရာ လုံးလုံးမှားယွင်းနေပါသည်။ ဟိန္ဒူဓမ္မသည် ဇမ္ဗူဒီပသို့ အရဗ်၊ မုဂလ်၊ တူရကီးစသော မွတ်စလင်ဘာသာဝင်တို့က ဝင်လာမှ မဒ္ဓယခေတ်ကါလတွင် ဟိန္ဒူဓမ္မ စတင်မွေးဖွားလာခြင်း ဖြစ်သည်။ ယွှုလို မဒ္ဓယခေတ်ကါလတွင် ပေါ်ပေါက်လာသော ယုံကြည်မှု (Concept) တရပ်ကို ခေတ်ဟောင်းကါလက ပေါ်ပေါက်ခဲ့သည့်ဟု ပြောဆိုခြင်းမှာ လူတို့၏ မသိနားမလည်မှုပင်ဖြစ်ရမည်။ အသိဉာဏ်ကင်းမဲ့မှုပင် ဆိုရမည်ဖြစ်သည်။ ၃။ ဤကဲ့သို့သော ဉာဏ်ပညာမဲ့နေသာ စကားလုံးမျိုးကို ပြောဆိုကြသူများက အစွန်းရောက်ဟိန္ဒူတို့၏ လုပ်ရပ်သာဖြစ်သည်။ ဗုဒ္ဓဘာသာဝင်နှင့်၊ အခြားဘာရတီယ လူ့အဖွဲ့အစည်းတွင် သံသယဖြစ်လာဘို့ ရည်ရွယ်ချက်နှင့် ပြောဆိုသည့်စကားပင်ဖြစ်ရသည်။ ၄။ ယနေ့ ရာဇ္ဇတီယသဝယံဆေဝကာသံဃ Rastriya Swam Sevaka Sangh က လူတွေပြောဆိုနေသည့်စကားတခုမှာ 'အကြင်သူသည် ဟိန္ဒူစ္စတန်နိုင်ငံတွင် မွေးဖွားပြီး၊ ယင်းနိုင်ငံတွင် နေထိုင်၏၊ ထိုသူမှသာ ဟိန္ဒူဖြစ်၏' တယ် ဆန်းတဲ့ အဓိပ္ပါယ်ဖွင့်ဆိုချက်မျိုးပါကလား? သင်တို့လို စာပေတတ်သူ စကားလုံး တစ်လုံး၏ အနက်အဓိပ္ပါယ်ဖွင့်ဆိုသူများ အခြားမရှိ၊ ထိုသို့ အဓိပ္ပါယ်ဖွင့်ဆိုသည့် နားလည်သူကမ္ဘာမှာ အခြားမရှိဟု ကျွန်ုပ်ထင်ပါသည်။

ဤကဲ့သို့သောစကားမျိုးကို ပြောဆိုနေကြသူများက ဤမျှလောက် အသိဉာဏ်ခေါင်းပါးသူများဖြစ်ကြသည့်ကို ကျွန်ုပ်အနေဖြင့် စဉ်းစားမရဖြစ်နေ

သည်။ ဟိန္ဒူစ္စတန်လို့အခေါ်ခံရသည့် ဤနိုင်ငံတွင် မွေးဖွားလာသူများ နေထိုင်
ကြသူများ ဟိန္ဒူစ္စတန်နီလူမျိုးဖြစ်ကြောင်းကတော့ မှန်ပါသည်။ သို့သော် ဟိန္ဒူ
ဘာသာဝင်ပင် ဖြစ်ရမည်ဟူ၍ ပြောဆိုခြင်းသည် လူမိုက်အလုပ်ပင်ဖြစ်သည်။
၄င်းအစွန်းရောက် ဟိန္ဒူများက၊ ဤနိုင်ငံတွင် အခြားဘာသာဝင်များ မွန်စလင်၊
ခရစ်ယာန်၊ ဗုဒ္ဓ၊ သိက္ခ၊ ပါရစီစသောသူများလည်း ဟိန္ဒူပင်ဖြစ်ရမည်ဟု ဆို
သောစကားသည် ကျွန်ုလူမိုက်၊ လူဗလာကို ပြောကြသည်စကားပင် ဖြစ်ရပါ
မည်။ ဒသနအမြင်၊ ဘာသာစကားအမြင်နှင့်လုံးဝ မှားယွင်းနေသောစကားဖြစ်
နေပါသည်။ မွတ်စလင်ဘာသာဝင်တို့က ဟိန္ဒူဘာသာဝင်တို့အား 'ကါဖိရ်'
ဟူ၍ ခေါ်ဝေါ်ကြသည်။ ကါဖိရ် ဆိုသောစကားလုံးမှာ အာရဗီဘာသာစကား
လုံးဖြစ်၍ ရုပ်ထုကိုးကွယ်သူ လူ့ဗလာ၊ လူမိုက်ဟူ၍ အဓိပ္ပါယ်ရပါသည်။ ဒီလို
ဆိုပါက၊ အစွန်းရောက်ဟိန္ဒူတွေက အယ်ဒီလို'ကါဖိရ်'ခေါ်ဆိုခြင်းကို လက်ခံကြ
မှာလား? သိက္ခဘာသာဝင်များ၏ အမြင့်ဆုံးအဖွဲ့အစည်းမှာ မကြာသေးခင်
က 'ကျုပ်တို့ သိက္ခဘာသာဝင်များက ဟိန္ဒူမဟုတ်ပါဘူး'ဟူ၍ ကြေငြာသွား
ခဲ့ပါသည်။ သိက္ခဘာသာ၊ ဟိန္ဒူဘာသာနှင့်ခြားနားနေသော ဘာသာတခုဖြစ်
ကြောင်း ကြေငြာလာသည်။ ထိုနည်းတူစွာ 'ပါရစီ'ဘာသာဝင်တို့ကို ဟိန္ဒူပါလို့
ခေါ်လို့မရနိုင်ပါဘူး။

ကျနော်တို့ ဗုဒ္ဓဘာသာဝင်များနှင့် အရှင်ဗုဒ္ဓနှင့်စပ်ဆိုင်သည်စကား
များကို ပြောဆိုကြပါစေ။ ပထမစကားကတော့ ရှင်ဗုဒ္ဓကို ဟိန္ဒူပါဟု ပြောဆို
ခြင်းနှင့် ပါသက်နေပါသည်။ အထက်တွင်ဆွေးနွေးတင်ပြထားသည့် အချက်အ
လက်များကို ထောက်ရှုရပါလျှင် ဘုရားရှင်ဗုဒ္ဓအား ဟိန္ဒူလို့ခေါ်ရခြင်းမှာ မဟာ
အမှားကြီးတခု ဖြစ်ပါလိမ့်မည်။ ဗုဒ္ဓများ၏ ဓမ္မဒဿန၊ ဓမ္မရေးရာဆိုင်သော
ယုံကြည်မှုနှင့်၊ ၄င်းတို့၏ ခိုကိုးမှုတို့က ဟိန္ဒူများနှင့် ခြားနားနေသည်။ ဆန့်ကျင်
ဘက် တရားဓမ္မတခုဖြစ်နေသည်လို့ ပြောဆိုပါက မှားလိမ့်မည်မဟုတ်။ ထို့သို့
သော အမှန်တရားတို့ကြောင့် ဘုရားရှင်ဗုဒ္ဓအား ဟိန္ဒူလို့ခေါ်ရခြင်းမှာ အ
မှားကြီးတခုဖြစ်နေမည်။ ဟိန္ဒူအချို့တို့က ရှင်ဗုဒ္ဓအား ၄င်းတို့ကို ကိုးကွယ်
သည့်ဘုရား ဝိသနိုး၏ ကိုယ်ပွါးတော်ဟူ၍ ပြောဆိုကြပါသည်။ ဘာရတနိုင်ငံတွင်
ဗုဒ္ဓဘာသာဝင်တို့၏ ဩဇာအာဏာ ထိပ်ရောက်နေ့စဉ်ကာလက ဟိန္ဒူဘာ
သာဝင် ဗြာဟ္မဏလူမျိုးများက တမင်ထွင်ပြီး ဝါဒဖြန့်ထားသည့်စကားမျိုးဖြစ်
သည်။ ဤသို့ဝါဒဖြန့်လိုက်ခြင်းအားဖြင့် ဗုဒ္ဓဘာသာဝင်တို့အတွင်း သံသယ



စိတ်ဝင်လာရန် ရည်ရွယ်ခဲ့သည့် ဝါဒဖြန့်ချိမှုမျိုးဖြစ်သည်။ လူပါးဗြာဟ္မဏလူမျိုး
က မုဂလ်(မဂို)ဘုရင်များလက်ထက်၊ ၄င်းတို့ထံမှ လာဘ်လာဘရယူရမည်ကို
ရည်ရွယ်ပြီး အလ္လိုဥပနိသျှဒ်ကျမ်းကို ပြုစုခဲ့သော ဗြာဟ္မဏတွေက ဘုရားရှင်ဗုဒ္ဓ
အား ၄င်းတို့၏ ဘုရားဖြစ်သော ဝိသနိုး၏ ကိုယ်ပွါးတော်ပါဟူ၍ ဝါဒဖြန့်ခြင်းဟာ
မဆန်းပါဘူး။ ဝေဒခေတ်ကာလတွင် ယဉ်ကျေးမှုနှစ်ရပ်ရှိခဲ့ပါသည်။ အရိယာန်
လူမျိုးများ ဒီမြေကိုရောက်လာခြင်း မရှိသည့်အချိန်ကာလ ဤနိုင်ငံတွင် သာမ
ဏယဉ်ကျေးမှုသာ ရှိခဲ့ပါသည်။ သာမဏယဉ်ကျေးမှုသည် အာရိယာန်ယဉ်
ကျေးမှုထက် သန့်စင်ကာ မွန်မြတ်ခဲ့သည့် ယဉ်ကျေးမှုတစ်ရပ်ဖြစ်ခဲ့ပါသည်။ မို
ဟန်ဂျိုဒရိုနှင့် ဟာရပ္ပါယဉ်ကျေးမှုတို့က ဤအချက်ကို ထောက်ခံသော ယဉ်
ကျေးမှုမျိုးဖြစ်ရသည်။ သမဏယဉ်ကျေးမှုနှင့် ဆန့်ကျင့်ဘက်ဖြစ်သော အာရိ
ယာန်ယဉ်ကျေးမှုမှ ရက်စက်ကြမ်းကြုတ်သည်၊ မယဉ်ကျေး၍ အကြမ်းဖက်မှု
များနေသာ ယဉ်ကျေးမှုဖြစ်ခဲ့ရပါသည်။ ဘုရားရှင်မြတ်ဗုဒ္ဓက သာမဏယဉ်ကျေး
မှု၏ အရေးပါသော ကွင်းဆက်ဖြစ်နေခဲ့သည်။ ထိုအကြောင်းများကြောင့် ဘုရား
ရှင်ဗုဒ္ဓက ဝေဒယဉ်ကျေးမှု၊ ဝေဒသန၊ ၄င်းတို့၏ ဘာသာရေးဆိုင်ရာ ထုံးတမ်းစဉ်
လာတို့ကို လုံးဝကြိုက်နှစ်သက်ခြင်းမရှိခဲ့ပါ။

ဤအမြင်ကို ရှေ့ရှု၍ ဘုရားရှင်ဗုဒ္ဓအား ဟိန္ဒူလို့ ပြောဆိုရခြင်းမှာ
လုံးဝ မသင့်တော်၊ အပြစ်တခုသာ ဖြစ်နိုင်သည့် သာမဏယဉ်ကျေးမှု၏ ပုရိမ
ပုဂ္ဂိုလ်တစ်ဦးဖြစ်ခဲ့သည် အားလျော်စွာဘုရားရှင်အား မဟာသာမဏလို့ ခေါ်
လို့ ရနိုင်ပါသည်။ မဟာသာမဏလို့ခေါ်မှ အဓိပ္ပါယ်ရှိဦးမည်ဖြစ်ပါသည်။

### ဒေါက်တာသဗ္ဗပ္ပလ္လီရာဓါကရိစ္စနန်း၏ မသိနားမလည်းမှု

ဒေါက်တာသဗ္ဗပ္ပလ္လီရာဓါကရိစ္စနန်၏ နာမည်မှာ ကမ္ဘာ့ဒဿနရှင်ကြီး
များအနက် မှတ်သားဘွယ်ရာကောင်းသော အမည်တခုဖြစ်ပါသည်။ ဒေါက်
တာရာဓါကရိစ္စန်းမှာ ဟိန္ဒူဗြာဟ္မဏတစ်ဦးဖြစ်ခဲ့သည့်အားလျော်စွာ ဟိန္ဒူယဉ်
ကျေးမှုကို အထင်ကြီး၍ ဗုဒ္ဓနှင့် ဗုဒ္ဓယဉ်ကျေးမှုကို အထင်သေးသည့်စိတ် ဘာ
ဝနာရှိခဲ့ပါသည်။ အင်္ဂလိပ်ဘာသာစကားကို ပိုင်ပိုင်နိုင်နိုင်ပြောတတ်ဆိုတတ်
သော ပုဂ္ဂိုလ်တစ်ဦးဖြစ်ပါ၍၊ လွတ်လပ်သည့် အိန္ဒိယနိုင်ငံ၏ ဒုတိယသမ္မတ
လည်းဖြစ်ခဲ့သော ပုဂ္ဂိုလ်တစ်ပါးလည်းဖြစ်ခဲ့ရပါသည်။ ထိုပုဂ္ဂိုလ်သည် ဝေဒကျမ်း
များ၊ ဥပနိသျှဒ်ကျမ်းနှင့် ဘဂဝါဂီတာကျမ်းတို့ကို ကောင်းကောင်းဖတ်ရှုလေ့

လာထားသော အထကာဘီရ ပုဂ္ဂိုလ်ကြီးတစ်ပါးလည်း ဖြစ်ခဲ့ရပါသည်။ ထိုသို့ဖြစ်နေသည့်အားလျော်စွာ ဓမ္မဒဿနဆိုင်ရာ သူ၏မိန်းခွန်းများ ပြောဆိုချက်များ အလွန်ခရီးပေါက်ရောက်တတ်သည်။ အင်္ဂလိပ်ဘာသာစကားဖြင့် ပြောဆိုတတ်သော သူ့မိန်းခွန်းများကို လူတကါတို့ အထင်ကြီး ဂုဏ်ယူတတ်သည်။ သို့သော် သူ့မိန့်ခွန်းများ သူ့အမြင်တင်ပြချက်များကြောင့်၊ ကမ္ဘာ့ပညာရှင်များကြားဝယ် ဗုဒ္ဓနှင့်၊ ဗုဒ္ဓဘာသာအတွက် များစွာမသိနားမလည်မှုများ ဒွိဟဖြစ်ဘွယ်ရာများ ပေါ်ထွန်းလာခဲ့ရပါသည်။ ထိုအမြင်များနှင့်ပါတ်သက်ပြီး ဗုဒ္ဓပညာရှင်ရာဟုလာ သံကိစ္စည်းက 'ရှရ်ရာဓါကရိုရှနန်း လီပါပိုတီ' ဟူသောစာအုပ်ကို ရေးသားရပါသည်။ ရှင်ဗုဒ္ဓ၏ဒဿနအားလုံးမှာ အနိစ္စ၊ ဒုက္ခနှင့်၊ အနတ္တသဘောတရားများပေါ် အခြေခံသည့် ဤသဘောတရားဒဿနကို လက်ခံလျှင် ထာဝရဖြစ်လာသည့်အရာကိုမျှ လက်ခံလို့မဖြစ်နိုင်ပါ။ ဥပနိသျှဒ်နှင့် ဗြာဟ္မဏကျမ်းတို့မှာ ဖေါ်ပြလေ့ရှိသော 'တသွညာဏ်' ခေါ် ထာဝရဘုရားသခင် ဗြာဟ္မနှင့်၊ အတ္တမစသည့်အရာများကို ထည့်စဉ်းစားစရာ ဘာမျှမရှိတော့ပါ။ အနိစ္စ၊ ဒုက္ခ၊ အနတ္တသဘောဆောင်သည့် လူ့ဘဝကို ဒေါက်တာရာဓါကရိုရှနန်းက ယျှလို အဓိပ္ပါယ်ဖွင့်ဆိုတဲ့အချက်သည် ရက်စရာကောင်းလှပါသည်။ အာစရိယဓမ္မကီးတီးလို ပုဂ္ဂိုလ်များက ဒေါက်တာအား ရှုတ်ချပါသည်။

၁။ မဟာပရိနိဗ္ဗာန်ပြုတော့မည့်အချိန်ကာလတွင် ဘုရားရှင်ဗုဒ္ဓက ရှင်အာနန္ဒ အား ဆင့်ခေါ်၍ ဤသို့ပြောခဲ့ဘူးပါသည်။ အနန္ဒ ငိုမနေပါလင့်၊ သောက မဖြစ်ပါလင့်၊ လူတို့သည် ချစ်ခင်အပ်သော အရာအားလုံးအား စွန့်လွှတ်၍ သွားရ၏၊ မွေးဖွားလာသော လူ၊ သတ္တဝါ အစခပ်သိမ်းတို့သည် ဤနည်းအတိုင်းပင် သွားရပါသည်။ လူ့ဘဝသည် တသက်လျာတခဏတည်း။ သင့်တို့မှာ ဆရာ (ဂုရု) မရှိတော့ဘူးလို့ သင်စဉ်းစားနေအုန်းမှာပါ။ ငါဘုရားမရှိတော့သည့်နောက်ပိုင်းတွင် ငါပြပေးထားသည့်တရားတို့ကသာ သင့်တို့၏ ဆရာဂုရုဖြစ်ရမည်။ ထိုကြောင့် သင်တို့ကို ငါပြောနေသည်၊ ဘိက္ခုဝေါ အရာခပ်သိမ်းတို့သည် အနိစ္စသဘောကို ဆောင်ထားသည်။ သို့အတွက်ကြောင့် စိုးရိမ်ကြောင့်ကြမှုကင်းမဲ့ကာ မိမိ၏ နိဗ္ဗာန်ကို မိမိကိုယ်တိုင် ရှာကြလော့။ ဗုဒ္ဓ ဤသို့ဆိုခြင်းကို ဒေါက်တာရာဒါကရိုရှနန်းက ဤသို့ဆို၏၊ ဗုဒ္ဓ၏ နောက်ဆုံးစကားများမှာ သူ့အတ္တမက မသိနားမလည်းနိုင်သော အဖြစ်တခုမှ နစ်မြုပ်သွားနေစဉ် ပြောထားသည့်စကားများဖြစ်သည်။ ထိုသို့သောအဖြစ်မျိုး၌ ရောက်နေပြီးဖြစ်သော



အခြေအနေမှာ လူတို့သည် အကြံကုန်၊ စိတ်ဘာဝနာများကုန်ဆုံးတတ်သည် ထိုခြေအနေသည် အသက်ထွက်ပြီး ပရိနိဗ္ဗာန်စံသည့် အခြေအနေဖြစ်၏။ စိတ်မကောင်းစရာ အဖြစ်ပါဘဲ၊ ဒေါက်တာရာဒါကရိုရှနန်းလို ပုဂ္ဂိုလ်မျိုးက ဒီစကားမျိုးပြောနေခြင်းမှာ အင်မတန် သေးသိမ်တဲ့စကားပါ။ သူ့လိုအကျော်အမော် ဒဿနဆရာကြီးကတောင် မသိဘူးလား? ရှင်ဗုဒ္ဓက အတ္တမဆိုတာကို လုံးဝလက်မခံတဲ့ ပုဂ္ဂိုလ်ပါ။ ဗုဒ္ဓသည် အနတ္တဝါဒီဖြစ်သည်။

၂။ဘာသာတရားတို့၏ အနှစ်သာရမှာ လူ့ဘဝမှာ ပြောင်းလဲမှုဖြစ်ရခြင်းဖြစ်သည်။ ဟိန္ဒူနှင့်၊ ဗုဒ္ဓဓမ္မတို့သည် မှအားဖြင့်ပြန်ပြန်ပြီး မွေးဖွါးခြင်းကို ယုံကြည်သည်။ (တိပ္ပဏီ) ဒေါက်တာရာဒါကရိုရှနန်းက မသိဘူးထင်ပါရဲ့၊ ရှင်ဗုဒ္ဓက ဘဝပြန်ပြန်ဖြစ်ရေးကိုတော့ လက်ခံပါတယ်။ ဒါပေမဲ့ ဟိန္ဒူများ လက်ခံတဲ့ (Transmigration of Soue) ကို မယုံကြည်ဘူး။ ဗုဒ္ဓ၏ ဘဝပြန်ဖြစ်ရေးအမြင်သည် သိပ်ခြားနား၍ ဟိန္ဒူတို့ ဘဝပြန်ဖြစ်ရေးမှာ မျက်ကန်းယုံကြည်မှုပေါ်မူတည်နေသည်။

၃။ ဗုဒ္ဓသည်ကမ္ဘာကြီးကို ဓမ္မသစ်၊ တရားသစ်တခုပေးနေသည် လို့ မခံယူ။ သူသည် မွေးဖွားရခြင်း၊ သေရခြင်း၊ သူ့ဘဝဖြစ်စဉ်ကါလအတွင်း ဟိန္ဒူတယောက်လိုဘဲ ကျင့်ကြံခဲ့ပါ၏၊ သူသည် ဘာရတီယ အာရိယာန်ယဉ်ကျေးမှု၏ စံများကိုပင် နည်းလမ်းသစ်တခုနှင့် သွန်သင်ခဲ့ပါသည်။ (တိပ္ပဏီ) ဒေါက်တာရာဒါကရိုရှနန်လို ဒဿနဆရာကြီးက အင်မတန်သာမန်ကျတဲ့စကားကိုတောင် မသိရှာပါလဝး? သိဒ္ဓါတ္တမင်းသားက ဟိန္ဒူတယောက်အနေနှင့် မွေးဖွားတာမဟုတ်၊ အဘယ်ကြောင်ဆိုသော် ဟိန္ဒူတရားဓမ္မတို့သည် နယ်ချဲ့အာရစ်စသည့် မွတ်စလင်လူမျိုးများ ဒီနိုင်ငံကိုဝင်လာတဲ့နောက်ပိုင်းမှာ ပေါ်ထွန်းလာတဲ့ ဓမ္မတရားတခု ဖြစ်ပါတယ်။ ရှင်ဗုဒ္ဓ(သိဒ္ဓတ္ထ)၏ မွေးဖွားခြင်း၊ ဘဝတိုးတက်ခြင်း၊ ပရိနိဗ္ဗာန်စံခြင်းစသည်တို့က အာရိယာန်ယဉ်ကျေးမှုနှင့် လုံးဝမဆိုင်၊ သမဏယဉ်ကျေးမှုနှင့်သာ လုံးလုံးလျားလျား ဆိုင်ပါသည်။ သူသည် ဘဝတစ်လျောက်လုံး သမဏဓမ္မကိုသာ ဖြန့်ချီခဲ့ပါသည်။ ဒေါက်တာရာဒါကရိုရှနန်၏ ပြောဆိုချက်များက လုံးဝမမှန်ပါ၊ မဟုတ်မတရားပြောဆိုခြင်းသာ ဖြစ်နေသည်။ ဗုဒ္ဓက အာရ်ယာန်ယဉ်ကျေးမှုနှင့်၊ ဓမ္မကို အမြစ်ပါတိုက်ထုတ်သွားတဲ့ ပုဂ္ဂိုလ်တစ်ဦး ဖြစ်ခဲ့ပါသည်။

၄။ ကမ္မ၏ ခံယူချက်နှင့် ပါတ်သက်ပြီး ဒေါက်တာရာဒါကရိဿနန်း ဒွိဟဖြစ်စရာအမြင်ကို ဤသို့တင်ပြသည်။ "လူ့ကမ္ဘာကြီးသည် အစဉ်စီးဆင်းနေသော မြစ်ကြီးတခုနှင့်တူသည်၊ ဤစီးဆင်းနေသော မြစ်ရေတွင် ကမ္မတည်းဟူသော ခံယူချက်သည် အများသဘောတူ ခံယူချက်ဖြစ်ပါသည်။ ဘာရတိယမြေတွင် ပေါ်ထွန်းလာခဲ့သည့် ဘာသာဓမ္မအားလုံးတို့သည်၊ ထိုကမ္မခံယူချက်မှာ တူနေပါသည်။ ဟိန္ဒူ၊ ဂျိန်း၊ သိက္ခဘာသာတို့မှာလည်း ထိုကမ္မခံယူချက်က အတူတူပင် ဖြစ်ကြပါသည်။"

၅။ (တိပ္ပဏီ) ဗုဒ္ဓဓမ္မ၏ ကမ္မခံယူချက်မှာ အခြားဘယ်သူနှင့်မှ မတူကွဲပြားခြားနားသည်။ အခြားသောတရားဓမ္မတို့မှာ ခံယူချက်သည် မျက်ကန်းယုံကြည်မှုပေါ် အခြေခံထားပါသည်။ ဗုဒ္ဓဓမ္မ၏ကမ္မခံယူချက်က သိပ္ပံပညာပေါ် အခြေခံသည်။ ဗုဒ္ဓဘာသာဓမ္မတွင် မျက်ကန်းယုံကြည်မှုအတွက် နေရာမရှိကြောင်းပါ။ ဒေါက်တာရာဒါကရိဿနန်း၏အဆိုအရ ရှင်ဗုဒ္ဓမှာ ဒုက္ကရစရိယာအကျင့်ကို ကျင့်သည်။ ဒုက္ကရစရိယအကျင့် ကျင့်ကြံကြရန် ဝါဒဖြန့် ပြောဆိုခဲ့ပါသည်။

၆။ (တိပ္ပဏီ) ရာဒါကရိဿနန်းမှာ မဟာဒဿနဆရာကြီးမဟုတ်ပါဘူးလို့ ထင်ရပါသည်။ သူသည် သမာန်လောက်အသိအမြင် မရှိပါဘူးလို့ ထင်ရသည်။ ဗုဒ္ဓဝါဒ၏ အများသိရှိနားလည်းထားသည့် 'မဇ္ဈိမပဋိပဒါ' ဆိုတာလောက်ကို မသိရှာတဲ့၊ သနားစရာကောင်းသော လူတယောက်ပါကလား? ဗုဒ္ဓသည် အမြဲအစွန်းနှစ်ဖက်ကို ရှောင်ခိုင်းပြီး မဇ္ဈိမလမ်းစဉ်ကို လိုက်ပါရန် တိုက်တွန်းနှိုးဆော်ခဲ့သူတစ်ဦးဖြစ်ပါသည်။ ရာဒါကရိဿနန်းက ဗုဒ္ဓအား ထိုသို့ ပြောဆိုဝေဖန်ခြင်းသည် လုံးဝမှားယွင်းနေပါသည်။ ရာဒါကရိဿနန်း၏ အဆိုအရ 'နိဗ္ဗာန်ဆိုသည်မှာ အတ္တမ၏နောက်ဆုံးလွတ်မြောက်ခြင်း' ဖြစ်သည်။

၇။ (တိပ္ပဏီ) သနားစရာကောင်းလှသော ဒဿနဆရာကြီးရဲ့ ရှင်ဗုဒ္ဓမှာ အတ္တမကို လုံးဝလက်မခံတဲ့ ပုဂ္ဂိုလ်ဆိုတာလောက်ကို မသိကြဘူးလား? ခက်ပါ တယ်၊ ဒသနဆရကြီးကို ဘယ်လိုပြောရမှာ မသိပါဘူးဗျ၊ အတ္တမကို လက်မခံ မယုံကြည်လို့ ဗုဒ္ဓသည် အတ္တမဝါဒီ ဖြစ်တဲ့မဟုတ်လား?





၈။ ဆိုထားသည်မှာ "ကျုပ်တို့အတ္တမ၏ နောက်ဆုံးတခု သဏ္ဌာန်ရှိပါသေး၏၊ ထိုသဏ္ဌာန်မှာ လူတို့နိဗ္ဗာန်ရောက်ကြောင်းတရားများအတွက် အားပေးကူညီကြသည်။"

၉။(တိပ္ပဏီ) ရုပ်၊ ဝေဒနာ သညာ၊ သင်္ခါရ၊ ဝိညာဏ ဤခန္ဓာငါးပါးတို့သည် အတ္တမကို အခြေမခံကြပါနှင့်။ နိဗ္ဗာန်ရောက်ကြောင်းတရားကို ကူညီအားပေးသမှုပြုပါသည်။ ဤသည်တို့က မှန်ပါ၏။

၁၀။ ဒေါက်တာရာဒါကရိဿနန်းက ရှင်ဗုဒ္ဓကို ဝိသနိုး၏ ကိုယ်ပွါးတော်ဟု ယူဆသည်။ ဟိန္ဒူအများကထာဝရ ဘုရားသခင်သည် လူတကာတို့အကျိုးကျေးဇူးကို ပြုလုပ်ဆောင်ရွက်ရန် ဝိသနိုး၏ အဖြစ်ဖြင့် ပေါ်ထွန်းရ၏၊ ဗုဒ္ဓအား ဝိသနိုး၏ ကိုယ်ပွါးတော်ဟု ခံယူခြင်းမှာ ဤအကြောင်းများပါဝင်ပါသည်။ ပုရာဏကျမ်းတို့မှာ ဗုဒ္ဓကို ထိုထာဝရဘုရားရှင်၏ ကိုးကြိမ်မြောက်ကိုယ်ပွါးတော်ဟု သတ်မှတ်ထားခဲ့သည်။

၁၁။ တိပ္ပဏီ ဤအကြောင်းအရာနှင့်စပ်လျဉ်း၍ ရှေးအခန်းများ၌ ပြောဆိုခဲ့ပြီးဖြစ်သည်။ ဗုဒ္ဓကိုယ်တော်တိုင် သူ့ကိုယ်သူ လူသားပါဟူ၍ ပြောဆိုလက်ခံပါပြီး၊ သို့အတွက်ကြောင့် ၄င်းအား 'မဟာမနဝ' ဟု ခေါ်ဆိုနိုင်ပါသည်။ ဗုဒ္ဓက မိမိကိုယ်မိမိ ကရိဿနာဘုရားရှင်ပမာ ဝိသနိုး၏ ကိုယ်ပွါးတော်ပါဟူ၍ မပြောဆိုခဲ့ပါ။

၁၂။ ဒေါက်တာရာဒါကရိဿနန်း၏ ယင်းပြောဆိုချက်လည်း အခြေအမြစ်မရှိ၊ မဟုတ်မမှန်ပြောဆိုခြင်းဖြစ်နေပါသည်။ ပုရာဏကျမ်း ၁၈–ခုအနက် ကျမ်း ၃–ခုတို့ကသာ ဗုဒ္ဓကို ဝိသနိုး၏နဝမမြောက် ကိုယ်ပွါးတော်ဟု ရေးသားဖော်ပြပေးသည်။ ကျန်အုပ်များ၌ ' ဒသာသေရယ ' အား ဝိသနိုး၏ကိုယ်ပွါးဟူ၍ ရေးသားသည်။ ထိုကြောင့် ရာဒါကရိဿနန်း၏ ယင်းပြောဆိုချက်မှာလည်း ဒွိဟမကင်း ဖြစ်နေပါသည်။

၁၃။ ဒေါက်တာရာဒါကရိရှ္ဓနန်း၏ နောက်ပြောဆိုချက်တစ်ခုမှာ ရယ်စရာဖြစ်နေပါသည်။ "ဗုဒ္ဓသည် ဟိန္ဒူများ၏ ယဉ်ကျေးမှုရေးရာ ပေးဆပ်မှုအချို့တို့ကို ဓမ္မတရားတို့ ကျင့်စဉ်အချို့ကို ပြုပြင်သန့်စင်သွားစေရန် သုံးထားသည်။ ဗုဒ္ဓသည် ဤကမ္ဘာလူလောကတွင် ပေါ်ထွန်းလာရခြင်းမှာ ဟိန္ဒူဓမ္မ၏ အချို့ကျင့်ကြံမှုများကို သန့်စင်သွားရန်ဖြစ်သည်။ သူသည် မပြည့်စုံသေးသည့် ကျင့်ကြံမှုကို ပြည့်စုံသွားစေဘို့ ဤလူလောကသို့ ရောက်ရှိလာပါသည်"။ တိပ္ပဋကဒေါက်တာ၏ သို့ပြောဆိုရခြင်းမှာလည်း အခြေမရှိ၊ ဒွိဟသံသယဖြစ်စေဘို့ ပြောဆိုခြင်းပင်ဖြစ်သည်။ ဟိန္ဒူဓမ္မနှင့် ဗုဒ္ဓဓမ္မတို့၏ အခြေခံသဘောတရား (Concept)ချင်းတို့က ခြားနားကွားခြားမှု ရှိနေပါက ဒေါက်တာရာဒါကရိရှ္ဓနန်း၏ ယင်းပြောဆိုချက်များက ရယ်စရာဖြစ်နေပြီပါ။

၁၄။ ဒေါက်တာရာဒါကရိရှ္ဓနန်းက တပ်ပြီးဒွိဟသံသရဖြစ်စရာ ပြောဆိုခဲ့သည်မှာ ဗုဒ္ဓက ဗြာဟ္မဏနှင့် သမဏတို့အား အတူတူပင် အသိအမှတ်ပြုခဲ့ပါသည်။ ထိုထုံးတမ်းဓလေ့နှစ်ခုမှာ အချိန်ကြာလာသည်နှင့်အမျှ အချင်းချင်း ရောနှောသွားခဲ့သည်။ လက်ရှိခေတ်မှီ ဟိန္ဒူဘာသာကို ပြုပြင်မွေးထုတ်ပေးသူမှာ ဗုဒ္ဓဖြစ်နိုင်သည်။ တိပ္ပဋက–ဘုရားရှင်ဗုဒ္ဓက ဓမ္မမဒယ၏ ဗြာဟ္မဏဝဂ္ဂတွင် ဗြာဟ္မနှင့်၊ သမဏကို အတူတူ တတန်းတည်း ထဲ့ပြောခဲ့ပါသည်။ ဗြာဟ္မဏနှင့် သမဏတို့က တစ်ဦးနှင့်တစ်ဦး တူသည်ဟု ဆိုထားသည်။ သို့သော် ဗုဒ္ဓဆိုခဲ့သော ဗြာဟ္မဏမှာ ဒေါက်တာရာဒါကရိရှ္ဓနန်း ဆိုထားသည်မှာ ဗြာဟ္မဏနှင့် ခြားနားပါသည်။ ဒေါက်တာဆိုထားသည့် ဗြာဟ္မဏမှာ ဝေဒကျမ်း၏ သွန်သင်ချက်များကို တခုမကျန် လိုက်နာသူများဖြစ်ကြပါသည်။ ၎င်းတို့မှာ မျက်ကန်းယုံကြည်မှုရှိခြင်း၊ ဇာတ်ခွဲစံနစ်ကြီးကို လိုက်နားကျင့်သုံးခြင်း၊ အကြမ်းဖက်ခြင်း၊ ကမ္မကဏ္ဍာတို့လိုက်လုပ်ခြင်းစသည့် မပြုသင့်သောအရာများကို လိုက်လုပ်ခြင်းတို့ကို အားပေးထောက်ခံသော ဗြာဟ္မဏဖြစ်ပါသည်။ ဗုဒ္ဓမှာ ဗြာဟ္မဏဟူသော စကားလုံး၏ အနှစ်သာရကို ဖွင့်ဆိုရင်းကို ဤသို့ပြောထားပါသည် ဆံကေသာ ရှည်ရှည်ထားလို့တော့ မဟုတ်ဘူး၊ မည်သည့်အမျိုးအနွယ်တွင် မွေးဖွားလာလို့လဲ မဟုတ်ပါဘူး၊ ဗြာဟ္မဏတယောက်မှာ ဓမ္မတရားကို လိုက်နာကျင့်ကြံလို့ ဗြာဟ္မဏဖြစ်ရသည်။ သူစိတ်မှာလည်းသန့်စင်ဘို့ လိုအပ်သည်။

ဓမ္မပဒ

အကြင်သူသည် သူ့အသက်ကို မသတ်ရ၊ သူ့တပါးပစ္စည်းကိုလည်း မခိုးရ၊ မဟုတ်မမှန် မပြောဆိုရ၊ သေရည်သေရက်များကို မသောက်သုံးရ၊ အထင်လည်းမကြီးရ၊ မနာလိုမှုစိတ်လည်းမရှိရ၊ စွန့်လည်းစွန့်ကြသည်။ စိတ်ဆန္ဒရှိကြသည်၊ ထိုသူမှာ အမှန်တကယ် ဗြာဟ္မဏဖြစ်ရပါသည်။ ထိုသူသည် လူ့သားစိတ်ဓါတ်ရှိရသည်။ ရှင်ဗုဒ္ဓသတ်မှတ်သည့် ဗြာဟ္မဏမှာ လူ့ကျင့်ဝတ်နှင့်အညီ ကျင့်ကြံသူဖြစ်များဖြစ်ကြ၏။ တဖက်တွင် ရာဒါကရိရှ္ဓနန်း၏ ဗြာဟ္မဏမှာ တိရိစ္ဆာန်စိတ်ရှိခြင်း၊ အကျင့်တရားပျက်ပြားသူ၊ သူများအသက်ကို သတ်ဖြတ်ရာတွင် မတွန့်ဆုတ်သူ၊ သေရည်သေရက်သောက်သုံးသူများဖြစ်ပြီး၊ ဗြာဟ္မဏမိသားစုအတွင်း မွေးဖွားလို့ ဗြာဟ္မဏဖြစ်လာသူကို ဆိုလိုပါသည်။ ဘုရားရှင်ဗုဒ္ဓသည် ခေတ်မှီဟိန္ဒူဘာသာကို တည်ထောင်းပေးခဲ့သူပါလို့ ပြောဆိုခြင်းသည် ရှင်ဗုဒ္ဓအား ပြက်ရက်ပြုခြင်းသာဖြစ်ပါသည်။

၁၅။ ရှင်ဗုဒ္ဓ၏ သွန်သင်ခြင်းများက ဘမျှထူဆန်းခြင်းမရှိပါ။ ရှင်ဗုဒ္ဓ၏ တရားများက ဥပနိသျှဒ်ကျမ်းများမှ နဂိုကပါနေသော တရားများသာဖြစ်နေပါသည်လို့ ဒေါက်တာရာကရိရှ္ဓနန်းက ဆို၏၊ တိပ္ပဋက–ဗုဒ္ဓမပွင့်လာခင်အချိန်ကါလက ဥပနိသျှဒ်ကျမ်း (၃) ကျမ်းရှိခဲ့ကြသည်။ ၎င်းကျမ်းများက (၁) အီစ်ဥပနိသျှဒ်။ (၂) ဆာန္ဒိုဝယ၊ ဘီရိဟ္ဒါန္ဒယဥပနိသျှဒ်ဖြစ်ကြသည်။ ဗုဒ္ဓနှင့် ခေတ်ပြိုင်မှာ ကျမ်း(၃)ကျမ်းရှိခဲ့ရ၊ သေရိယနှင့် သဲသိရိယာ ဥပနိသျှဒ်ကျမ်းဟုခေါ်ပါသည်။ ၎င်းဥပနိသျှဒ်ကျမ်းများအားလုံးမှာ ထာဝရဘုရားသခင်ကြီး၏ ကြီးကျယ်အာဏာတည်ရှိပုံ ကမ္မပြုလုပ်ခြင်းတို့၏ အရေးကြီးပုံ၊ ဗြဟ္မဏနှင့် စကြာဝဠာစသည်တို့အကြောင်းနှင့် ၎င်းတို့အသီးသီးတည်ရှိပုံများကို ရေးသားဖော်ပြထားသည်။ အထူးသဖြင့် ၎င်းကျမ်းများ၏ အကြောင်းအရာများ ဗြာဟ္မာ၊ ကမ္ဘာဖြစ်လာပုံ အတ္တမစသည်တို့၏ ဆက်စပ်မှုတို့ကို ဖော်ပြထားသည်။ ဘုရားရှင်ဗုဒ္ဓ အထူးပြုဟောကြားခဲ့သည့်အကြောင်းအရာမှာ ပဋိစ္စသမုပ္ပါဒ်ဖြစ်ပါသည်။ ပဋိစ္စသမုပ္ပါဒ်မှာ အနတ္တဝါဒနှင့် ထာဝရဘုရားသခင်မရှိကြောင်းကို ကိုယ်တိုင်ပြုထားသည့်တရားများဖြစ်ကြပါသည်။ ထို့ကြောင့် ဗုဒ္ဓက ဗြာဟ္မဏကျမ်းများ

ဖြစ်သော ဥပနိသျှဒ်ကျမ်းများမှ ယူစရာဘာမှ မရှိပါဘူး၊ ဗုဒ္ဓအား ဤသို့ပြောရခြင်းမှာ လုံးဝအခြေအမြစ်မရှိ၊ ရယ်စရာသက်သက်သာဖြစ်ရပါသည်။

၁၆။ ဒေါက်တာရာဒါကရိဿနန်းက ဗုဒ္ဓဓမ္မနှင့် ပါတ်သက်လို့ ဆက်လက်ဆိုပြန်သည်မှာ ရှေးဟောင်းဗုဒ္ဓဝါဒသည် မူလမှာ သူမတူ၊ အံ့ဘွယ့်ဖြစ်သော မူလကျသော သဘောတရားတခုမဟုတ်ပါဘူး၊ ဘာရတီယအတွေးလိမ်၏ တိုးတက်ရာတိုးတက်ကြောင်းကို ဆောင်ရွက်ပေးနိုင်သော ထူးဆန်းလှသည့် ခံယူချက်မျိုး မဟုတ်ဘူး၊ ဗုဒ္ဓက သူ့နိုင်ငံတွင် ပေါ်ထွန်းခဲ့သော အကြံအစည်၊ အတွေးအခေါ်များမှ ပြည့်ပြည့်စုံစုံဆက်ဆံမှုကို မဖြတ်တောက်နိုင်ခဲ့ဘူး။ တိပွဏီ–ဗုဒ္ဓဓမ္မသည် အတွေးအခေါ်သစ်မဟုတ်ပါဘူးလို့ ပြောရခြင်းမှာ လုံးဝမှားယွင်းနေသော အကြံအစည်တခုဖြစ်ပါသည်။ ဗုဒ္ဓဓမ္မသည် ဗုဒ္ဓရှာဖွေပေးသော မူလဓမ္မသစ်တခုဖြစ်သည်။ ဗုဒ္ဓယခင်က ဤဓမ္မ၏ ခံယူချက်ဝါဒမျိုး ဘယ်ဝေဒကျမ်း၊ ဥပနိသျှဒ်ကျမ်းတို့၌ ဖော်ပြထားခြင်းမရှိခဲ့ပါ။ ဗုဒ္ဓဓမ္မခံယူချက်မျိုးကို ဘယ်မှာ ဖတ်ရှုလေ့လာ တွေ့ရှိခြင်းမရှိခဲ့ပါ၊ သူ့အရင် တည်ရှိသော ဝေဒဓမ္မမှာ ယဇ်ပူဇော်ပွဲ၊ ဗလိနတ်စားကျွေးခြင်း၊ ဇာတ်စံနစ်၊ လူ့ဘဝကို နှစ်နှင့်ခွဲ၍ သတ်မှတ်ခြင်း စသည်တို့သာရှိခဲ့ရာ၊ ဥပနိသျှဒ်ကျမ်းများတွင် ဖော်ပြထားသည်။ ဗြာဟ္မဏ၊ ဣသွာရ ကမ္ဘာတည်ရှိပုံ အတ္တမစသည်တို့ကိုသာ ဖော်ပြပေးသည်။ ဥပနိသျှဒ်ကျမ်းများ၌ ဖော်ပြပေးခဲ့သော သဘောတရားတို့နှင့် ဗုဒ္ဓက အမြဲပင် ကွာခြား ခြားနားခဲ့ပါသည်။ သီလ၊ သမာဓိ၊ ပရဂျန်းတို့က ယခင်ကတည်းကရှိသော ဘယ်တရားဓမ္မတို့၌ မတွေ့ရပါ။

၁၇။ ဒေါက်တာရာဒါကရိဿနန်းက ဗုဒ္ဓနှင့်ပါတ်သက်လို့ နောက်ထပ် ဒွိဟသံသယဖြစ်စရာ စကားတမျိုးကို ဆိုထားသည်။ "၎င်းစကားမှာ" ဗုဒ္ဓသည် အတ္တမယဉ်ကျေးမှုခံယူချက်ပေါ် မှုတည်းကာ ရှာဖွေသည့် တရားဓမ္မမှာ ရှေးဟောင်းလမ်းတလမ်းဖြစ်ပါသည်။ ဗုဒ္ဓကိုယ်တော်တိုင်က ဤဓမ္မလမ်းစဉ်ကို နိစ္စထာဝရဖြစ်ကြောင်းလက်ခံခဲ့၏၊ ဤဓမ္မတရားလမ်းကြောင်းမှာ အစဉ်ထာဝရ တည်ရှိမှုရှိခဲ့ပါသည်။

၁၈၊တိပွဏီ–ရာဒါကရိဿနန်း၏ ယင်းသို့ဆိုထားခြင်းမှာ အရင်ဆိုထားချက်များပမာ မဟုတ်မတရား ပြောဆိုခြင်းပေါ် တည်ရှိပါသည်။ ဘုရားရှင်ဗုဒ္ဓမှာ



အတ္တမတည်းဟူသော သဘောတရားကို လက်မခံသည့်အရာမှာ ကမ္ဘာသိလူသိအချက်တစ်ခုဖြစ်နေသော အတ္တမယဉ်ကျေးမှုလို့ပြောရခြင်းသည် အချည်းနှီးပင် ဖြစ်နေရပါသည်။ ဘုရားရှင်ရှာဖွေခဲ့သော မဂ္ဂင်ရှစ်ပါး (လမ်းရှစ်သွယ်) သည် သူ့အရင်ဘယ်စာအုပ်ကျမ်းတို့မှာ ဖော်မပြ၊ လုံးဝ ရှာဖွေမှု အသစ်အဆန်းဖြစ်နေရပါသည်။ ထိုလမ်းစဉ်ကို ဒေါက်တာက အရိယမဂ္ဂင်ဟု ခေါ်ရခြင်းမှာ ဒွိဟသံသယပွါးလာအောင် ပြောဆိုခြင်းသာဖြစ်သည်။ ဝေဒကျမ်းကို ပုပ်ခတ်ပြောသူ ဗုဒ္ဓဟူ၍ ဟိန္ဒူများက သူ့ကို ပြက်ရယ်ပြုကြသည်။

၁၉၊ ဗုဒ္ဓသည် သဗ္ဗညုတဉာဏ်ကို ရရှိသည့်အခါ အရိယသစ္စာလေးပါးတည်းဟူသော အရိယသစ္စာလေးပါးကို ရှာဖွေတွေ့ရှိကြောင်း မှန်ကန်ပါသည်။ ဘာသာဝေဒအရ အရိယဟူသော စကားလုံး၏အဓိပ္ပါယ်မှာ မှန်မြတ်သည်ဟု အဓိပ္ပါယ်ရှိပါသည်။ ဟိန္ဒူတို့က အရိယဆိုသောစကားလုံးကို အပိုင်စီးထားပုံရသည်။ အခြားဘာသာဝင်များဖြစ်ကြသော မွတ်စလင်၊ ခရစ်ယာန်၊ သိက္ခတို့က အရိယဟူသော စကားလုံးကို သုံးမိသော ဟိန္ဒူတို့က ငါတို့နှင့်ဆိုင်သည်ဟု ယူဆကြလေ့ရှိပါသည်။ အရိယဟူသောစကားလုံးကို သုံးမိထားသော ဗုဒ္ဓအား အရိယဟု လက်ခံယုံကြည်၊ ယူဆခြင်းမျိုးက မှားပေလိမ့်မည်။ ဟိန္ဒူတို့သုံးစွဲနေသော အရိယဟူသောစကားလုံးမှ ပါဠိဘာသာစကား 'အရိယ' မှ ပေါ်ထွန်းလာခဲ့ပါသည်။

၂၀။ ဒေါက်တာရာဒါကရိဿနန်းကို လိုက်ပြီး၊ နိုင်ငံခြားသား ပညာရှင်များကလည်း ဗုဒ္ဓအား ထိုသို့ပင် ပြောဆိုရေးသားလာခဲ့ပါသည်။ သို့ပြောဆိုရေးသားရာတွင် (Mr.Rose Davids) တယောက် အပါအဝင်ဖြစ်ပါသည်။ (Rose Davids)ပြောဆိုထားသည်မှာ ဂေါတမက ဟိန္ဒူမိသားစုအတွင်း မွေးဖွားကြီးပြင်းသောသူတစ်ဦး ဖြစ်ပါသည်။ ဂေါတမဗုဒ္ဓ၏ သွန်သင်ချက်များ အဘိဓမ္မာမှာ အသစ်အဆန်းဘာမှ မတွေ့ရဘူး။ သူ့ပြောခဲ့ဆိုခဲ့သမျှတို့က နဂိုကရေးသားထားသည့် ဓမ္မကျမ်းများ၌ ပါပြီးသာ ဖြစ်နေပါသည်။ သူ့သွန်းသင်ချက်များက ရှေးဟောင်း ဟိန္ဒူကျမ်းများ၌ ဖော်ပြပေးထားသည့်ဖြစ်သည်။ (Mr.Rose Davids) က ဗုဒ္ဓနှင့် ဟိန္ဒူဓမ္မတို့၏ မူလကျမ်းများကို မလေ့လာထားဘူးလို့ဘဲ ထင်ရပါသည်။ အကယ်၍ ၎င်းကျမ်းများကို လေ့လာဖတ်ရှုထားပါက ယွှလိုအခြေမရှိ၊ အမြစ်မရှိကြ၊ မဟုတ်မမှန်ကြ၊ မိစ္ဆာစကားများကို ပြော

ဆိုလိမ့်မည် မဟုတ်ပါဘူး။ အမှန်တကယ် သိဒ္ဓတ္ထဂေါတမက ဟိန္ဒူမိသားစု အတွင်း မွေးဖွားသည့်မဟုတ်၊ မှတ်စလင်များခေတ်က ဟိန္ဒူဓမ္မသည် ဘာရတနိုင်ငံတွင် ပေါ်ထွန်းလာခဲ့ရပါသည်။ ရာဇနွယ်များအစကာလမှာ ရာမာယနမဟာဘာရတ၊ သပ္ပိတိကျမ်း၊ ပုရာဏကျမ်းစသည်တို့ကို ရေးသားခဲ့ရပါသည်။ ပြောစကားသည် အမှားကြီးမှားနေပါပြီး ခရစ်သက္ကရာဇ်မစခင် နှစ်ပေါင်း ၅၆၃–ခုနှစ်ကာလတွင် ဂေါတမ မွေးဖွားခဲ့ပါသည်။ ဟိန္ဒူဘာသာကျမ်းများက (၁) ရာဇနွယ်များ အချိန်ကာလမှာ ရေးသားပေါ်ထွန်းလာခဲ့ရပါသည်ဆိုတဲ့အချက်ကို (Mr.Rose) က မသိရှာဘူး ထင်ရပါသည်။ သနာတနာဓမ္မ (ဟိန္ဒူဓမ္မ) ကျမ်းများက သစ္စာဖေါက်ပုဗ္ဗမိတ္တ ခေတ်ကာလနောက်မှာ ရေးသားလာခဲ့ရပါသည်။ ပုဗ္ဗမိတ္တနောက်မှာရေးသားခဲ့သည့် ဓမ္မကျမ်းများမှ ယူ၍ ကောက်နုတ်ကာ ပြထားခြင်းမျိုးဖြစ်နိုင်ပါသည်။ Mr. Rose ၏ ပြောဆိုချက်များက ဒေါက်တာရာဓာကရိစ္စနန်၏ ပြောဆိုချက်များနှင့် ဘာမှမထူးပါ။ လုံးဝ မှားယွင်းနေသော တင်ပြချက်မျိုးဖြစ်နေပါသည်။ ဒေါက်တာရာဒါကရိစ္စနန်းက ဆက်လက်ပြီးပြောထားသည်မှာ ဗုဒ္ဓဓမ္မသည် အနည်းဆုံးတော့ သူ့အစပိုင်းမှာ ဟိန္ဒူဓမ္မ၏ ဂိုဏ်းဂဏတခုဖြစ်ခဲ့ရပါသည်။

တိပ္ပဏီ–ဤအချက်နှင့်ပါသက်လို့ နဂိုက တင်ပြပေးခဲ့ပါပြီး ဆက်လက်ပြောလိုသည်မှာ ဤသို့ပြောဆိုခြင်း၊ ခံယူခြင်းတို့က မိစ္ဆာဒိဋ္ဌိ အခြေမရှိ၊ မဟုတ်မမှန်၊ သမိုင်းကို နားမလည်၊ ဥပေက္ခာပြု၊ ဒဿနအမြင် မရှိသောသူများ၏ ပြောစကားများဖြစ်ကြသည်။ ဟိန္ဒူဓမ္မနှင့် ဗုဒ္ဓဓမ္မတို့အချင်းချင်း မိုးနှင့်၊ မြေလောက် ကွာခြားမှုရှိပါသည်။ ဘုရားရှင်အချို့သော စကားများကို မမေးအပ်သော၊ မပြောအပ်သော၊ မသိအပ်သော အဗျာကတလို့ ဆိုထားခဲ့သည်။ ထိုသို့ အဗျာကတလို့ ပြောဆိုလိုက်သည်ကို အခွင့်ကောင်းယူကာ ဘာရတီယဒဿနဆရာလို့အခေါ်ခံရသည်၊ လူလည်တို့က ပြောဆိုသည်မှာ အတ္တမ (အတ္တဘာဝ) နှင့်ပါတ်သက်လို့ ဗုဒ္ဓဘာသာမှာ မပြောဘဲနေရသည်မှာ အတ္တ၏ ရပ်တည်မှုရှိနေလို့ဖြစ်သည်။ ဗုဒ္ဓဓမ္မမှာ အတ္တကို ပါယ်ခြင်းသည် အဓိကအချက်ဖြစ်နေပါသည်။ အချို့သောသူများမှာ ဗုဒ္ဓအား အပြစ်တင်ပြောဆိုထားသည်မှာ ဗုဒ္ဓဖြေပေးလိုသောစကား မေးခွန်းမျိုးကို အဖြေပေးတတ်သည်။ မဖြေလိုသော မေးခွန်းများရှိလာခဲ့ရင် တိတ်ဆိတ်နေပါသည်။



'အဗျာကတ' လို့ ဗုဒ္ဓပြောထားသည့် စာရင်းတွင် မေးခွန်း ၁၀–သာပါ ရှိခဲ့ပါသည်။ ထိုမေးခွန်းများက ဗြဟ္မစရိယအကျင့် ကျင့်ကြံရာ၌သော်၎င်း၊ အိုးအိမ်စွန့်၍ တရားရှာရာ၌သော်၎င်း၊ အေးချမ်းမှုနှင့် ပရမဉာဏ် ရှာဖွေရာတွင် ဘယ်လိုမှ အသုံးတည်ခြင်းမရှိ။ နိဗ္ဗာန်ရောက်ကြောင်းတရားများကိုလည်း အထောက်အပံ့ မဖြစ်စေရာ၊ အချည်းနှီးသာ ဖြစ်နေပါသဖြင့် ဘုရားရှင်ဗုဒ္ဓက ထိုစကားများကို 'အဗျာကတ' ဟူ၍ အဖြေမပေးဘဲ နေခဲ့ပါသည်။

**ထိုစကား ၁၀ မျိုးက အောက်ပါအတိုင်း ဖြစ်သည်။**

(က) လောက

၁။ လောကသည် နိစ္စသဘောလား?

၂။ လောကသည် အနိစ္စသဘောလား?

၃။ လောကမှာ အဆုံးရှိပါသလား?

၄။ လောကမှာ အနန္တသဘောလား?

(ခ) ဇီဝ (အသက်)နှင့် ခန္ဓာကိုယ်

၁။ ဇီဝနှင့် ခန္ဓာကိုယ်သည် အတူတူဖြစ်သလား?

၂။ ဇီဝကတခြား ခန္ဓာကတခြားလား?

(ဂ) နိဗ္ဗာန်ရောက်ပြီး အခြေအနေ

၁၊ တထာဂတတို့ သေပြီးနောက် လွတ်မြောက်ကြရဲလား?

၂။ တထာဂတတို့ စုတေပြီးနောက် မရှိတော့ပါလား?

၃။ တထာဂတတို့ သေပြီးနောက် ရှိကြရဲ့လား သို့မဟုတ် မရှိကြဘူးလား?

၄။ တထာဂတတို့ သေပြီးနောက် မရှိကြတော့ဘူးလား?

အထက်ဖော်ပြပါ မေးခွန်းအချက် ၁၀–ချက်ကို ဘုရားရှင်ဗုဒ္ဓက 'အဗျာကတ' ဟု ဆိုထားသည်။ အချည်းနှီးသော မေးခွန်းစကားဖြစ်ပါသည်။ ထိုသို့အခြေအနေအောက် ဘုရားရှင်ဗုဒ္ဓနှင့် ဗုဒ္ဓဓမ္မထဲမှာ 'အတ္တမာ' နှင့် ထာဝရဘုရားသခင်ကို မြင်သော လူပုဂ္ဂိုလ်များကို လူမိုက်၊ လူဗာလလို့ ပင်ခေါ်ရပါမည်။ ဒေါက်တာရာဒါကရိစ္စနန်းက သူ့စာအုပ် (The Indian philosophy volume-1)၏ (First Edition)ထဲ့မှာ အောက်ပါ အချက်အလက်နှင့် ပါတ်သက်ပြီး

စာဒကတက်စရာများကို ရေးသားထားပါသည်။ ထိုစာဒကတက်စရာဖြစ်သည့် အကြောင်းအရာများကို တွေ့ရှိရသဖြင့် ထိုစာရေးသူ၏ မသိနားမလည်မှုများ အဝိဇ္ဇာဉာဏ်များက ထင်ရှားနေပါသည်။ ထိုစကားများသည် ဖော်ပြပါအတိုင်း ဖြစ်နေပါသည်။ 'ဗုဒ္ဓက သမထနှင့် ပဋ္ဌနာပြုခြင်းလမ်းကိုသာ လိုက်ခဲ့သည်။ (တိပ္ပဏီ) ဒေါက်တာကြီးက ဤအချက်နှစ်ချက်ကို အဘယ်အကြောင်းကြောင့် မပြောဘဲ၊ မရေးသားဘဲ၊ နေရပါသလဲ? ဘုရားရှင်ဗုဒ္ဓက အဘယ်သူကို သမထထိုင်တော့ ဘာကိုရှုသလဲ?၊ သူက ပဋ္ဌနာပြုသော် အဘယ်သူအား စိတ်ထဲ့ထား ပဋ္ဌနာပြုရသလဲ? ဤစာများကို ပြောရသဖြင့် သူသည် သူကိုပင်စော်ကားရာ ရောက်စေသည်။ မိလိန္ဒမေးခွန်းများကို ရေးသားသည့် ဘိက္ခုနာဂသေန (၁၅၀-နှစ် ယွင် ခရစ်ယာန် သက္ကရာဇ်)က ဗုဒ္ဓဒေသနာ၏ အဓိပ္ပါယ်ဖွင့်ဆိုချက်ကို လွယ်ကူသည့် စကားလုံးများနှင့် ရိုးရိုးရှင်းရှင်း ဖွင့်ဆိုရေးသားထားသည်။ ယင်းပြောဆိုချက်နှင့် ပါတ်သက်ပြီး ရာဒါကရိစ္စနန်းက ဤသို့ဆို၏။ "ရှင်ဗုဒ္ဓက ဗုဒ္ဓဝါဒ၏ အရင်းအမြစ်ဖြစ်သော ဥပနိသျှဒ်ကျမ်းများ ချိုးဖဲ့၍ ဉာဏ်လက်ခံနိုင်သည့် နယ်ပယ်တွင် စိုက်ပျိုးထားခဲ့သည် ဗုဒ္ဓ၏ နောက်ဆုံးရည်မှန်းချက်က ဥပနိသျှဒ်၏ ဝိညာဏဝါဒကို လူတကာတို့ နားလည်သဘောပေါက်နိုင်အောင် နေ့တဂူဝ သုံးစွဲနိုင်သည့် အဖြစ်မျိုးနှင့် ရုပ်သွင်းပေးခြင်းသာ ဖြစ်သည်။ အမှန်တကယ် ဗုဒ္ဓဝါဒ၏ နောက်ဆုံးရည်မှန်းချက်မှာ ဥပနိသျှဒ်ကျမ်းတွင် ဖေါ်ပြခဲ့ပြီးဖြစ်သော တရားဓမ္မကို လူထုကြားဖြန့်ဝေခြင်းသာ ဖြစ်ခဲ့ပါသည်။ (တပ္ပဏီ) ဘုရားရှင်ဗုဒ္ဓကိုယ်တော်တိုင်နှင့် ခေတ်ပြိုင်ဖြစ်သော သူ့တပည့်နောက်လိုက်များဖြစ်ခဲ့သော ရှင်အာနန္ဒာ၊ သာရိပုတ္တရာ၊ မောဂ္ဂလန်၊ ဥပါလိစသော ဘိက္ခုနာဂသေန (၁၅၀-နှစ်၊ ခရစ်သက္ကရာဇ်) အာစရိယနာဂအဇ္ဈုန (ခရစ်သက္ကရာဇ် ၁၇၅-ခုနှစ်) အသင်္ဂ (ခရစ်သက္ကရာဇ် ၃၇၅-ခုနှစ်) ဝသုဝန္ဓု (ခရစ်သက္ကရာဇ် ၄၀၀-ခုနှစ်) ဒိဂ္ဂနာဂ (ခရစ်သက္ကရာဇ် ၄၂၅-ခုနှစ်) ဓမ္မကီးတီး (ခရစ်သက္ကရာဇ် အနှစ် ၆၀၀-ခုနှစ်) သန္တိရက္ခိတ (ခရစ်သက္ကရာဇ် ၇၅၀-ခုနှစ်) ဉာဏသီရိသကျသိရိဘန္ဒြ (ခရစ်သက္ကရာဇ် ၁၂၀၀-ခုနှစ်)တို့ကတောင် မသိရာခဲ့သည့် အမှန်တရားကို ဒေါက်တာရာဒါကရိစ္စနန်းက ဥပနိသျှဒ်ကျမ်းမှာ ရှင်းရှင်းလင်းလင်းဖော်ထားသည်။ အတ္တဝါဒီကို ဘုရားရှင်ဗုဒ္ဓလို့ အနတ္တဝါဒီ အနတ္တဝါဒကို ဖြန့်ချီသူတယောက်လို့ စွပ်စွဲပြောဆိုသည်။ နှစ်ပေါင်း ၂၅၀၀-တွင် ဘာရတ၊ သီရိလင်္ကာ၊ မြန်မာ၊ ထိုင်း၊ တရုပ်၊ ဂျပန်၊ ကိုးရီးယား၊ ထိုင်ဝမ်၊ မလေးရှား၊ တိဘက်၊ အာရှအလယ်ပိုင်ဒေသ၊ ဗီယက်နမ်နှင့် မွန်ဂိုလီယားနိုင်



ငံများမှ ပညာရှင်များက ဗုဒ္ဓနှင့် ဗုဒ္ဓဝါဒကို နားမလည်ကြဘူးလား? ရာဒါကရိစ္စနန်းက တယောက်တည်းနားလည်းထားသူလား? ဆိုတာစဉ်းစားစရာပါပဲ။ တဖက်မှာ အကွပါး၊ ဝါဒနရာယင်၊ ဝါသာယာယနာ၊ ဥဒ္ဒိုတကရကုမာရိလ ဥဒယနတို့ကလည်း ဗုဒ္ဓနှင့် ဗုဒ္ဓဓမ္မကို နားလည်းထားတာလည်း မှားယွင်းပြီး၊ ၎င်းတို့၏ အဝိဇ္ဇာပင်ဖြစ်သည်။ အထက်တွင်ဖော်ပြသည့် အချက်အလက်မြောက်များစွာကို ထောက်ရှုသော ဘက်လိုက်သူတယောက် အမှန်တရားကို ကောင်းမွန်စွာ သဘောပေါက်နားလည်နိုင်သည်။ ဒေါက်တာရာဒါကရိဖ္စနန်းက ဗြာဟ္မဏ လူမျိုးတယောက်ဖြစ်ခဲ့သည်။ ဗုဒ္ဓဝါဒသဘောတရားကို နားလည်ရာတွင် သူမှားယွင်းခဲ့ပါသည်။ အဝါရောင်မျက်မှန် တပ်ထားသည့်အတွက် အရာရာကို အဝါဘဲမြင်ခဲ့သည်။ ဗုဒ္ဓနှင့် ဗုဒ္ဓဝါဒသဘောများ၏ အဓိပ္ပါယ်ကို ပြောင်းပြန်ဖွင့်ဆိုရေးသားခဲ့သည်။ အမှန်တကယ်ပြောရမည်ဆိုပါလျှင် ကျနော်က သူကို ဒဿနဆရာကြီးတစ်ဦးပါလို့ ပြောဆိုရခြင်းကို ရှက်မိပါသည်။

ဘာရတနိုင်ငံရှိ ဗြာဟ္မဏလူမျိုးအများအပြားတို့၏ ဘုရားရှင်ဗုဒ္ဓအပေါ်ထားရှိသည့် စေတနာအမြင်သည် မနာလိုမှုနှင့် ပြည့်စုံနေခဲ့ပါသည်။ ထိုသို့မကျေနပ်၊ မနာလိုဖြစ်ရသည်အကြောင်းရင်မှာ ဗုဒ္ဓဓမ္မမှာ အမှားအမှန် ခွဲခြားတတ်ပြီး သိပ္ပံပညာအမြင်၊ ပညာဉာဏ် (ပရဂျန်း)အပေါ် အခြေခံထားပါသည်။ တန်းတူညီမျှမှုမရှိကြ၊ လွတ်လပ်မှုမရှိကြ တရားမျှတတ်မှုတို့က ဤတရားတို့၏ လူမှုဆိုင်ရာ တန်းဘိုးနှင့် အခြေခံခံယူချက်ဖြစ်သည်။ သီလ၊ ကရုဏာ၊ မေတ္တာနှင့် အဟိံသတရားတို့သည် ဗုဒ္ဓဓမ္မ၏ အမြင့်ဆုံးတန်ဘိုးရှိတရားများ ဖြစ်ကြသည်။ ဗုဒ္ဓဝါဒ၏ ဆန့်ကျင်ဘက်ဖြစ်သော ဝေဒတရားဓမ္မ၊ ယနေ့အခေါ်အဝေါ်နှင့် ခေါ်ဆိုမည်ဆိုပါက ဟိန္ဒူသနာတနဓမ္မတရားတို့သည် မျက်ကန်းသဒ္ဓါရှုပ်ထွေးနေသော မဟုတ်မတရားမယုံကြည်မှု ပညာဉာဏ်ကင်းမဲ့သော အရာတို့ပေါ် အခြေခံထားသည်။ ဟိန္ဒူဓမ္မမှာ မနုဝါဒခေါ် ဇာတ်ခွဲခြားမှု စံနစ်ကို အခြေခံရာတွင် အချင်းချင်းမတူညီကြ၊ မညီမျှကြ၊ မတရားမှုစသည်တို့ကို အခြေခံကြောင်း သိရပါသည်။ မြောက်ပိုင်းဘာရတနိုင်ငံ တစ်ဝိုက်တွင် ပြောရိုးစကားတခုရှိပါသည်။ "နဂိုကတည်ကခါးနေသော နွယ်ပင်တခုသည် တမာပင်ပေါ်မှာ တက်လာခဲ့ရသလို့"ပင်ဖြစ်နေရပါသည်။ ဤသို့ပြောရိုးစကားသည် ဒေါက်တာရာဒါကရိစ္စနန်းမှာ ဘာရတာနိုင်ငံတောင်ပိုင်းမှာ အစွန်းရောက်ဟိန္ဒူဗြာဟ္မဏတစ်ဦးဖြစ်ခဲ့ရပါသည်။ ဘာရတနိုင်ငံတောင်ပိုင်းရှိ ဗြာဟ္မဏလလူမျိုးများမှာ

ဇာတ်စံနစ်၊ ကမ္မကါန္ဒနှ၊ မျက်ကန်းသဒ္ဓါရှိမှုစသည်ကိစ္စများအတွက် ဘယ်သူနဲ့မှ မတူအောင် အစွန်းရောက်သူများဖြစ်ကြသည်။ ဤသဘောတရားမှာ ယေဘုယျသဘောတရားဖြစ်သည်။ ဘုရားရှင်ဗုဒ္ဓမှာ ဤအပြုအမူများ ကျင့်ကြံခြင်းများကို လုံးဝနှစ်သက်ခြင်းမရှိ၊ ကန့်ကွက်သူတစ်ဦးသာ ဖြစ်ခဲ့သည်။ ဗုဒ္ဓ၏ ဓမ္မဒဿနတို့သည် ဟိန္ဒူသနာတနဓမ္မဒဿနကို လုံးဝဆန့်ကျင်သည့် ဒဿနဖြစ်ခဲ့ပါသည်။ ထိုထိုသို့သောအကြောင်းတို့ကြောင့် ဒေါက်တာရာဒါကရိဗ္ဗနန်းက ဗုဒ္ဓဒဿနကို ယ္ဒူလိုဆန့်ကျင်ပြောဆိုခြင်းမှာ သဘာဝပင်ဖြစ်နေရသည်။ ဗြာဟ္မဏဝါဒီ စာရိတ္တရှိနေပါ၍ ဒေါက်တာက ဗုဒ္ဓဆန့်ကျင့်သူတစ်ဦးဖြစ်လာခဲ့ရပါသည်။ ဤနေရာတွင် ဥဒါဟာရဏ် (ဥပမာ) တခုနှစ်ခုပေးပါရစေ။ ၎င်းဥပမာတွေက ဒေါက်တာဒါရာကဗ္ဗနန်းက ဗုဒ္ဓဆန့်ကျင်သူတစ်ဦးဖြစ်ကြောင်းကို ထင်ရှားစေသည်။ ဗုဒ္ဓဘာသာနှစ် ၂၅၀၀-ပြည့် အခမ်းအနားကျင်းပစဉ်က ဖြစ်သည်။ နေရူးကြီးသက်တော်ထင်ရှားရှိနေစဉ်ကဖြစ်သည်။ နေရူးကြီးက ဗုဒ္ဓဘာသာနှစ်ပေါင်း ၂၅၀၀-ပြည့် အခမ်းအနားကို သိုက်သိုက်မြိုက်မြိုက် ကျင်းပနေခဲ့သည်။ ထိုအချိန်ကာလက ဘာဘာဆာဟိမ် အမ္ဗေဒါကရ် ရေးသားပြုစုခဲ့သည့် The Budha and his Dharma 'ဗုဒ္ဓနှင့်သူ၏ဓမ္မ' ဟူသော စာအုပ်စာမူကို ရေးသာလို့ပြီးနေပြီးချိန်ဖြစ်သည်။ ဘာသာဆာဟိဗ် အင်ဗေဒကါရ်က ဗုဒ္ဓဘာသာ ၂၅၀၀-ပြည့် အခမ်းအနားတွင် ဤစာအုပ်ကို ပုံနှိပ်ထုတ်ဝေချင်ပါသည်။ အဆိုပါကိစ္စကို နေရူးအား တင်ပြလာသော် နေရူးက စိတ်ဝင်စားမှုမပြခဲ့ပါ။

ဘာဘာဆာဗ် ဒေါတာအမ္ဗေဒါကရ် ရေးသားပြုစုခဲ့သည် 'ဗုဒ္ဓနှင့်သူ၏ဓမ္မကျမ်း' နေရာတွင်အခြားစာအုပ်တအုပ်ကို အစိုးရအနေနှင့် ထုတ်ဝေဖြန့်ချိစေခဲ့သည်။ ထိုစာအုပ်မှာအိန္ဒိယအစိုးရ ဂုဏ်ပကါသနတင်သွားမည့် စာအုပ်ဖြစ်သည်။ ဂျဝါဟာလာလ်နေရူးသည်လည်း ဗြာဟ္မဏလူမျိုးတယောက်ဖြစ်နေသည်အားလျော်စွာ ထိုစာအုပ်ကိုပင် ရွေးချယ်ထုတ်ဝေဖြန့်သည်လို့ဘဲ ကျနော်ယူဆပါသည်။ ထိုစာအုပ်ကို အယ်ဒီတာမှာ မနနိယပီးဘီးဇာပတဖြစ်၍ ဒေါက်တာရာဒါကရိဗ္ဗနန်း၊ ကိုယ်တိုင်က ဥယောဇဉ်ရေးသားသူဖြစ်ခဲ့ရပါသည်။ ဒေါက်တာရာဒါကရိဗ္ဗနန်း ရေးသားခဲ့သည် ဥယောဇဉ်ကို ဖတ်ရှုခြင်းအားဖြင့် ဒေါက်တာရာဒါကရိဗ္ဗနန်းမှာ ဗုဒ္ဓဘာသာနှင့် ပါတ်သက်လို့ 'က၊ ခ'တောင်မသိရှာသော ပုဂ္ဂိုလ်တယောက်ဟု အာမခံပြောဆိုနိုင်ပါသည်။ ဗုဒ္ဓဓမ္မ၏ နောက်ကွယ်မှာ ဟိန္ဒူဓမ္မအကြောင်းကို ခမ်းခမ်းနားနားတင်ပြခဲ့ပါသည်။ အစပိုင်းတွင် ထိုစာအုပ်က



ကောင်းသလို ရှိခဲ့ပါသည်။ သို့သော် ဘာသာဆာဗ် အမ္ဗေဒကရ်ရေးသားသည်' ဗုဒ္ဓနှင့် သူ၏ဓမ္မ'နှင့် နှိုင်းယှဉ်လို့ ဘယ်နည်းနှင့်မှ မရနိုင်သောစာအုပ်ဖြစ်ခဲ့ရပါသည်။

ဒေါက်တာအမ္ဗေဒကရ အင်္ဂလိပ်လို ရေးသားခဲ့သည် 'Buddha and his Dhamma' စာအုပ်ကို သိဒ္ဓတ္ထစာပေမှာ Peoples Education socitey မှာ ထုတ်ဝေခဲ့ပါသည်။ ယင်းစာအုပ်က သိန်းနှင့်ချီ၍ ရောင်းရပြီး ၎င်းစာအုပ်ကို မဟာရာစ်တပြည်နယ်အစိုးရမှ ဟိန္ဒီဘာသာနှင့် အိန္ဒိယနိုင်ငံ၏ တရားဝင်သုံးစွဲနေကြသော ကန္နဒ၊ ပန်ဂျာဘီ၊ မရာထီ၊ မင်္ဂလာ၊ ဂျာပန်ဘာသာစကားတို့ဖြင့် ဘာသာပြန်ပြီး ထုတ်ဝေပြီးဖြစ်သည်။ ဟိန္ဒီဘာသာဖြင့်ဘာသာပြန်ဆိုသူမှာ ဘဒ္ဒန္တအာနန္ဒကောသလာယန်ဖြစ်ပါသည်။ သမ္မယကပရာကရှန်၏ ပိုင်ရှင်ဖြစ်သူ သန္တိရေပ် ဗော်ဒ္ဓ၊ ဤစာအုပ်ကို မကြာမီကာလအတွင်း ထိုင်း၊ မြန်မာနှင့် တိဘက်ဘာသာစကါးများဖြင့် ပုံနှိပ်ထုတ်ဝေသွားရန် စီစဉ်ထားပါသည်။

ဤစာအုပ်သည် အလွန်းအရေးကြီးသော စာအုပ်ဖြစ်ပါသည် ယနေ့ကမ္ဘာရှိပညာရှင်များက ဤစာအုပ်ကို 'အနုတ်ပိဋက'ကျမ်းဟု၍ အသိအမှတ်ပြုကြပါသည်။ ဤစာအုပ်၏ ဝိသေသဂုဏ်းမှာ ဤစာအုပ်တွင်ရေးသား ဖော်ပြပေးထားသော သဘောတရားခံယူချက်များက ခေတ်မှီသိပ္ပံပညာနှင့် ဟပ်စပ်လျှက် ပြိုင်တူပခုံးချင်းယှဉ်ကာ ဖော်ပြထားသည်။ ရှေးဟောင်းကါလအချိန်တွင် ဗုဒ္ဓဘာသာကို မျက်ကန်းသဒ္ဓါသူများက ဟိုက်ဂျက်လုပ်ထားသည် အချက်သည် မှန်နေပါကြောင်းတွေ့ရှိနိုင်ပါသည်။ ဟိုက်ဂျက်လုပ်ထားသူများက ဗုဒ္ဓဓမ္မကို သဘာဝမကျသော အချက်အလက်များထည့်ကာ တင်ပြထားကြောင်းကိုလည်း ဤစာအုပ်က အချက်အလက်တိကျစွာဖြင့် ဖော်ပြထားသည်။ ဘာဘာဆာဗ် ဒေါက်တာအမ္ဗေဒကာရ်က ထိုသဘာဝမကျသော သိပ္ပံပညာနှင့် ဝေးကွာနေသော မျက်လှည့်၊ ပယောဂဆန်သော အချက်အလက်တို့ကို ဖယ်ထားပြီး ဗုဒ္ဓဘာသာ၏ အမှန်သဏ္ဍာန်ကို ဖော်ပေးထားသည်။ ပရဂျန်းဉာဏ်သက်သက်ပေါ် မှီဝဲအခြေခံထားသည့်တရားများကို ဖော်ပြပေးထားသည်။

ဤစာအုပ်ကျမ်းကို ပုံနှိပ်ထုတ်ဝေလိုက်သောအခါ မျက်ကန်းဗုဒ္ဓဘာသာဝင်တို့က အတော်အကျပ်အတည်း ရိုက်သွားခဲ့ရပါသည်။ မဟာပဏ္ဍိတရာဟုလသံကာရစ္စာယန (ရာဟုလသံကိစ္စည်း) ဒေါက်တာဘဒ္ဒန္တအာနန္ဒကော

သလာယန၊ ဘိက္ခုဓမ္မရက္ခိတ၊ ဘိက္ခုပရရဂျန်းနန္ဒကဲသို့သော ဗုဒ္ဓပညာရှင်တို့က ချီးကျူးထောပနာပြုလာခဲ့သော ကျမ်းစာအုပ်ဖြစ်နေပါသည်။ ဤကျမ်းစာအုပ်မှာ ဗုဒ္ဓဓမ္မ၏ အမှန်မြတ်ဆုံးကျမ်းစာအုပ် ဖြစ်လာခဲ့လေသည်။ ယနေ့ ဤစာအုပ်မှ အိန္ဒိယနိုင်ငံအတွင်းသာမက နိုင်ငံခြားရှိ ဗုဒ္ဓဘာသာတို့၏ ချီးကျူး ထောပနာပြုခြင်းကို ခံနေရပါသည်။

နောက်အဖြစ်အပျက်တခုမှာ ဘာရတနိုင်ငံတွင် ဗုဒ္ဓဘာသာနှစ် ၂၅၀၀-ပြည့် အခမ်းအနားကို ကျင်းပနေစဉ်ကါလက အဖြစ်အပျက်ဖြစ်ပါသည်။ သီရိလင်္ကာ ပြည်သမ္မတက ထိုအခမ်းအနားကို တက်ရောက်လာခဲ့ပါသည်။ သမ္မတအား ကြိုဆိုပွဲအခမ်းအနားတခုကို အိန္ဒိယအစိုးရက ပြုလုပ်ခဲ့ပါသည်။ ကွန်ဂရက်ပါတီဝင် ရမ်းဘိုဇ်က အဲဒီအချိန်ကာလတွင် ပါလီမန်အဖွဲ့ဝင်တစ်ဦးဖြစ်ခဲ့သည်။ ထိုသူသည် ဒေါက်တာအမွေဒကာရ်ပမာ ဗုဒ္ဓဘာသာကို ခံယူထားသည့် ပုဂ္ဂိုလ်တစ်ဦးဖြစ်ခဲ့ရသည်။ ဗုဒ္ဓဓမ္မပြန့်ပွါးရေးကို ရှေ့ရှုကာ ထိုပဂ္ဂုလ်မှာ Journal စာအုပ် ထုတ်ဝေသူဖြစ်နေသည်။ ဗုဒ္ဓဘာသာဝင် မဟိုသက၊ မစုကရ၊ ပိပလာယနမှာ ထို Journal စာအုပ် (Editor) အဖြစ်ဆောင်ရွက်ခဲ့သည့် အချိန်ကါလဖြစ်သည်။ ဗုဒ္ဓဘာသာဝင်တစ်ဦးဖြစ်နေသာ P.N Rambhoj၏ စိတ်ထဲမှာ အကြံအစည် တခုပေါ်ခဲ့၏ သူသည် သီရိလင်္ကာသမ္မတကြီးကို ဂုဏ်ပြုလွှာတခုကို အသေအချာပြုစုပြီး အခမ်းအနားတွင် သမ္မတအားပေးအပ်ရန် ကြံရွယ်ခဲ့သည်။ ထိုဂုဏ်ပြုလွှာက အိန္ဒိနိုင်ငံ ဗုဒ္ဓဘာသာဝင်များ ကိုယ်စားဆက်သရန် ဖြစ်သည်။ ပါလီမန်အဖွဲ့ဝင် ရမ်းဘိုဇ်က ထိုအကြံဉာဏ်ကို ပဏ္ဍိတဂျဝါဟာရလာလ်နေရူးအား တင်ပြခွင့်တောင်းခဲ့ပါသည်။ နေရူးက ထိုအကြံဉာဏ်ကို သဘောကျပါသည်။ သို့သော် ရမ်းဘိုဇ်ကို အိန္ဒိယဒုသမ္မတဖြစ်သူ ဒေါက်တာရာဒါကရိဇ္ဇနန်း၏ သဘောတူညီချက်ကို ရယူရန် မှာကြားခဲ့သည်။ ရမ်းဘိုဇ်က ယင်းဂုဏ်ပြုလွှာကို သီရိလင်္ကာသမ္မတကို ဆက်သနိုင်ရန် အားတက်သရောကြိုးပမ်းခဲ့ပါသည်။ သို့သော် အိန္ဒိယနိုင်ငံ၏ ဒုသမ္မတကြီးဖြစ်သော ဒေါက်တာရာဒါကရိဇ္ဇနန်းယ၏ ပယ်ချခြင်းကို ခံခဲ့ရပါသည်။ သူခမျာ ၎င်းဂုဏ်ပြုလွှာကို လက်ထဲကိုင်လျက် အိမ်ပြန်ခဲ့ရပါသည်။

ဤအဖြစ်အပျက်မျိုးကို ထောက်ရှုသော ဒုတိယသမ္မတ ရာဒါကိရိဇ္ဇနန်းက ဗုဒ္ဓနှင့်ဗုဒ္ဓဘာသာဝင်များအပေါ် ဘယ်လိုစိတ်ထားမျိုးထားသည်ဆို



တာက ထင်ရှားနေပါသည်။ ထိုသို့သောအကြောင်းများကြောင့် ဒဿနဆရာကြီး ရာဒါကရိဇ္ဇနန်းက ဗုဒ္ဓနှင့်ဗုဒ္ဓဓမ္မ၏ အဓိပ္ပါယ်ဖွင့်ဆိုချက်များကို အဓိပ္ပါယ်ပျက်သွားအောင် ကမ္ဘာကို တင်ပြခဲ့ပါသည်။ ဤအဖြစ်အပျက်ကို ကြည့်ခြင်းအားဖြင့် ဒေါက်တာရာဒါကရိဇ္ဇနန်းက အိန္ဒိယနိုင်ငံရှိ ဗုဒ္ဓဘာသာဝင်များ ဇာတ်နိမ့်သူများအပေါ် ခွဲခြားဆက်ဆံသည်မှာ ထင်ရှားနေပါသည်။ ယခုအကြောင်းများကြောင့် သူသည် ရှင်ဗုဒ္ဓနှင့် ဗုဒ္ဓဓမ္မနှင့်ပါတ်သက်ရာပါက်သက်သည့် အကြောင်းအရာများကို မဟုတ်မတရား ရေးသားခြင်းဖြစ်သည်။

## ဆွာမိဝိကနန္ဒ၏ ဒွိဟသံသယဖြစ်စေစရာအကြံအစည်းများ

ဆွာမိဝိဝေကနန္ဒကို ခေတ်မှီသူတော်စင်များအနက် လေးစားကြည်ညိုဘွယ်ကောင်းသော ပုဂ္ဂိုလ်ကြီး အဖြစ်သတ်မှတ်ကြပါသည်။ ဆွာမိဝိဝေကနန္ဒကို မဟာရိက္ခိဒယာနန္ဒပမသည်ပင် အများက လေးစာလက်ခံထားသည်။ သို့သော် အိန္ဒိယနိုင်ငံတွင် ရှိနေသောဇာတ်စံနစ်၊ အမျိုးအနွယ်ခွဲခြားမှုစံနစ်တို့ကြောင့် ဤနိုင်ငံမှာ နေထိုင်ကြသည့် ဗြာဟ္မဏလူမျိုးများက သူ့အား ဆွာမိအဆင့်ထက်ပို၍ အခြားကြီးမားသည့် အခေါ်အဝေါ်တို့ကို မပေးခဲ့ကြပါ။ သူက "ကါယတ္ထ" လူမျိုးတယောက်ဖြစ်ခဲ့ပါသည်။ ဇာတ်ခွဲမှုစံနစ်အောက် 'ကါယတ္ထ' လူမျိုးတို့ကို 'သုံဒြ' အဆင့်တွင်ထားကြသည်။ ဒယာနန္ဒသူရသတိက ဗြာဟ္မဏအမျိုးဖြစ်ပါ၍ သူအား မဟာရိက္ခိဟူ၍ ဘွဲ့နာမပေးထားခဲ့သည်။ ဆွာမိဝိဝေကနန္ဒက ခေတ်မီယဉ်ကျေးမှု ဇာတ်အနည်းငယ်ရှိနေပါ၍ သူမှာတိုးတက်သော အမြင်ရှိခဲ့၏။ သို့သော်ဝေဒနှင့် ဥပနိသျှဒ်ကျမ်းများကို လက်ခံသူတစ်ဦးဖြစ်သည့်အားလျော်စွာ သူသည် ထိုယဉ်ကျေးမှုကို ကိုယ်စားပြုခဲ့သူ တစ်ဦးအနေနှင့်သာ ကျော်ကြားခဲ့ပါသည်။ ဆာမိဝိဝေကနန္ဒက တဖက်တွင် တိုးတက်သောအမြင်ရှိပြီး တဖက်တွင် ထိုဝေဒဥပနိသျှဒ်ကျမ်းများထဲက မျက်ကန်းယဉ်းကျေးမှု ကိုးကွယ်မှုတို့ကိုပင် အားပေး ထောက်ခံသွားပါသည်။ ဆွာမိဝိဝေကနန္ဒက ရေးသားထားသည့်စာပေများကို ဖတ်ရှုသည့်အခါ၊ သူ့မှာ ရှင်ဗုဒ္ဓအား လေးစားကြည်ညိုမှုရှိခဲ့သော ပုဂ္ဂိုလ်ကြီးအဖြစ် မြင်တွေ့ရပါသည်။ သို့သော် ဆွာမိကြီးက ဗုဒ္ဓနှင့်ဗုဒ္ဓစာပေလေ့လာမှု အားနည်းနေကြောင်း တွေ့ရှိနိုင်သည်။ သို့အတွက် သူသည် ဒေါက်တာရာဒါကရိဇ္ဇနန်းလို ဗုဒ္ဓနှင့်ဗုဒ္ဓဓမ္မ၏ အသိဉာဏ်နည်းခဲ့ရပါသည်။ အမှန်စင်စစ် 'ဆွာမိကြီး' က ဗုဒ္ဓဓမ္မ၏သဘောတရားကို မသိနားမလည်သူ တစ်ဦး

ဖြစ်သည်။ သို့ဖြစ်ပါ၍ သူပြောသည့်စကားများမှာ အဓိပ္ပါယ်လွဲစရာဖြစ်နေခဲ့ပါသည်။ ဆွာမိကြီးက ဘုရားရှင်ဗုဒ္ဓနှင့်သူ၏ တရားများဆိုသည့် စာအုပ်တစ်အုပ်တွင် ရေးသားခဲ့သည်။ ၎င်းစာအုပ်ကို ရာမခရိချုန မိရှင်မထကျောင်းမှ ထုတ်ဝေဖြန့်ချီထားသည်။ ယင်းစာအုပ်၏ ရှစ်ကြိမ်မြောက်ပုံနှိပ်သည့်စာအုပ်ကို ကျနော်ဖတ်ရှုခွင့်ရပါသည်။ ထိုစာအုပ်ကို ဖတ်ရှုပြီး ကျနော် များစွာစိတ်ပျက်ခဲ့မိသည်။ ကျနော်စိတ်ပျက်ခဲ့ရာ အကြောင်းအရာကို တင်ပြလိုသည်။ ဆွာမိကြီးက ရေးသားထားသည့် အောက်ပါအချက်အလက်တို့ကို ယုံကြည်ပါ။ ဗုဒ္ဓဘာသာဝင်တစ်ဦးဖြစ်ခဲ့ပါလျှင် ကျနော်နှင့်အလားတူ စိတ်ပျက်ခဲ့ရပါမည်။ မုချပင်ဖြစ်ရမည်။ သူရေးသားထားသည်မှာ ဘုရားရှင်ဗုဒ္ဓသည် ကျနော် ကိုးကွယ်ရာဖြစ်သည်။ ကျနော်ကိုယ်တိုင် ကိုးကွယ်ထားသည့် ဣဿရ (ထာဝရ ဘုရားသခင်)ဖြစ်သည်။ သူကိုယ်တိုင်က ဣဿရဖြစ်သည်။ သူကို ကျနော် ယုံကြည်သည်။

(တိပ္ပဏီ) ဆွာမိဝိဝေကာနန္ဒသည် အဆင့်မြင့်သူတော်စင် (saint) တစ်ပါးဖြစ်သည်။ သို့သော်သူရေးသားခဲ့သည့် အကြောင်းအရာနှင့် အချက်အလက်တို့ကို ဖတ်ရှုရသည့်အခါ သူသည် ရှင်ဗုဒ္ဓနှင့်ပတ်သက်ပြီး သာမန်ကျသော စကားများကိုလည်း နားလည်ထားခြင်းမရှိခဲ့ပါလို့ဘဲ ကောက်ချက်ချလို့ရပါသည်။ ဗုဒ္ဓကိုယ်တိုင်က ကျနော် ဣဿရ ထာဝရဘုရားသခင်မဟုတ်ပါဘူးလို့ ပြောထားခဲ့သားနှင့် ၎င်းအား သီရိကရိစ္စနန်းလို ထာဝရဘုရားသခင်လို့ ပြောဆိုရခြင်းမှာ မှားယွင်းနေပါသည်။ ထို့ကြောင့် ဆွာမိကြီး၏ ယင်းပြောဆိုချက်များ လုံးဝအခြေအမြစ်မရှိသော စကားများဖြစ်နေပါသည်။ ဆက်လက်ပြောထားသည်မှာ “ငါတို့ သာကျမုနိဂေါတမ၏ သွန်သင်ချက်များ အသိပင်ဖြစ်ကြပါသည်။ ငါတို့က ၎င်းသာကျမုနိဂေါတမအား ထာဝရဘုရားသခင်၏ ကိုယ်ပွားတော်အဖြစ် ပူဇော်ကြကုန်၏။”

(တိပ္ပဏီ) ဗုဒ္ဓကိုယ်တော်တိုင်က မိမိအား ကျနော်တို့အားလုံးနှင့်တူ၏ သဘာဝကမွေးဖွားပေးခဲ့သူ တယောက်ပါဟု ပြောဆိုခဲ့ပါသည်။ သူက မိမိကိုယ်ကို ဝိသနိုး၏ ကိုယ်ပွားတော်ပါဟု ဘယ်သောအခါမှာမှ မပြောဆိုခဲ့ပါ။ ထို့အပြင် သူ့ကိုပူဇော်ကြဘို့လည်း လူတို့အား အားမပေးခဲ့ပါ။ အကြင်သူသည် ဗုဒ္ဓအား ထာဝရဘုရားသခင်လို့ ယူဆယုံကြည်က ပူဇော်ကြ၏၊ ထိုလူတို့၏



သဘောတရားပင်ဖြစ်နေ၏၊ ဗုဒ္ဓနှင့်လုံးဝမဆိုင်သော ကိစ္စပင်ဖြစ်နေပါသည်။ ဗုဒ္ဓမှာ ဝေဒ္ဒန္တီ (ဝေဒ္ဒန္တဒသနာကို လိုက်နားယုံကြည်ဖြန့်ချီပေးသူ) တစ်ဦးဖြစ်ပါသည်။ သူသည် ဝေဒကျမ်းများ၏ လူသာမန်တို့ မသိနိုင်သော ဉာဏ်ပညာများကို လူများတို့ သိရှိနားလည်နိုင်အောင် ဖြန့်ချီပေးခဲ့ပါသည်။

(တိပ္ပဏီ) ဘုရားရှင်မြတ်ဗုဒ္ဓအား ဝေဒ္ဒန္တီတစ်ဦးပါလို့ ပြောဆိုရခြင်းမှာ လုံးဝ အခြေအမြစ်မရှိသော စကားပါ။ မဟာလူသားဗုဒ္ဓက မိမိကို မိမိ အဘယ်အချိန်အခါမှာပင် ယှဉ်လိုမဆိုထားပါ။ ဗြာဟ္မဏများက သူအား ဝေဒအား အပုပ်ပြောသူဆိုပြီး ဆဲဆိုးကြိမ်းမောင်းခဲ့ဘူးသည်။ ထိုသို့ ပရဂျန်းဉာဏ်ရှင်ဝေဒ္ဒန္တီဆိုရခြင်းမှာ လုံးဝမှားယွင်းနေပါသည်။ ဝေဒ္ဒန္တီဆိုရခြင်းသည် ဆွာမိ၏ မသိနားမလည်မှုများကိုသာ ထင်ဟပ်ပေးနေပါသည်။ “ရှင်ဗုဒ္ဓမှာ လူမှုရေးကို သန့်စင်ပေးသူ လူမှုရေးပုဂ္ဂိုလ်တစ်ဦးဖြစ်ပါသည်။”

(တိပ္ပဏီ) ရှင်ဗုဒ္ဓအား ရာဂျာရမ်းမိုဟန်လို လူမှုရေးသန့်စင်ပေးသူ ပုဂ္ဂိုလ်တစ်ဦးလို့ ပြောဆိုနိုင်ခြင်းသည် သူအားလျော့တွက်ခြင်းပင်ဖြစ်သည်။ လူမှုရေးနှင့် ပါတ်သက်နေသည် လူပုဂ္ဂိုလ်များက ကောင်းသည့်ပုဂ္ဂိုလ်များပင်ဖြစ်လင့်ကစား ၎င်းပုဂ္ဂိုလ်များမှာ အားနည်းချက်တစုံတရာလည်း ဖြစ်နိုင်သည်။ ဘုရားရှင်ဗုဒ္ဓမှာ တစ်ပေါက်မျှမစွန်းသော မဟာလူသားတစ်ဦးဖြစ်ပါသည်။ အခြားလူသားလို အားနည်းချက်တစ်စုံတရာမရှိ အပြစ်ဖြ–ပါး လုံးဝ ကင်းရှင်းသော မဟာလူသားဖြစ်သည်။ ထိုဘုရားရှင်မြတ်ဗုဒ္ဓသည် လူသားတရပ်လုံးကို သစ်ဆန်းသော လမ်းတခုပြပေးသူဖြစ်ပါသည်။ မဂ္ဂင်ရှစ်ပါးသော လမ်းကြောင်းပြပေးခဲ့ပါသည်။ သူကို ရိုးရိုးလူမှုရေးသန့်စင်သူဟု ခေါ်ဆိုခြင်းမှာ သူ့ဂုဏ်ကို လျော့တွက်ခြင်းပင် ဖြစ်ပါလိမ့်မည်။ ‘ရှင်ဗုဒ္ဓမှာ ဝေဒ္ဒန္တဒသကြီးကို အားသစ်မာန်သစ် လောင်းပေးသူဖြစ်သည်။’

(တိပ္ပဏီ)ဆွာမိဝိဝေကာနန္ဒ၏ ဤသို့ပြောဆိုခြင်းသည် အခြေအမြစ်မရှိသော ပြောဆိုခြင်းမျိုးဖြစ်သည်။ ဆွာမိကြီး၏ ယင်းပြောဆိုချက်များက သူ ဗုဒ္ဓဓမ္မကို မသိနားမလည်ခြင်းကိုသာ ထင်ဟပ်ပေးနေခြင်းသာဖြစ်သည်။ မဟာလူသား ဗုဒ္ဓက ဝေဒဓမ္မနှင့် ဝေဒယဉ်ကျေးမှုကို လုံးဝလက်ခံယုံကြည်မှုမရှိသောသူ ဖြစ်သည်။ သူကို ဝေဒ္ဒန္တီဝေဒပညာများအတွက် အခေါ်များကို လက်ခံယုံကြည်သူ ဟုခေါ်ဆိုရခြင်းမှာ ဆွာမိကြီး၏ အသိဉာဏ်ခေါင်းပါးမှုကို ထင်ဟပ်

ပေးခြင်းသာဖြစ်သည်။ အတ္တဉာဏ်ရရှိရေးအတွက် ရှင်ဗုဒ္ဓက စိတ်ပိုင်းဖြတ်ပြီး ထိုင်ခဲ့သည်၊ နောက်ဆုံးပရမဗုဒ္ဓဉာဏ်ရရှိမှသာ ထတော့သည်။'(တိပွဏ္ဏိ) အတ္တပညာဉာဏ် (ကိုယ့်ကိုယ်ကို သိရှိအပ်သောညာဏ်ပညာ) ကို သိရှိနိုင်ရန် ဗုဒ္ဓသည် တပ္ပအကျင့် (တပသယာ) ဝင်ခြင်းမဟုတ်ပါ။ ဒုက္ခတို့၏ လွတ်ကင်းရန် လမ်းစဉ်ကိုရှာဖွေရန် ထိုအကျင့်ကို ကျင့်ကြံခဲ့ပါသည်။ သူရရှိခဲ့သောဉာဏ်မှာ အတ္တဉာဏ်မဟုတ်ပါ။ ဒုက္ခအပေါင်းမှ နိရောဓဉာဏ်ဖြစ်သည်။ သို့အတွက်ကြောင့် ဆွာမိကြီး၏ အထက်ပြောဆိုခြင်းမှာ မှားယွင်းနေပါသည်။ ရှင်ဗုဒ္ဓရရှိခဲ့သော ဉာဏ်မှာ အနိစ္စ၊ ဒုက္ခ၊ အနတ္တတည်းဟူသော မဟာဉာဏ်(၇)ဆင့် ဖြစ်ပါသည်။ အဆိုပါ ဉာဏ်ဆင့်ကို တက်မိလို့ ဒိဗ္ဗစက္ခုဉာဏ် ရရှိသည်ဟု ဆိုပါသည်။ ဘုရားရှင်ဗုဒ္ဓသည် သံယာစ်အာရှရမ်းကို စတင်သူဖြစ်သည်။ သူသည်သာ 'သံယာစ်အာရှရမ်း' ၏ မူလပုံသဏ္ဍာန်ကို ဖော်ဆောင်ပေးသူဖြစ်ပါသည်။

(တိပွဏ္ဏိ) ဆွာမိဝိဝေကာနန္ဒ၏ ဤသို့ဆိုရခြင်းမှာ မှားနေသည်။ 'သံယာစ်အာရှရမ်း'က ဝေဒကျမ်းများကို လူ့ဘဝတသက်တာကို လေးပိုင်းဖြတ်၍ ပြဋ္ဌာန်းထားပေးသည်၏ နောက်ဆုံးသတ်မှတ်ချက်ဖြစ်သည်။ ဝေဒကျမ်းများမှာ လူသက်တမ်းတခုလုံးကို လေးပိုင်းပိုင်း၍ သတ်မှတ်ပြဋ္ဌာန်းပေးခဲ့ပါသည်။ (၁) ဗြဟ္မစရိယ (၂) ဂေဟပတိ (၃) ဝါဏပရဆထ (၄) သံယာစ်အရှရမ်းတို့ဖြစ်သည်။ ရှင်ဗုဒ္ဓက အဆိုပါ 'အရှရမ်း'သတ်မှတ်ချက်များကို ဝေဖန်ကန့်ကွက်သူဖြစ်ခဲ့ပါသည်။ သကျမုနိမှာ သဘောထားကြီးသူဖြစ်သည်။ သူသည် ဝေဒကျမ်းများမှ သူများမမြင်သော မသိသော အမှန်တရားများ ကောက်နုတ်ထုတ်ယူကာ လူတကာသိရှိနားလည်ဖြန့်ချိပေးခဲ့ပါသည်။

(တိပွဏ္ဏိ) ဆွာမိဝိဝေကာနန္ဒ၏ အထက်ပြောဆိုချက်များလည်း အခြေအမြစ်မရှိတဲ့ပြောဆိုချက် မဟုတ်မမှန်ပြောဆိုချက်သာဖြစ်နေပါသည်။ အကြောင်းမှာ ဘုရားရှင်ဗုဒ္ဓသည် ဝေဒကျမ်းများ၌ ဖော်ပြပေးထားသည် သွန်သင်ချက်များကို စိတ်ကူးယဉ်သက်သက်၊ လိမ်လည်ထားချက်၊ အဝိဇ္ဇာသက်သက်ဖြစ်ကြောင်းဆိုထားခဲ့ပါသည် ဘုရားရှင်ဗုဒ္ဓက ဝေဒကျမ်းများ၌ ဖော်ပြပေးထားသော နတ်ဒေဝတာ၊ နတ်ဒေဝီတို့အား ပူဇော်ခြင်း၊ ဟိသနှင့်ပြည့်နေသော ယာဇ်ပူဇော်ပွဲ၊ ဇာတ်စံနစ်၊ လူသက်တမ်းကို (၄) ပိုင်း၍ ဖော်ပြပေးသည်။ 'အာရှရမ်း' ပြဋ္ဌာန်းချက်များကို ဝေဖန်ကန့်ကွက်သူတစ်ဦးဖြစ်ကြောင်း လူသား



မဆန်ကြောင်း ပြစ်ထင်ဝေဖန်ရှုတ်ချခဲ့သူဖြစ်ခဲ့ရပါသည်။ သူသည် ပထမဦးဆုံးသော တမန်တော်ဖြစ်ခဲ့သည်။

(တိပွဏ္ဏိ) ဘုရားရှင်ဗုဒ္ဓအားတမန်တော် ခေါ်ဆိုရခြင်းမှာ မသင့်တော်ပါ။ သူ့ကိုယ်ကိုသူ တခါမှာ သူတပါး၏ စေလွှတ်ထားသော တမန်တော်ပါဟု မပြောခဲ့ပါ။ 'ခရစ်တော်ယေရှုနှင့် ရှင်ဗုဒ္ဓတို့က ဘုရားဖြစ်၍ကျန်ရှိသူများက တမန် တော်များသာဖြစ်သည်'။

(တိပွဏ္ဏိ) ဘုရားဗုဒ္ဓသည် မဟာမာနဝ (မဟာလူသား) တစ်ဦးဖြစ်သည်။ ရှင်ဗုဒ္ဓမှာ ထာဝရဘုရားသခင်တည်းဟုခံယူချက် ပစ်ပယ်ခဲ့သူတယောက်ဖြစ်သည်။ သူကိုထာဝရ (ဣသွာရ) ဟုခေါ်ဆိုခြင်း သတ်မှတ်ခြင်းတို့က မသင့်တော် တရားမျှတတ်ခြင်း မဖြစ်နိုင်။ အကြိမ်းပေါင်းများစွာ သူအား ဣသွာရထာဝရဘုရားနှင့် စပ်လျဉ်းပြီး မေးမြန်းသည်အခါမျိုး၌ "ဝါမသိ"လို့ဘဲ ဖြေခဲ့ပါသည်။"

(တိပွဏ္ဏိ) ရှင်ဗုဒ္ဓအား ယျှလို စွပ်စွဲပြောဆိုခြင်းသည် မှားပါသည်။ ဗုဒ္ဓသည် ထာဝရဘုရားရှင် ဣသွာရ၏ ရပ်တည်မှုကို မယုံကြည်သော ပုဂ္ဂိုလ်တစ်ဦးဖြစ်သည်။ ထာဝရဘုရားသခင်၏ ရပ်တည်မှုနှင့် စပ်လျဉ်းပြီး မရှိကြောင်းကို မကြာခဏလိုလို ပြောဆိုခဲ့ပါသည်။ ဆွာမိကြီးက ယျှအချက်ကို အဘယ်မှာ တွေ့ရှိလာခဲ့ရပါသနည်း ဆိုတာမသိရှိကြဘူး? ထာဝရဘုရားသခင် ရပ်တည်မှုနှင့် စပ်လျဉ်းပြီးဆန့်ကျင့်သည့် ဗုဒ္ဓဝါဒသည် အနိစ္စ၊ ဒုက္ခ၊ အနတ္တဝါဒကို အခြေခံထားသည်။ ရှေးအခမ်းများမှာ'ကဗျကတ'လို့ပြောထားသည့် စကားမေးခွန်းများထဲမှာ ထာဝရဘုရားသခင်ဟူသော စကားက မပါပါ၊ ဗုဒ္ဓဘုရားရှင်၏ ဆုံးမသွန်သင်ချက်တိုင်းက ဝေဒ္ဒန္တဒဿနပေါ် အခြေခံပါသည်။

(တိပွဏ္ဏိ) ဆွာမိကြီး၏ ယျှပြောဆိုချက်မှာ မဟုတ်မတရားအပေါ် အခြေခံပါသည်။ ဝေဒ္ဒန္တဆိုသည်မှာ ဝေဒတို့ ပြီးဆုံးကုန်ဆုံးခြင်းကို ဆိုလိုပါသည်။ ဝေဒတို့၏ ပြည့်စုံခြင်းသည် ဥပနိသျှဒ်ကျမ်းများဖြစ်သည်။ ဗုဒ္ဓမတိုင်ခင်က ဥပနိသျှဒ်ကျမ်း (၃) ခုရှိခဲ့ပါသည်။ ဗုဒ္ဓနှင့် ခေတ်ပြိုင်ကာလတွင် နောက်ထပ် (၂)ကျမ်း ပေါ်ထွန်းခဲ့ပါသည်။ ဤဥပနိသျှဒ်ကျမ်းကြီး (၅) အုပ်လုံးမှာ ဗုဒ္ဓဒဿန (အတွေးအခေါ်) ဖြစ်သည်။ သို့မဟုတ်ဗုဒ္ဓ၏ ဆုံးမသွန်သင်ချက်များဖြစ်ကြသည် အနိစ္စ၊ အနတ္တ၊ ဒုက္ခ၊ မဇ္ဈိမပဋိပဒါ၊ အရိယသစ္စာလေးပါး၊ မဂ္ဂင်ရှစ်ပါး၊ သုညဝါဒ၊

ပဋိသမ္ဘိဒါနှင့်ပါတ်သလို ဘာမှမတွေ့ရပါ။ အဲဒီတော့ ဆွာမိကြီးက ယခုလို စကားမျိုးကို ပြောဆိုနေခြင်းမှာ အပိုစကားများသာဖြစ်သည်။ ဝေဒန္တဒဿနသည် ဗုဒ္ဓဒဿနအပါအဝင်ဖြစ်သော ဤမြေပေါ်ပေါ်ထွန်းခဲ့သမျှတို့၏ အခြေခံရေသောက်မြစ်ဖြစ်သည်။ သို့သော် ငါတို့ပြောနေကြသည့် အတွေးဒဿနတွင် ဗုဒ္ဓဒဿနမှ အချက်အလက်များ အတော်များများပါရှိခဲ့ပါသည်။

(တိပ္ပဏီ) ဆွာမိကြီးကို ဝေဒန္တအတွေးအခေါ်၏ သရဲကြီးက ဖမ်းစားထားသည် ထင်ပါသည်။ အရပ်ရာမှာ သူက ဝေဒန္တသနတို့ကိုမြင်ရသည် ဝေဒန္တသည်။ ဗုဒ္ဓဒဿနမှာ ဘယ်လိုမျှ ပတ်သက်ခြင်းမရှိပါ။ ဝေဒန္တဒဿနမှာ အခြားအိန္ဒိယဒဿနများနှင့် ပါတ်သက်ခြင်းဖြစ်နိုင်သည်။ သို့သော် ဗုဒ္ဓဒဿနမှာ လုံးဝပါတ်သက်နေခြင်း မရှိပါ။ ဗုဒ္ဓဒဿနမှာ ဝေဒန္တဒဿနကြီးကို ဆန့်ကျင့်သော အတွေးအခေါ်တခု ဖြစ်ပါသည်။ ရှန်ကရာစာရိယ၏ ဂုရုဆရာမှာ ဂိုဝိန္ဒာစာရိယ ဖြစ်သည်။ ဂိုဝိန္ဒစာရိယ၏ ဂုရုဆရာမှာ ဂေါ်ရာပါဒ ဖြစ်သည်။ ဂေါ်ရာပါဒမှာ ဗုဒ္ဓဒသနဆရာကြီးတစ်ဆူပါ။ သူရေးသားခဲ့သည် ကာမရုတ္တရကျမ်းမှာ ကျော်ကြားခဲ့သည့် ဓမ္မကျမ်းတစ်ဆူ ဖြစ်ပါသည်။ ရှန်ကရစာရိယက အတွဲတပါဒ၏ ခသညခနစအ များကို ထိုဓမ္မကျမ်းမှ ခိုးယူထားသည် ဆွာမိဝိဝေကာနန္ဒက ယခု လို ပြောင်းပြန်ဆိုခြင်းကို နားမလည်နိုင်အောင် ဖြစ်နေရပါသည်။ "ဝေဒန္တဒဿနက ဗုဒ္ဓဒဿနနှင့် ဘာမျှပဋိပက္ခမရှိပါ။ ဝေဒန္တ၏ မူရင်းရည်မှန်းချက်မှာ နှစ်ဖက်ပြေလည်မှုပေါ် အခြေခံ၏။"

(တိပ္ပဏီ) ဆွာမိဝိဝေကာနန္ဒမှာ အလွန်ရိုးသားပါသည်။ ဒါမှမဟုတ် ဗြာဟ္မဏများက သူကိုပြုစားထားတာ တစုံတခုဖြစ်နိုင်သည်။ သူသည် အရာရာကို ပြောင်းပြန်မြင်တတ်သည်။ သူက ဒီအချက်ကိုတောင် မသိရှာဘူး။ ဝေဒန္တတို့၏ အဓိကပဋိပက္ခရှိကြသူများက ဗုဒ္ဓဝါဒီပင်ဖြစ်ကြသည်။ ဗုဒ္ဓများက ဝေဒန္တီများနှင့် အမြဲပင် ဝါဒရေးရာစကားများကြခဲ့သူများ ဖြစ်ကြပါသည်။ ဝေဒန္တနှင့် ဗုဒ္ဓဓမ္မတို့က အချင်းချင်းမိုးနှင့် မြေလောက်ခြားနားမှု ရှိခဲ့ကြသည်။ ဆွာမိကြီးက ဗုဒ္ဓဓမ္မကို ဝေဒန္တဓမ္မတို့နှင့် နီးစပ်မှုရှိကြောင်းကို ပြောဆိုနေခြင်းမှာ ဘာမှ အခြေအမြစ်မရှိသော စကားများဖြစ်ပြီး၊ အလဟဿသာဖြစ်နေပါသည်။ ယင်းစကားများမှာ ခေတ်အချိန်အခါနှင့်တောင် မတူညီကြ။ အဘယ်ကြောင့် ဝေဒန္တဓမ္မပေါ်ထွန်းလာခြင်းမရှိခင်က ဗုဒ္ဓဓမ္မပေါ်ထွန်းလာ၍ အခြေအမြစ်တည်နေသော ဓမ္မ



တစ်ခုဖြစ်နေပါသည်။ ဗြာဟ္မဏများ အကြိုက်ကိုလိုက်၍ ထိုသို့ဆိုရခြင်း ဖြစ်နိုင်သည်။ ဆွာမိကြီးမှာ သုံ့ရောအမျိုးအနွယ်တစ်ဦးဖြစ်၍ ဗုဒ္ဓဓမ္မကို ယထာတုတကျအောင် မတင်ပြနိုင်ခဲ့ပါဟု ယူဆရပါသည်။ အရှိကိုအရှိအတိုင်း တင်ပြမည်ဆိုပါက ဗြာဟ္မဏတို့၏ ဒေါသဖြစ်ခြင်းကို ခံရလိမ့်မည်။ ထိုသို့သော် အကြောင်းများရှိနေပါသဖြင့် ဆွာမိကြီး အမှန်တရားကို ဘေးချိတ်ထားပြီး ယခုလို ပြောဆိုခဲ့သည်ဟု ထင်မြင်ရပါသည်။ ဆွာမိကြီးက သို့ပြောဆိုခြင်းမှာ ထာရဝက ပြောဆိုခြင်းများထက် ပိုနစ်နာမှု ဖြစ်စေပါသည်။

## 'ဗုဒ္ဓဓမ္မကို အဓိပ္ပါယ်လွဲအောင် တင်ပြခဲ့ကြသော အခြားပညာရှင်များ'

အိန္ဒိယနိုင်ငံတွင် တဦးတယောက်သော အတွေးအခေါ်ပညာရှင်က ဗုဒ္ဓဓမ္မကို အဓိပ္ပါယ်လွဲသွားအောင် တင်ပြပေးသော ဒဿနဆရာကြီးရှိနေသည်သာမက သိန်းသောင်းနှင့်ချီ၍ ဟိန္ဒူဘာသာပညာရှင်တို့က ဗုဒ္ဓဘာသာကို ဟိန္ဒူဘာသာမှ ဆင်းသက်လာသည့် ဘာသာတရပ်ဖြစ်ကြောင်း ပြောဆိုရေးသားတင်ပြကြသည်။ သို့သော် ထိုလူမိုက်ဉာဏ်ကင်း၊ လူတာလတို့က ၎င်းတို့ ပြောဆိုရေးသား၊ တင်ပြနေခြင်းမှာ မှားယွင်းနေကြောင်းကို မသိရှာကြဘဲ၊ ဂိုဏ်းတစ်ဂိုဏ်းနာမည်ဟု ခေါ်ကြသည်။ ဗုဒ္ဓဘာသာမှာ ယနေ့ကမ္ဘာအလယ်၌ စိမ်ခေါ်ပြီး ဝေဝေဆာဆာဖြစ်နေပါပြီ။ ပင်ရင်းဖြစ်သော ဟိန္ဒူဘာသာမှာ တိုင်ပြည်အတွင်းမှာပင် ခြောက်သွေ့နေရပါသည်။

ယခုလိုပြောဆိုရေးသားခြင်းမှာ ဟိန္ဒူဘာသာဝင်တို့၏ သေချာတွက်ချက်ပြီးပြောသည့် လိမ်လည်မှုတခုဖြစ်နေပါသည်။ ၁၉၅၆-ခုနှစ်တွင် ဘာသာတွင် ဆာဗ် အမ္ဗေဒကာရ်က ဗုဒ္ဓဘာသာတွင် သိက္ခာယူခဲ့ပြီး နောက်တနေ့၌ ၁၀-သိန်းကျော် ဟိန္ဒူများကို ဗုဒ္ဓဘာသာတွင် သိမ်းသွင်းခဲ့ပါသည်။ ထိုနောက် အိန္ဒိယနိုင်ငံတစ်ဝှမ်း ဗုဒ္ဓဘာသာဝင်များ တနေ့တခြားများပြား လာခဲ့ကြပါသည်။ အထူးသဖြင့် မဟာရာဇ္ဇတပြည်နယ် ဗုဒ္ဓဘာသာဝင်တို့က များပြားလာခဲ့ရပါသည်။ ဒီဇင်ဘာလ ၆-ရက်နေ့ ၁၉၅၆-ခုနှစ်တွင် ဘာဘာဆာဗ် အမ္ဗေဒကာရ်မှာ ပရိနိဗ္ဗာန်စံသွားခဲ့သည်။ ဘာဘာဆာဗ်၏အလောင်းကို ဒေလီမှ ဘုံဘေမြို့သို့ တရိုတသေတခမ်းတနား သယ်ယူခဲ့ပါသည်။ သိန်းသောင်းနှင့်ချီ၍ လူတို့သည် ဖူးမြော်ရန် ရောက်လာခဲ့သည်။ မီးသင်္ဂြိုဟ်ပြီးနောက် ဓါတ်တော်များကို

(အစ္စထိကလဲဆ်) တခု၌ စုဆောင်းကာ ထိုအိုးကို အာဂရာမြို့သို့ ယူခဲ့ကြသည်။ ထိုအခမ်းအနားကို တက်ရောက်လာခဲ့ကြသည့် လူပေါင်း၂၅၀၀၀–ကျော်တို့က ဘိက္ခုအနန္ဒကော်သလာယနက သိက္ခတော်တွင် သွင်းပေးခဲ့ပါသည်။ ဗုဒ္ဓဘာသာ သိက္ခာတော်ကို ခံယူကြသည့် အခမ်းအနားမျိုးကို အိန္ဒိယနိုင်ငံတစ်ဝှမ်း ကျင်းပနေကြသည်မှာ အနှစ်ငါးဆယ်ကျော်ရှိနေပါပြီ။ သို့သော် ဤနိုင်ငံ၏ သန်းကောင်းစာရင်းများတွင် တာဝန်ရှိဝန်ထမ်းများက ဗုဒ္ဓဘာသာဝင်ဘို့၏ စာရင်းကို လျော့ပေါ့ပြထားလေသည်။ သန်းကောင်းစာရင်းပြုစုသော ဝန်ထမ်းများက များသောအားဖြင့် ဟိန္ဒူဘာသာဝင်များဖြစ်ကြ၍ ဗုဒ္ဓဘာသာဝင်တို့၏ ဦးရေကို နည်းလမ်းအမျိုးမျိုးသုံးစွဲကာ လျှော့ပြထားခြင်းဖြစ်ပါသည်။ နောက်ဆုံး သန်းကောင်စာရင်းကောက်ယူရာ၌ ဗုဒ္ဓဘာသာဝင်တို့၏ ဦးရေကို သိန်း ၈၀– ကျော်သာ ပြထားပါသည်။ ဤသန်းကောင်းစာရင်း၏ ဇမ္ဗူကါသပီရလဒ္ဒါမ် ဟိမဝ္ဂလပရဒေ၍ အရှေ့မြောက်ပြည်နယ်အနက် ဘင်္ဂလာ၊ ဆက္ကမပြည်နယ်ရှိ မီရိုးဖလာ ဗုဒ္ဓဘာသာဝင်တို့၏ စာရင်းလည်းအပါအဝင်ဖြစ်သည်။ ထိုအပြင် ဗာဘာဘာဆာဗ် ဒေါက်တာအမွေဒကာရ်၏ နောက်လိုက် မောရိယအနွယ်ဝင် ကုသဝါဟမျိုးနွယ်စု၊ သကျအမျိုးအနွယ်ရှိ ဗုဒ္ဓဘာသာဝင်တို့၏ ဦးရေကို ထည့်ပေါင်းလိုက်သောအခါ လက်ရှိပြထားသည့် ဦးရေထက် ၁၀–ဆတိုးမြှင့်သွားရန်အကြောင်းရှိပါသည်။ သန်းကာင်းစာရင်းပြုစုသည့် ဝန်ထမ်းများ၊ တာဝန်ရှိသူများတို့၏ လုပ်ရပ်ဖြစ်ကြောင်း ထင်ရှားနေပါသည်။

အိန္ဒိယနိုင်ငံမီဒီယာအားလုံးတို့က ဟိန္ဒူဘာသာဝင်များက ပိုင်ဆိုင်သည်။ မီဒီယာသမားကြီးများက ဟိန္ဒူဦးရေစာရင်းမှာ ကျဆင်းနေသည့် အကြောင်းကိုထည့်သွင်း၍ မပြလိုသဖြင့် ယွှလိုဖြစ်ရပါသည်။ မည်သို့ပင် ဖြစ်လင့်ကစား၊ နောက်ဆုံးကောက်ခံခဲ့သည့် သန်းကောင်စာရင်းအရ ဟိန္ဒူဘာသာဝင်တို့၏ဦးရေးမှာ လျော့ပါးလားသည်ကို တွေ့ရှိရပါသည်။ ယွှလို လျော့လာရခြင်း၏ အဓိကအကြောင်းက အိန္ဒိယနိုင်ငံရှိ နှိပ်ကွပ်ထားသည့် ဒလိသ်ခေါ် မျိုးနွယ်စုဝင်တို့က ဟိန္ဒူဘာသာကို စွန့်၍ ဗုဒ္ဓဘာသာ၊ မွတ်စလင်ဘာသာ ခရစ်ယာန်ဘာသာရပ်များတို့သို့ ကူးပြောင်းကြနေပြီဆိုတဲ့အချက်က ထင်ရှားနေပါသည်။ နောက်ဆုံးကောက်ခံခဲ့သည့် သန်းကောင်းစာရင်းအရ ဟိန္ဒူမျိုးနွယ်စုများက ဟိန္ဒူဘာသာကိုစွန့်၍ ဗုဒ္ဓ၊ ခရစ်ယာန်၊ မွတ်စလင်စသည့် ဘာသာရပ်များသို့ ကူးပြောင်သွားကြနေပြီ ဆိုတာကတော့ မလွဲသောအမှန်တရား



တခုဖြစ်နေပြီး တကယ်တော့ ဟိန္ဒူများအတွက် စိုးရိမ်းလာစရာ အကြောင်းတခုပါပဲ။ ဟိန္ဒူဘာသာဝင်တို့က မိမိတို့လူဦးရေကို မွတ်စလင် ၊ ခရစ်ယာန်တို့နှင့် အတူထားလျှက် မပေါင်းနိုင်၊ ထို့ကြောင်း ဗုဒ္ဓဘာသာဝင်ဦးရေကို ဟိန္ဒူဘာသာဦးရေထဲမှာ ထည့်ပြထားခြင်းသာဖြစ်သည်။ ယင်းရည်းမှန်ချက် အောင်မြင်ရေးကို ရှေ့ရှု၍ ရာစ္စတီယ သွာယံ ဆေဝါကသံဃနှင့် ဝိဆ္စာဟိန္ဒူ ပရာသျှဒ်က လူများက ဗုဒ္ဓဘာသာဝင်များကို ဟိန္ဒူလူမျိုး၏ အစိတ်အပိုင်း၊ ဗုဒ္ဓဘာသာသည် ဟိန္ဒူဘာသာ၏ ဂိုဏ်းဂဏတခုပါဟု၍ ပြောဆိုရေးသားတင်ပြလာရခြင်း ဖြစ်ပါသည်။ ရာစ္စတီယသွာယံဆေဝါပသံဃနှင့် ဝိဆ္စာဟိန္ဒူပရိသျှဒ်က အဖွဲ့ဝင်လူကြီးများက ယွှအခါ နားလည်မှုအမျိုးမျိုးနှင့် ဟိန္ဒူ ဗုဒ္ဓဘာသာ ၂နာငညေမေ အလုပ်ရုံသင်တန်းအမျိုးမျိုးကို လုပ်ကြနေပါသည်။ ဤ ၂နာငညေမေ တသမျှသစ အမငေညေညေါ ခုချွနွ မှာ ဗုဒ္ဓဓမ္မမှာ ဓမ္မသစ်တခုမဟုတ်ကြောင်း ရှေးဟောင်းဟိန္ဒူဓမ္မ၏ သန့်စင်ထားသောဓမ္မသာဖြစ်ကြောင်း၊ ရှင်ဗုဒ္ဓမှာ ဝိသနိုး၏ ကိုးကြိမ်မြောက် ကိုယ်ပွါးတော်ဖြစ်ကြောင်းကို စိတ်ဘာဝနများ အတင်းအဓမ္မ ပျိုးပေးကြပါသည်။

၁၉၉၄–ခုနှစ်တွင် 'ဝိဆ္စာဗော်ဒွယဉ်ကျေးမှု ပရာသိစ္စတန်း'က ကြီးမှူး၍ ဗုဒ္ဓဓမ္မ၏ အပြည်ပြည်ဆိုင်ရာ အလုပ်ရုံတခုကို ကျင်းပခဲ့ပါသည်။ ထိုအလုပ်ရုံတွင် အိန္ဒိယရော နိုင်ငံခြားများမှ ပညာရှင်များကို ဖိတ်ခေါ်ထားသည်။ တက်လည်းတက်ရောက်လာခဲ့ပါသည်။ ယင်းပညာရှင်များက ဟိန္ဒူဓမ္မနှင့်ပါတ်သက်လို့ စကားကောင်းများပြောကြခဲ့ပြီး ဗုဒ္ဓဓမ္မနှင့်ပါတ်သက်လို့တော့ မဟုတ်မမှန်ဒွိဟပွါးစရာများကို ပြောဆိုတင်ပြပေးသူများ ဖြစ်ကြသည်။ သူတို့ပြောသမျှ တင်ပြသမျှ စာတမ်းများကို အပိုင်းလေးပိုင်းခွဲ၍ တင်ပြလိုက်ပါသည်။ (၁)၊ ပညာရှင်အားလုံးနီးပါး ပြောဆိုတင်ပြ၊ စာတမ်းဖတ်သွားတာကတော့ ဗုဒ္ဓသည် ဝိသနိုး၏ ကိုယ်ပွါးတော်တစ်ဆူဖြစ်ကြောင်း။ (၂)၊ ဗုဒ္ဓဓမ္မမှာ ဟိန္ဒူဓမ္မ၏ဂိုဏ်းတခု ဖြစ်ကြောင်း။ (၃)၊ ဗုဒ္ဓဓမ္မမှာ ဟိန္ဒူဓမ္မက ဆင်းသက်လာကြောင်း။ (၄)၊ ဗုဒ္ဓဓမ္မသည် ဟိန္ဒူဓမ္မ၏ သန့်စင်ထားသော အသွင်ဖြစ်ကြောင်း။ သာရနာထ (ဗာရာဏသီ) မြို့၌ ကျင်းပခဲ့သည့် ဤအလုပ်ရုံတွင် ဖတ်ရှုသော စာရွက်စာတမ်းများ စာစီစာကုံးများကို စုစည်း၍ စာအုပ်အဖြစ်ပုံနှိပ်ထုတ်ဝေခဲ့ကြပါသည်။ ယင်းစာတမ်းများကို အသေးစိပ် ဖော်ပြမနေတော့ဘဲ၊ ယင်းစာရွက်စာတမ်းများကို ရေးသားတင်ပြကြသည့် ပညာရှင်တို့၏ သဘောထားကိုဘဲ တင်ပြလိုပါသည်။

ထိုစာတမ်းများ စာရွက်များကို အပင်ပန်းခံရေးသားတင်ပြချက်တို့၏ ရည်ရွယ်ချက်က ဗုဒ္ဓဘာသာသည် ဓမ္မသစ်တခုမဟုတ်ဘဲနှင့် ဟိန္ဒူဘာသာထဲက ပေါက်ဖွားလာသော ဘာသာတရပ်ဖြစ်ပါကြောင်း သဘောထားရှိကြပါသည်။ ဝိသနိုးသာ အကြိမ်ကြိမ်ကိုယ်ပွါးတော်အဖြစ် ပေါ်ထွန်းခဲ့ရသည်။ အခြားပေါ်ထွန်းစရာမရှိ။ ရာမ၊ သီရိကရိစ္စန၊ ပသုရမ်းတို့မှာလည်း ဝိသနိုး၏ ကိုယ်ပွါးများသာ ဖြစ်ပါသည်။ ၎င်းတို့အနက် သီရိကရိစ္စနမှာ အဆိုးဆုံးဖြစ်နေသည်။ သူ့ကိုယ်ပိုင်ဝန်ခံပြောခဲ့သည်မှာ "အကျွန်ုပ် ဘယ်သောအခါမှ မမွေးဖွားနိုင်သူ၊ မပျက်သုဉ်းနိုင်ဘူး၊ အမြဲတည်ရှိနေသော ထာဝရဘုရားသခင်ဖြစ်၏ လူလောကတွင် တရားဓမ္မပျောက်ကင်းက၊ အသုစိတ်ဓါတ်ရှိ များပြားလာသည့်အခါ ငါ ထာဝရသခင်သည် တရားဓမ္မနှင့် သူတော်ကောင်းသူတော်မြတ်တို့အား ကယ်တင်စေခြင်းအလိုအငှါ ငါ လူအဖြစ်မွေးဖွားရပြီ၊ လူဆိုးလူမိုက်ဖြစ်သော အသုရတို့အား တိုက်ဖျက်ရပါသည်" ဗုဒ္ဓရှင်မြတ်ကြီးက ဤသို့သော စကားမျိုးကို ဘယ်သောအခါမှာမှ မပြောဆိုခဲ့ပါ။ ဉာဏ်ပညာရှိသူ လေ့လာသူများက မိမိကိုယ်တိုင်ပင် ထိုသူတို့၏ သဘောထားအမှန်၊ ရည်ရွယ်ချက်အမှန်ကို တွေးဆကြည့်နိုင်ပါသည်။

## 'မဟာပဏ္ဍိတရာဟုလသံကိစ္စည်း၏ အမြင်ထဲမှ ဗုဒ္ဓ'

ကမ္ဘာ့ဗုဒ္ဓဘာသာများအလယ် ပဏ္ဍိတရာဟုလာသံကိစ္စည်း၏ အမည်နာမသည် လေးစားကြည်ညိုဘွယ်ရာကောင်းသော နာမည်တစ်ခုဖြစ်နေခဲ့ပါသည်။ ရာဟုလာသံကိစ္စည်းမှာ ဗုဒ္ဓဓမ္မနှင့်ဒဿနၐ် နိုင်းယှဉ်မဲ့နေသော ပုဂ္ဂိုလ်ကြီးတစ်ပါးဖြစ်ပါသည်။ သူသည် ဗုဒ္ဓဓမ္မနှင့်စပ်လျဉ်းပြီး လေ့လာသမျှတို့က တိပိဋကကျမ်းမြတ်မှ ဖြစ်ခဲ့ပါသည်။ သူသည် တိပိဋကကျမ်းအချို့တို့ကို ဟိန္ဒီဘာသာဖြင့် ဘာသာပြန်ရေးသားခဲ့သူလည်း ဖြစ်နေပါသည်။ ရာဟုလာသံကိစ္စည်းမှာ သံသကရိုက်ဘာသာကိုလည်း ဖတ်ရှုလေ့လာထားသူတစ်ဦးလည်းဖြစ်သည်။ သူသည် ဉာဏ်ပညာထက်မြက်မှုကို အသိအမှတ်ပြုလိုသော ကါသီမှ ပညာရှင်များက ၎င်းအား မဟာပဏ္ဍိတဘွဲ့ကို အပ်နှင်းခဲ့ကြပါသည်။ အမှန်တကယ်တော့ ရာဟုလသံကိစ္စည်းမှာ ဗုဒ္ဓဓမ္မဒဿနကို ပါဠိ၊ သံသကရိုက်၊ ဘိုကီ၊ သိဟလီ၊ တရုတ်ဘာသာဖြင့် မူလရေးသားထားပါသည်။ စာအုပ်များ၊ ကျမ်းများမှာ ဖတ်ရှုလေ့လာထားသူတစ်ဦးဖြစ်သည်။



ရာဟုလသံကိစ္စည်းက ဗုဒ္ဓဘာသာဓမ္မကို နှစ်နှစ်မြိုက်မြိုက် လေ့လာသူဖြစ်ပါသဖြင့် မိမိကိုယ်တိုင်က ထာဝရဘုရားသခင်ကို လက်မခံသော အနိစ္စဝါဒနှင့် အနတ္တဝါဒ၊ အနိစ္စဝါဒီတစ်ဦးဖြစ်ခဲ့ပါသည်။ မဟာဒဿနိက ဆရာတစ်ဆူဖြစ်ခဲ့ပါသည်။ ဒေါက်တာရာဒါကရိစ္စနန်းကိုလည်း လူများက ဒဿနဆရာကြီးတစ်ဆူလိုဘဲ သတ်မှတ်ကြပါသည်။ သို့သော် အမှန်တကယ် ဒဿနဆရာကြီး တစ်ဦးကို သိစွာရှိဘို့ လိုအပ်သည်။ အမှန်ကို အမှန်၊ အမှားကို အမှားပါလို့ ပြောဆိုဘို့ လိုအပ်သည်။ ထိုနည်းတူစွာ ကျင့်ကြံပြီး လောက၌ ထိုအမှန်တရားကို ဖြန့်ချီပေးရန်လည်း လိုအပ်သည်။ ရာဟုလာသံကိစ္စည်းနှင့် ရာဒါကရိစ္စနန်းကို နှိုင်းယှဉ်ပါက မိုးနှင့်မြေလောက်ကွာခြားမှုကို တွေ့ရပါလိမ့်မည်။ ရာဟုလသံကိစ္စည်းမှာ အမှန်တကယ်ဒဿန ဆရာကြီးတစ်ဆူဖြစ်ပါသည်။ သူသည် တသက်လုံး သူတွေ့ခဲ့သော အမှန်တရား အတွေးအခေါ်တို့ကိုသာ ဖြန့်ချိရာတွင် ကုန်ဆုံးခဲ့သည်။ ရာဒါကရိစ္စနန်းက ဗုဒ္ဓနှင့်ဗုဒ္ဓဓမ္မအတွက် ပြောဆိုသမျှသည် အခြေအမြစ်မရှိ၍ မဟုတ်မတရားပြောသည့်စကားများဖြစ်ခဲ့ပါသည်။ အသိဉာဏ်ကင်းမဲ့နေ၍ အဝိဇ္ဇာနှင့်ပြည့်စုံနေပါသည်။ မနုဝါဒီတို့က ရာဒါကရိစ္စနန်းကို မြှောက်ပင့်ထားလို့ ဒဿနဆရာကြီး ဖြစ်နေရပါသည်။ ရာဟုလာသံကိစ္စည်းနှင့် ရာဒါကရိစ္စနန်း နှစ်ဦးလုံးက ဗြာဟ္မဏလူမျိုးများ ဖြစ်ကြသော်လည်း တစ်ဦးမှ ပရဂျန်းဉာဏ်ရှိ၍ ကျန်တစ်ဦးမှာ ပရဂျန်းဉာဏ်ကင်းမဲ့ နေခဲ့ပါသည်။

မဟာပဏ္ဍိတရာဟုလာမှာ ရှင်ဗုဒ္ဓအား ထာဝရဘုရားသခင်ပါဟု ဘယ်တော့မှမမှတ်။ လူသားတယောက်လိုပင် မှတ်ယူသည်။ လူတို့အနက် မွန်မြတ်သောအကျင့်၊ သီလနှင့်ပြည့်စုံ၍ မဟာမာနဝဟူ၍ မှတ်ယူသည်။ ရာဟုလာမှာ အနိစ္စဝါဒီဒဿနဆရာဖြစ်သည်။ ထာဝရဘုရား၏အာဏာစက်ကိုလည်း လက်မခံသော တနေ့တွင် ရယ်စရာပြောမိခဲ့သည်။ တကာကြီးမခုကရပိပလာယနနှင့် သေဆုံးနေခဲ့ပြီး မိုတိလလ်အရဏနှင့် စာရေးသူကျနော်တို့က အကြံဖလှယ်မှုတရပ်ဖြစ်လာအောင် စီစဉ်ပေးခဲ့ကြပါသည့် နေရာမှာ အာဂရာမြို့ရှိ ပုဗ္ဗဉဒယကျောင်းနေရာဖြစ်သည်။ ထိုအကြံဖလှယ်မှု အစီစဉ်တွင် အာဂရာမြို့ရှိ စာပေပညာရှင်များနှင့် မီဒီယာသမား၊ သတင်းဂျာနယ် ဆရာများတက်ရောက်ခဲ့ကြပါသည်။ ရာဟုလသံကိစ္စည်းက အနိစ္စာဝါဒပေါ် မိမိ၏သဘောထားကို ရှင်

ဖွင့်တင်ပြရာတွင် ပြောဆိုသည်မှာ ကျနော် ကမ္ဘာဒေသအနှံ့ရောက်ခဲ့ပါသည်။ ကမ္ဘာကြီးတွင် လူအများနှင့် တွေ့ဆုံမိရာတွင် များပြားသောသူတို့မှာ သူ့ရဲ့ တစ္ဆေကို မိမိတို့တွေ့ဆုံခဲ့ပါကြောင်း မိမိအား ပြောပြခဲ့သည်။ သို့သော် ကျနော် ထာဝရဘုရားလို့ ခေါ်သည့် ဣသွာရဘုရားကို မိမိ တွေ့ဘူးကြောင်း ဘယ်သူမှာ မပြောခဲ့ကြပါလား?ဟူ၍ ပြောဆိုခဲ့သည်။ အဘယ်သူတော်စင်၊ သူတော်ကောင်း အဘယ်သာဓုမှာ ထာဝရဘုရားသခင်ကို ကျနော် တွေ့ဘူးပါကြောင်း ပြန်ပြောခဲ့ပါဘူး။ ထိုအခြေအနေများအောက် ဗုဒ္ဓကို ထာဝရဘုရားဟုခေါ်ဆိုရခြင်းသည် မည်မျှသင့်တော်ဦးမည်ဆိုတာကို စဉ်စားကြည့်စရာ တခုပင်ဖြစ်နေပါသည်။

ရာဟုလသံကိစ္စည်းမှာ အနာတ္တမဝါဒီ အတွေးအခေါ်ဒဿနိကတစ်ဦးဖြစ်ပါသည်။ သူမှာ အမြဲတည်နေသည့်သဘောထား (သဘာဝဝါဒ)ကို လုံးဝ လက်မခံခဲ့ပါ။ သူသည် ဘဂဝပ်ဂီတာကျမ်းထဲ့ကလို့ အတ္တမ၏ အမြဲတည်ရှိနေပုံကို လက်မခံ။ ဤစာအုပ်ကို ရေးသားပြုစုခဲ့သည်။ ကျနော်နှင့် ဒေါက်တာအာနန္ဒကော်သလလယနတို့၏ အချင်းချင်းဆက်ဆံမှုသည် အလွန်ကောင်းနေခဲ့ပါသည်။ တနေ့တွင် ဘိက္ခုအာနန္ဒကော်သလလယနပြောခဲ့သည်မှာ သူနှင့် ရာဟုလသံ ကိစ္စည်းတို့က သီရိလင်္ကာပြည်တက္ကသိုလ်ကျောင်း၌ ပညာသင်ပေးခဲ့ပါသည်။ တက္ကသိုလ်ကျောင်း၌ ဒဿနဗေဒဌာနအကြီးအမှူးမှာ ရာဟုလသံကိစ္စည်းဖြစ်၍ သူမှာ ဟိန္ဒီဘာသာဌာန၏ အကြီးအကဲဖြစ်ခဲ့ပါသည်။ ဟိုတယ်တခုမှာ တည်း၍ သူတို့နှစ်ယောက်လုံးနေထိုင်ခဲ့ပါသည်။ ၎င်းတို့နှစ်ဦး နေထိုင်ခဲ့ကြသော အခန်းများကလည်း နီးနီးကပ်ကပ် တည်ရှိနေခဲ့ပါသည်။ ရာဟုလသံကိစ္စည်းမှာ ညဉ့်၊ နံနက်၃-နာရီ၊ ၄-နာရီအထိ စာရေးသူဖြစ်သည်။ ငါက ရာဟုလာကြီးကို တနေ့တွင် ပြောမိခဲ့သည်မှာ ရာဟုလကြီး ကိုယ့်ကျန်မာရေးကိုလည်း ဂရုစိုက်ပါ။ အနားယူရမည့်အချိန်မှာ အနားယူရပါသည်။ ကျန်မာရေးထိခိုက်လာနိုင်ကြောင်း ပြောမိခဲ့ပါသည်။ ထိုစကားများကိုကြား၍ ရဟုလသံကိစ္စည်းက ကျနော် (အနန္ဒကော်သလလယန)အား ပြောမိခဲ့သည်စကား အနန္ဒကြီး ကျနော့်အတ္တမ၏ သဿတတည်ရှိမှုကို မယုံကြည်ဘူး၊ နောက်ဘဝရှိကြောင်းလည်းခံမယူ၊ သို့ အတွက်ကြောင့် ငါ့မှာ လုပ်စရာဒီအချိန်၊ ဒီတသက်ပဲရှိပါသည်။ အလုပ်လုပ်ရာမှာ အများကြီးဘဲ ပြီးနိုင်သလောက်ကို ကြိုးစားလုပ်နေရပါသည်။ အာနန္ဒကောသလလယန၏ ယင်းပြောဆိုချက်များကို ထောက်ရှုသော် သူသည် ထာဝရဘုရားသခင်၊ အတ္တမနှင့် နောက်ဘဝစသည့် အပိုစကားများကို လုံးဝ မယုံကြကြောင်း ထင်ရှားနေပါသည်။ ရာဟုလသံကိစ္စည်းက ဗြာဟ္မဏအမျိုးအနွယ်တွင်း မွေးဖွားခဲ့ပါသည်။ မိသားစုမှာ ကိုးကွယ်သည့် ဘာသာအလျောက် သူကလည်း ရုပ်ထုများကို ကိုးကွယ်ခဲ့သည်။ နောက်ဆုံး ဤသို့ ကိုးကွယ်ခြင်းကို စိတ်ကုန်လာခဲ့သောသူသည် အာရိယဆမာဘက်သို့ ညွှတ်ကိုင်းလာခဲ့ပါသည်။ အာရိယဆမာဇေဟာတွင် နေထိုင်၍ သံသကရိုက် ဘာသာကို လေ့လာခဲ့ပါသည်။ ဝေဒ၊ ဥပနိသျှဒ်၊ သတ္တယာတ္တပရကါရှိစသည့်ကျမ်းများကို အသေးစိတ်လေ့လာခဲ့ပါသည်။ ယဇ်ပူဇော်ခြင်း၊ သျှတ္တရကျမ်းများကို အဓိပ္ပါယ်ဖွင့်ပြောဆိုချက်များတွင် တဖက်ကမ်းခတ် တတ်မြောက်လာခဲ့ပါသည်။ အချိန်ကြာမြင့်စွာ အရိယဆမာဂျီတဦးအဖြစ်ဖြင့် နေထိုင်လာခဲ့ပြီး စိတ်ကုန်ခင်းလာသည့်အခါ ထာဝရဘုရားသခင် အတ္တမ၏ ထာဝရတည်ရှိမှုစသည့် မျက်ကန်းယုံကြည်မှုကို ပါယ်ပျက်လာခဲ့သည်။ ထိုနောက်သူသည် ရှင်ဗုဒ္ဓနှင့် ဓမ္မကိုအားရ၍ ဘိက္ခုဝတ်ခဲ့ပါသည်။ ရည်မှန်းချက်ပြည့်လာသောအခါ ပြန်လဲလူ့ဝတ်လဲလာခဲ့ရပါသည်။



မဟာပဏ္ဍိတရာဟုလာသံကိစ္စည်းက ဗုဒ္ဓဓမ္မကို အားကျသဖြင့် သီရိလင်္ကာ၊ မြန်မာ၊ ထိုင်း၊ တရုတ်၊ ဗီယက်နမ်၊ ဂျာပန်၊ ကိုးရီးယား မွန်ဂိုလီးယားစသည့် ဗုဒ္ဓဘာသာဝင်နိုင်ငံများသို့ အကြိမ်ကြိမ် ခရီးထွက်လှည့်လှယ်ခဲ့ပါသည်။ ဘဝကိုပမာနမထားဘဲ (၄) ကြိမ်တိတိ တိဘက်ခရီးကို ခြေလျင်နှင့် မြင်းတို့၏ အကူအညီဖြင့် ၄-ကြိမ်းတိတိ ဖြတ်သန်းသွားခဲ့ပါသည်။ နောက်ဆုံး တိဘက်ခရီးစဉ်မှာ ရာဟုလသံကိစ္စည်းက ၂၈-ကောင်သောမြည်းတို့ကို အသုံးပြုလျက် ဗုဒ္ဓစာပေကျမ်းများ ပန်းချီများကို တင်ယူလာနိုင်ခဲ့သည်။ ထိုကျမ်းစာအုပ်များနှင့်ထမ်းကာ ပန်းချီများကို ယနေ့ ပတ္တနာရှေးဟောင်းပြတိုက်တွင် တရိုတသေထားရှိက ပြသထားပါသည် ရာဟုလသံကိစ္စည်းမှာ ဗုဒ္ဓဓမ္မဆိုင်ရာများ များပြားသော ကျမ်းစာအုပ်များကို ရေးသားပြုစုခဲ့သည်။ ယင်းစာအုပ်များအနက် ဗုဒ္ဓဒဿန၊ ဗုဒ္ဓစရိယ၊ မဟာမာနဝဗုဒ္ဓ၊ ဗုဒ္ဓယဉ်ကျေးမှု၊ ဒဿနဒီဃဿန၊ ဓမ္မပဒ၊ မဇ္ဈိမနိကာယ်၊ ဝိနယပိဋက၊ ဒီဃနိကာယ်နှင့်၊ တိဘက်မှ ဗုဒ္ဓဒဿနစသော တန်းဘိုးမဖြတ်နိုင်သည့်ကျမ်းစာအုပ်အပြင် အခြားစာအုပ်များစွာ ပါဝင်ခဲ့ပါသည်။ ရာဟုလသံကိစ္စည်းရေးသားပြုစုခဲ့သမျှ စာပေကျမ်းဂန်တို့ကို ဖတ်ရှုလေ့လာရာတွင် ဗုဒ္ဓသည် ဝိသနိုး၏ ကိုယ်ပွါးတော်တစ်ဦးဖြစ်ကြောင်း အဘယ်မှာ

မတွေ့ရှိခဲ့ရပါ။ ထို့အပြင် ဗုဒ္ဓသည် မိမိဓမ္မဒေသနကို ဝေဒ၊ ဥပနိသျှဒ်စသော ကျမ်းများမှ ထုတ်ယူသည်ဆိုတာလည်း မပါရှိခဲ့ပါ။

မဟာပဏ္ဍိတရာဟုလာသံကိစ္စည်း၏ ခေတ်ပြိုင်ဖြစ်ခဲ့သော အခြားဗုဒ္ဓပညာရှင်များဖြစ်ကြသော အာနန္ဒကောသလယန၊ ဘိက္ခုဂျဂ်ဒီစ်ကါသပ ဘိက္ခုဓမ္မရက္ခိတ၊ အာစရိယနရေန္ဒဒေဝ၊ ပဏ္ဍိတဂျဂ္ဂနက်ဉပါဓျာယယ်၊ ဘိက္ခုပရဂျန်နန္ဒ၊ အနာဂရိက၊ ဘီကိုဝိန္ဒ၊ ဒေါက်တာအမ္ဗေဒကာရ်စသည့်များပြားသော ပညာရှင်ပုဂ္ဂိုလ်များ ရှိခဲ့ကြပါသည်။ ၎င်းတို့အနက် မည်သူတစ်ဦးယောက်ကမျှ ရာဟုလာသံကိစ္စည်းအား ဗုဒ္ဓမှာ ဝိသနိုးနတ်ဘုရား၏ ကိုယ်ပွါးတော်ဖြစ်ကြောင်း ပြောဆိုခဲ့ပါကြောင်း မပြောဆိုခဲ့ပါ။ ၎င်းတို့က အတ္တမာ၏ အစဉ် တည်ရှိ မှု ကိုလည်း လက်မခံ၊ ထို့အပြင် ဗုဒ္ဓဘာသာသည် ဟိန္ဒူဘာသာ၏ အစိတ်အပိုင်းတခုဖြစ်ကြောင်းကိုလည်း ပြတ်ပြတ် သားသားငြင်း ပါယ်ခဲ့ကြပါသည်။

## “ဘာဘာဆာဝ် ဒေါက်တာအမ္ဗေကာရ်၏ရှုဒေါင့်”

ခေတ်မှီအိန္ဒိယနိုင်ငံတွင် ဘာဘာဆာဝ် ဒေါက်တာအမ္ဗေဒကာရ်က ဗုဒ္ဓဓမ္မနှင့်စပ်လျဉ်းသည့် သူမတူပညာရှင်တစ်ဦးဖြစ်ခဲ့ရပါသည်။ သူရေးသားခဲ့သည့် မဟာကျမ်းစာအုပ် ‘ဗုဒ္ဓနှင့်ဗုဒ္ဓဓမ္မ’သည် အခြားဘယ်သူနှင့်မှ အတုမဲ့သောကျမ်းစာအုပ်တစ်အုပ်ဖြစ်ပါသည်။ ဤကျမ်းစာအုပ်ကို ဟိန္ဒီဘာသာ စကားအပြင် အခြားအိန္ဒိယဘာသာစကားများနှင့်ပါ။ ဘာသာပြန်၍ ထုတ်ဝေခဲ့ပါသည် ဤစာအုပ်ကျမ်း၏ သိန်းသောင်းနှင့်ချီ၍ ယနေ့အထိ ပုံနှိပ်ထုတ်ဝေပြီးကြောင်းသည် ထိုစာအုပ်၏ အရေးတော်ပုံကို ထင်ရှားစေပါသည်။ ဤစာအုပ်တွင် ဘာဘာဆာဝ်ပြောခဲ့သမျှစကားများ အချက်အလက်များက တိပိဋကတွင် ဖော်ပြထားသည်နှင့်အညီ ဖြစ်နေပါသဖြင့် ယနေ့ ဗုဒ္ဓပညာရှင်တို့က ဤစာအုပ်ကို အနုတိပိဋကကျမ်းဟူ၍လည်း ခေါ်ဝေါ်ကြကုန်သည်။

ဤစာအုပ်တွင် ဘုရားရှင်ဗုဒ္ဓမှာ ဝိသနိုး၏ကိုယ်ပွါးတော်တစ်ဦး ဖြစ်ကြောင်း ဘာတခုမှမတွေ့ရပါ။ ထို့အပြင် ဘုရားရှင်ဗုဒ္ဓက အတ္တမရှိကြောင်းကိုလည်း ယုံကြည်လက်ခံသော သူတစ်ဦးဖြစ်ကြောင်းကိုလည်း အဘယ်မှာမှ မတွေ့ရပါ။ ဒေါက်တာအမ္ဗေဒကာရ်က ဒေါက်တာရာဒါကရိစ္စနန်း ပြောစကားများဖြစ်သော ဗုဒ္ဓဘာသာသည် ဝေဒနှင့်၊ ဥပနိသျှဒ်ကျမ်းများအပေါ် အခြေခံပါသည်



ဆိုသော စကားကိုလည်း သဘောမတူကြောင်း ထင်ရှားနေပါသည်။ ဤစာအုပ်တွင် ဒေါက်တာအမ္ဗေဒကာရ်က ဟိန္ဒူဓမ္မနှင့် ဗုဒ္ဓဓမ္မတို့ အချင်းချင်း မည်သို့မျှ ဆက်စပ်မှုမရှိကြောင်းကို ရေးသားထားပါသည်။

ဗုဒ္ဓဓမ္မမှာ ရှေးဟောင်းကါလက ဗြာဟ္မဏဘိက္ခုအချို့တို့၏ ဟိုက်ဂျက်လုပ်ခံရပါသည်။ ထိုဘိက္ခုများမှာ မူလက ဗြာဟ္မဏလူမျိုးဖြစ်ရပါ၍ ဘိက္ခုဝတ်ပြီးနောက်ပိုင်းကါလမှာလည်း မိမိတို့ဗြာဟ္မဏသဘီရကို မမေ့ပစ်နိုင်ခဲ့ကြသူများဖြစ်ခဲ့ရပါသည်။ သို့အတွက်ကြောင့် ၎င်းတို့မှာ ဗုဒ္ဓဓမ္မတွင် သံသယဖြစ်ဘွယ်ရာဖြစ်သော ဟိန္ဒူအယူအဆအချို့ကို သွင်းပေးခဲ့နိုင်ပါသည်။ သိဒ္ဓတ္ထမင်းသား၏ တောထွက်ခန်းနှင့် တောထွက်ခဲ့ရသည့်ကိစ္စများက သံသယပွါးများစရာဖြစ်ခဲ့ရပါသည်။ ယင်းကိစ္စကို ဒေါက်တာအမ္ဗေဒကာရ်က သူ့စာအုပ်တွင် သေချာစွာ ရှင်းပေးထားသည်။

ထိုနည်းတူ အဟိံသ၊ နောက်ဘဝနှင့်၊ အတ္တမကဲ့သို့ သဘောထားအမြင်တို့နှင့်ပါတ်သက်လို့ စိတ်ရှုပ်ထွေးစရာ concept များရှိခဲ့ပါသည်။ ဤစာအုပ်တွင် စိတ်ရှုပ်ထွေးစရာရှိ concept အားလုံးကို ရှင်းရှင်းလင်းလင်း ဖြစ်သွားအောင် ရေးသားပေးထားသည့် clear and distinct ဖြစ်အောင် ရေးသားဖော်ပြပေးထားသည်။ နောက်အနာဂါတ်ကါလတွင် ဒွိဟသံသယဖြစ်စရာ လုံးဝမရှိအောင် ဖော်ပြပေးထားသည့် ဗုဒ္ဓသည် ဝိသနိုး၏ ကိုးကြိမ်မြောက် ကိုယ်ပွါးတော်ဖြစ်ကြောင်း ဗုဒ္ဓဓမ္မသည် ဟိန္ဒူဓမ္မ၏ ဂိုဏ်းတခုဖြစ်ကြောင်း ဗုဒ္ဓဓမ္မသည် ဟိန္ဒူဓမ္မမှ ပေါက်ဖွားလာကြောင်းစသည့် ဒွိဟသံသယပွါးများစရာအကြောင်းအရာအားလုံးတို့ကို ငြင်းပါယ်ထားသော သဘောထားမျိုးကို ခိုင်ခိုင်ခန့်ခန့် ရေးသားဖော်ပြပေးထားသော ဒေါက်တာအမ္ဗေဒကာရ်၏ ကျေးဇူးကို ဗုဒ္ဓဘာသာဝင်များ လုံးဝ မမေ့ပစ်နိုင်သော အချက်ဖြစ်သည်။

## “သဒ္ဓါကြည်ညိုအပ်သော ယွန်းဇင်းရိမ်ပိုဆေ၏ ရှုဒေါင့်ဖြင့်”

သဒ္ဓါကြည်ညိုအပ်သော ဟိမာဠလပရဒေရှ်၏ နာမည်ကျော်ကြားသော လားမား (ဓမ္မဂုရု) တစ်ဦးဖြစ်ပါသည်။ လမာကြီးမှာ မဟာယာနဂိုဏ်း၏ သဒ္ဓါကြည်ညိုခံအပ်သော လာမာကြီးတစ်ဦးဖြစ်၍ မဟာဟိမာလယဗုဒ္ဓ society ၏ ဦးစီးနာယကတစ်ဦးလည်းဖြစ်ပါသည်။ မဟာယာနဂိုဏ်းတွင် သကျမုနိဘုရားရှင်ဗုဒ္ဓကို ပူဇော်ပသသည့် အလေ့ရှိပါသည်။ သို့သော် ထိုပူဇော်

ခြင်းတို့က ဟိန္ဒူဘာသာဝင်တို့ ပူဇော်ပသမှုတို့နှင့် ခြားနားပါသည်။ ပူဇော်ခြင်းတို့၏ ရည်ရွယ်ချက်များက မတူညီကြပေ။ ဤဂိုဏ်းတွင်ဘုရားရှင်ဗုဒ္ဓ၏ မူလသဘောတရားယုံကြည်ယူဆချက်များကို မသွေဖယ်ဘဲ လိုက်နာမှုရှိကြပါသည်။ တနေ့သောအခါ စာရေးသူမှာ ယွန်ဇင်းလမားကြီးအား သွားရောက်တွေ့ဆုံခဲ့ပါသည်။ ကျနော် ဆွေးနွေးမှုများက ဟိန္ဒူဘာသာဝင်တို့က ခန့်မှန်းနေသည့်အကြောင်းအရာများကို အခြေခံခဲ့၏။ ဆွေးနွေးမှု၏ အကျဉ်းချုပ်မှာ ဤသို့ဖြစ်ပါ၏။ မေးခွန်း သဒ္ဓါကြည်ညိုအပ်သော ရိ(မ်)ပိုကြီး(Rimpoche)၊ မဟာယာနတွင် သကျမုနိရှင်ဗုဒ္ဓအား၊ ဟိန္ဒူတို့ပမာ ဝိသနိုးနတ်ဘုရား၏ ကိုးကြိမ်မြောက်ကိုယ်ပွါးဟု သတ်မှတ်ကြရဲ့လား? (ဝါ)ဘုရားရှင်အား ထာဝရဘုရားသခင်ဟု ယူဆပြီး ကိုးကွယ်ကြပါလား? အဖြေမဟုတ်ပါဘူး။ ဒေါက်တာဓမ္မကီးတီး၊ မဟာယာနတွင်ဘုရားရှင်အား ဝိသနိုး၏ ကိုးကြိမ်မြောက် ကိုယ်ပွားတော်ဟု မသတ်မှတ်ပါ။ ဘုရားရှင်အား ထာဝရဘုရားသခင်ဟုလည်း မယူဆပါ။ အကြွင်သူများက ဤသို့နားလည်ထားပါက မှားယွင်းနေပါပြီ၊ ဘုရားရှင်ဗုဒ္ဓက ဤစကားမျိုးကို မိစ္ဆာဒိဋ္ဌိအမြင်ရှိသူများဟု သတ်မှတ်ထားပါသည်။ ရှင်ဗုဒ္ဓ၏ ပြောဆိုချက်များကို ဒွိဟသံသယမဖြစ်စေရ။ မေးခွန်း။ လေးစားအပ်သော ရိမ်ပိုကြေဂျီ မဟာယာနတွင် ဘဂဝပ်ဂီတာပမာ အတ္တမာ၏ ရပ်တည်မှုကို ဓါးနှင့်ခုတ်သတ်သက်လို့ မရနိုင်။ ရေတို့ကလည်း သူကိုအရည်ပျော်သွားအောင်လုပ်လို့မရ၊ မီးတို့ကလည်း သူ့ကို ခြောက်သွေ့သွားအောင်မလုပ်နိုင်စသည့် အယူအဆမျိုးရှိပါသလား ခင်ဗျား? အဖြေ။ ဓမ္မကီးတီးကြီး ဗုဒ္ဓဘာသာတွင် မဟာယာနဘဲဖြစ်ဖြစ်၊ ဟိနာယာနဘဲဖြစ်ဖြစ်၊ အတ္တမ၏ရပ်တည်ခြင်းကို လုံးဝလက်မခံပါ။ ကမ္ဘာလောကရှိအရာခပ်သိမ်းသော ပစ္စည်းဥစ္စာတို့သည် အနိစ္စသဘောကို ဆောင်ထားကြောင်းနှင့် အချိန်အခါအားလျော်စွာ ပြောင်းလဲမှုရှိကြောင်း သဘောကိုဆောင်ကြ၏။ ဗုဒ္ဓဒဿနတွင် ထို့သို့ပြောင်းလဲခြင်း သဘောကို ပဋိစ္စသမုပ္ပါဒ် လို့ ခေါ်ကြပါသည်။ အကယ်၍ ဟိန္ဒူဘာသာဝင်များယွူလို အတ္တမမျိုးကို လက်ခံလို့ရနိုင်ပါသည်။ တသက်လျာတခဏအတွင်း ပြောင်းလဲမှု မရှိဘူးဆိုလျှင် လက်ခံလို့မရနိုင်ဘူး။ တကယ်လို့ပြောင်းလဲမှု သဘောကိုလက်မခံလျှင် ၎င်းတို့ပြောဆိုယူဆ၊ ယုံကြည်နေသော အတ္တမမျိုးကို ကျနော်တို့အနေဖြင့် လက်ခံလို့မဖြစ်နိုင်။ ကျနော်တို့က အနတ္တဝါဒသဘောတရားကို လက်ခံယုံကြည်ထားတဲ့လူတွေပဲ ဖြစ်ကြတယ်။ မေးခွန်း။ ရာဒါကရိစ္စနန်းလို ဒဿနိကပုဂ္ဂိုလ်များက ပြောဆိုမှုရှိက ဗုဒ္ဓက အတ္တမကို ယုံကြည်တယ်ဗျ။



ထိုအတ္တမကပင် လူခန္ဓာကိုယ်သေသွားသည့်နောက်ပိုင်း အသစ်တဖန်မွေးဖွားလာရပါတယ်လို့ ဆိုပါသလား? အဖြေမှာ၊ မှားနေပါတယ်၊ မိစ္ဆာဒိဋ္ဌိပါ၊ ပညာရှိပုဂ္ဂိုလ်များလည်း မိစ္ဆာဒိဋ္ဌိ ဖြစ်နိုင်တယ်။ ရာဒါကရိစ္စနန်းဘဲဖြစ်ဖြစ် ဆံကာရစာရိယပင်ဖြစ်ဖြစ် မိစ္ဆာဒိဋ္ဌိများလို့ပင် ခေါ်ရပါမည်။

ဘုရားရှင်ဗုဒ္ဓက စိတ်၏ရပ်တည်မှုကို လက်ခံခဲ့တယ်။ ဒါပေမဲ့ ထိုစိတ်ဟာ တစ်ခဏချက်ချင်းလက်ငြင်း ပြောင်းလဲမှုရှိတယ်။ ဒဿနဆရာကြီး ရာဒါကရိစ္စနန်းလိုပုဂ္ဂိုလ်မျိုးက ဤစိတ်ကိုသာ အတ္တမလို့ မှတ်ယူမယ်ဆိုရင်တော့ မှားပါလိမ်မယ်။ ဒီလိုယူကြရင်တော့ သူတို့ကို မိစ္ဆာဒိဋ္ဌိလို့ဘဲ ခေါ်ရပါလိမ့်မယ်။ သူတို့ရဲ့ မသိနားမလည်မှုပေါ့ဗျာ။

မေးခွန်း။ လေးစားအပ်သော ရိမ်ပိုကြေဂျီ ဗုဒ္ဓဓမ္မသည် ဟိန္ဒူဓမ္မမှ ပေါက်ဖွားလာရသလား? (ဝါ) ဗုဒ္ဓဓမ္မသည် ဂိုဏ်းတခုပါလား?

အဖြေ။ မဟုတ်ပါ။ ယွူပြောခဲ့သည့်စကားနှစ်ရပ်လုံးက မှားနေပါသည်။ ဗုဒ္ဓဓမ္မမှာ ဟိန္ဒူဓမ္မကပေါက်ဖွားလာသည့် ဓမ္မမဟုတ်သလို ဟိန္ဒူဓမ္မ၏ ဂိုဏ်းတခုလည်း မဖြစ်ပါဘူး။ ထိုတရားဓမ္မနှစ်ရပ်စလုံး၏ အခြေခံသဘောသဘာဝခြားနားနေပုံတင်မက၊ တခုနဲ့တခု ဆန့်ကျင့်နေသော သဘောထားရှိကြပါသည်။ ဤစကားမျိုးက ဟိန္ဒူဘာသာဝင်များ ပြောဆိုလေ့ရှိတတ်သည်။ ဒွိဟသံသယဖြစ်စေခြင်းအလို့ငှါ ပြောဆိုခြင်းသက်သက်သာ ဖြစ်ပါသည်။

မေးခွန်း။ လေးစားအပ်သော ရိမ်ပိုဆေကြီး ဗုဒ္ဓဘာသာ၏ ရေသောက်မြစ်က ဝေဒနှင့်၊ ဥပနိသျှဒ်ဖြစ်ပါသလား?

အဖြေ။ မဟုတ်ပါ၊ ဗုဒ္ဓဓမ္မ၏ အခြေအမြစ်တို့က ဝေဒနှင့်၊ ဥပနိသျှဒ်ကျမ်းတွေ မဟုတ်ပါဘူး။ အကြောင်းက ထိုကျမ်းများမှာ ဗြာဟ္မဏ၊ အစ္စာရ၊ အတ္တမ၊ ဖန်ဆင်းရှင်များအပေါ် အခြေခံထားသည်။ ဗုဒ္ဓဓမ္မဒဿနတို့က ဗြာဟ္မဏ၊ နိစ္စာရ၊ အတ္တမစသည်တို့ကို အခြေမခံ။ အနိစ္စ၊ အနတ္တစသည့်တရားများကို အခြေခံထားလို့ဖြစ်ပါသည်။

မေးခွန်း။ လေးစားအပ်သော ရိန်ပိုဆေဂျီခင်ဗျား အချို့အချို့သော ဟိန္ဒူဘာသာဝင်များက ဗုဒ္ဓအား စွပ်စွဲပြောဆိုလေ့ရှိကြသည်။ ဗုဒ္ဓမှာ ဟိန္ဒူဝါဒ(ဝါ)ဝေဒဝါဒများထဲက အပုပ်နံ့ကို ဖယ်ထုတ်သန့်စင်ပြီး ဗုဒ္ဓဓမ္မကို မွေးဖွားပေးခဲ့သည်။ ဓမ္မသစ်၊ ဓမ္မဆန်း မဟုတ်နိုင်ဘူးလို့ ပြောဆိုကြပါသည်။ မှန်မမှန်ကို ရိန်ပိုဆေဂျီက ပြောပေးပါလား ခင်ဗျား?

အဖြေ။ ဟုတ်ကဲ့၊ ဒီစကားမျိုးကို ပြောဆိုကြသူများက မိစ္ဆာဒိဋ္ဌိကို အခြေခံပြီး ပြောနေခြင်းဖြစ်သည်။ ဗြာဟ္မဏ ထာဝရဘုရားသခင် အတ္တမစ သည်တို့ကို အခြေခံထားသည်။ ဗုဒ္ဓ၏တရားတော်များက ပရဂျန်း၊ သီလ၊ မေတ္တာ၊ ကရုဏာစသည့် တရားစစ်တရားမှန်အပေါ် အခြေခံကြပါသည်။ ဟိန္ဒူ ဓမ္မမှာ မျက်ကန်းယုံကြည်မှု၊ လူလူချင်းခွဲခြားမှု၊ မထိတွေ့မှုနှင့်၊ စိတ်ကူးယဉ် နတ်ဒေဝါဒေဝီတို့အပေါ် အခြေခံထားသော တရားတို့က ဗုဒ္ဓ၏တရားတို့နှင့် ဘယ်နယ်တူရမှာလဲ။ ဗုဒ္ဓဓမ္မနှင့်၊ ဟိန္ဒူဓမ္မတို့ အချင်းချင်း မိုးနှင့်၊ မြေလောက် ခြားနားမှု ရှိနေကြပါသည်။

## “ဗုဒ္ဓဓမ္မနှင့် ဟိန္ဒူဓမ္မတို့မှာ မတူကွဲပြားခြားနားကြသည်”

ဗုဒ္ဓဓမ္မနှင့်၊ ဟိန္ဒူဓမ္မတို့မှာ မတူကွဲပြားခြားနားကြပါသည်။ ဓမ္မနှစ်ရပ် စလုံးမှာ ရပ်တည်မှု၊ သမိုင်း၊ ထုံးတမ်းစဉ်လာ၊ အတွေ့အခေါ်၊ ယုံကြည်မှုတို့က သီးသန့်စီ ရှိနေကြပါသည်။ အမှန်တကယ် ဓမ္မနှစ်ရပ်စလုံးသည် မတူကွဲပြား ခြားနားမှုရှိကြသည်။ ၎င်းဓမ္မတို့၏ ပေါ်ထွန်းမွေးဖွားလာပုံတို့ကလည်း မတူ ခြားနားနေပါသည်။ ခြားနားသည့် ရေစီးကြောင်းနှစ်ခုမှ ပေါက်ဖွားလာရခြင်း ဖြစ်ပါသည်။ ဟိန္ဒူဓမ္မမှာ ဝေဒိကနှင့်၊ ဗြာဟ္မဏယဉ်ကျေးမှုရေစီးကြောင်းက ပေါ် ထွန်းလာ၍ ဗုဒ္ဓဓမ္မမှာ သာမဏရေစီးကြောင်းက ပေါ်ပေါက်လာခဲ့ပါသည်။ ယင်း ရေစီးကြောင်း နှစ်ရပ်စလုံးမှာ ဘာရတိယသမိုင်းတွင် ရှေးပဝေသဏီကါလ တည်းက စီးဆင်းတည်ရှိနေပါသည်။ လေ့လာရှာဖွေသူများနှင့် သမိုင်းဆရာ သာမဏယဉ်ကျေးမှု၏ရေသောက်မြစ်မှာ သိန္ဓုမြစ်ဝှမ်းယဉ်ကျေးမှုက ဖြစ်သည်။ ဝေဒိကနှင့် ဗြာဟ္မဏယဉ်ကျေးမှုတို့၏ ရေသောက်မြစ်မှာ ဝေဒကျမ်းနှင့်၊ ဥပနိ သျှဒ်ကျမ်းတို့က ဖြစ်သည်။

ခရစ်သက္ကရာဇ်ခုနှစ်နှင့်၊ ရှစ်ရာစုနှစ်များအတွင်း ဗုဒ္ဓတရားဓမ္မတို့မှာ ကွင်းပြင်နယ်များတွင် အရေးနိမ့်လာခဲ့ရာ အခြေအနေမျိုးနှင့် ကြုံခဲ့ရသလို ယ္ခု ခေတ်၊ ယ္ခုအခါ အခြေအနေအရာရာတို့ တူနေကြပါသည်။ ဗုဒ္ဓဓမ္မကွယ်ပျောက် သွားနိုင်ရေးကို ဦးတည်လျက် ဝေဒဓမ္မကို ကိုးကွယ်ကြသည့် ဗြာဟ္မဏများက ဗုဒ္ဓနှင့်၊ ဗုဒ္ဓဓမ္မကို လက်ခံထားရန် ကြိုးပမ်းခဲ့ကြသည်။ ထိုသို့ပြုလုပ်သွားပါက ဗုဒ္ဓဓမ္မမှာ ရောနှောကွယ်ပျောက်သွားပြီး ၎င်းနေရာကို ဝေဒဓမ္မတို့က ယူသွား



ကြပေလိမ့်မည်။ ဆိုလိုသည်မှာ ဗုဒ္ဓဓမ္မသည် ဗြာဟ္မဏဓမ္မထဲမှာ ပျောက်ဆုံး သွားရန် ကြိုးပမ်းအားထုတ်ခဲ့ကြပါသည်။ ထိုကြိုးပမ်းမှုတို့က ရာစုနှစ်များနှင့် ဆက်လက်သွားနေခဲ့သည်။ ဗုဒ္ဓဓမ္မပျောက်ကွယ်သွားရာတွင် နောက်ထပ်ရာစု နှစ်သုံးရာစုခန့် ကုန်ဆုံးခဲ့ရပါသည်။ ကွင်းပြင်နယ်မြေများကို မွတ်စလင်ဘုရင် များ သိမ်းသွင်းလာခဲ့ရသည်။ အချိန်ကါလတို့တွင် အဆိုပါအစီစဉ်များ မြန်ဆန် လာခဲ့ရပါသည်။ ရလာဒ်က ကျန်ရှိလျက်ရှိသည့် ဗုဒ္ဓဓမ္မတရားတို့သည် အိန္ဒိယ နယ်မြေမှ ကွယ်ပျောက်ခံခဲ့ရပြီး တဖြည်းဖြည်းနှင့် ဝေဒဓမ္မနှင့် အိစ္စလာမ်ဘာသာ များထဲ ပျော်ဝင်ခံရပါသည်။

ယနေ့ယ္ခုအချိန်ကါလတွင် ထိုအဖြစ်အပျက်မျိုးနှင့် ကြုံရပြန်ပါသည်၊ ဗုဒ္ဓဓမ္မကို မိမိတို့ကျော့ကွင်းအောက် ရောက်ရှိလာရေးကို ဦးတည်ကာ ဝိစ္စာ ဟိန္ဒူပရိသျှဒ်နှင့် ရာစ္စတိယသွာယံ ဆေဝသံဃနှင့် အခြားဟိန္ဒူအစည်းရုံးများ တို့၏ ခေါင်းဆောင်တို့က အဆိုပါကြိုးပမ်းမှုကို အသက်ပြန်သွင်းနိုင်ရန် အစွမ်း ကုန်ကြိုးပမ်းအားထုတ်လာသည်ကို တွေ့ရပါသည်။ ယင်းအဖွဲ့အစည်းများက ဘိက္ခုအတုတို့ကို လူမှုပရဝုဏ်တွင် စေလွှတ်ပြီး ဝါဒဖြန့်ချိနေပါသည်။ ၎င်းတို့က ခေတ်မှီနည်းလမ်းအမျိုးမျိုးတို့ကို သုံးစွဲကာ ဟိန္ဒူဓမ္မနှင့်၊ ဗုဒ္ဓဓမ္မတို့အချင်းချင်း ညီရင်းအကို ဓမ္မဖြစ်ပါ၍ ဗုဒ္ဓဓမ္မသည် ဟိန္ဒူဓမ္မမှ ပေါက်ဖွားလာခဲ့သည့် ဓမ္မ ဖြစ်ကြောင်း ဝါဒဖြန့်ပြောဆိုနေကြပါသည်။ ဘုရားရှင်ဗုဒ္ဓအား ဝိသနိုးနတ်ဘု ရား၏ ကိုးကြိမ်မြောက်ကိုယ်ပွါးတော်ဖြစ်ကြောင်း မဟုတ်မတရား ဝါဒဖြန့်နေ ကြပါသည်။ ဤစကားကို မကြာခဏပြောဆိုလာပြီး ဗုဒ္ဓဓမ္မ၏ လွတ်လပ်သော ရပ်တည်မှုကို လုံးဝ ပျောက်ဆုံးသွားအောင် ပြောဆိုနေကြခြင်းဖြစ်သည်။

ဤအခြေအနေအထိတော့ သမိုင်းပြန်လည်လာသည်ဟု ဆိုရပါမည်။ သို့သော် နောက်ကိစ္စကတော့ အနာဂါတ်ကပင် အဖြေပေးလိမ့်မည်။ ဤအ ခြေအနေနှစ်မျိုးတို့မှာ ခြားနားနေမှုတခုရှိသည်။ ယင်းခြားနားမှုက ထိုအချိန် ကာလတွင် ဗုဒ္ဓဘာသာ၏ အခြေအနေမှာ အရေနိမ့်ပြီး ပျောက်ကွယ်သွားမည့် အခြေအနေရှိခဲ့ပါသည်။ ယ္ခုအချိန်ကာလတွင် အခြေအနေမှာတော့ ပြောင်းလဲ လာခဲ့ပြီးဖြစ်နေသည်။ အမှန်စင်စစ်မှာ ဗုဒ္ဓဘာသာအခြေအနေသည် ၁၉-ရာစု နှစ်များ၏နောက်ဆုံးဖြစ်သော ဆယ်စုနှစ်များကစပြီး ပြောင်းလာခဲ့ရာ ယ္ခု ၁၉၅၆-ခုနှစ်တွင် ဒေါက်တာအမ္ဗေဒကာရ်က ဗုဒ္ဓဘာသာသို့ပြောင်း၍ သိက္ခာ

ခံယူပြီးသည့်အချိန်ကါလကစ၍ ဗုဒ္ဓဘာသာတွင် တော်လှန်သည့် အခြေအနေ တခု ဆိုက်ရောက်ခဲ့ပါသည်။ ဒေါက်တာအမ္ဗေဒကာရ်မှာ နောက်လိုက်ပါ ၁၀- သိန်းကျော်တို့နှင့်အတူ ဗုဒ္ဓဘာသာသို့ သိက္ခာခံယူခဲ့သည့်နောက် ယနေ့အထိ သိက္ခာခံယူသည့်လူတို့၏ဦးရေမှာ အလွန်များပြားလာခဲ့ပြီး ဖြစ်ပါသည်။ ယနေ့ အထိ ဒလိတ်လို့ သတ်မှတ်ခံရသည့် လူပေါင်းဆယ်သန်းကျော်တို့မှာ ဗုဒ္ဓဘာ သာတွင် ကူးပြောင်းလာခဲ့ပြီးဖြစ်ပါသည်။ ယွှုလို ဗုဒ္ဓဘာသာကို ပြန်လည်ကူး ပြောင်းလာသောရာလာဒ်က နောက်ဆုံးသန်းကောင်စာရင်း ကောက်ခံရာတွင် သီးသီးသန့်သန့် ထင်ဟပ်ပြသနေပြီ ဖြစ်သည်။ ဟိန္ဒူဘာသာတို့၏ဦးရေမှာ လျော့ပေါ့လာသည်ကို တွေ့ရသည်။

ယနေ့ အိန္ဒိယနိုင်ငံအတွင်း မွတ်စလင်ဘာသာဝင်တို့၏ဦးရေ များ ပြားလာသည်ကို မြင်တွေ့ရ၍ ဟိန္ဒူဘာသာဝင်များက စိုးရိမ်မကင်း ဖြစ်နေရပါ သည်။ သို့သော် ဟိန္ဒူများက အလွန်ပါးနပ်ကြသည်။ မိမိတို့၏လူဦးရေ များပြား လာအောင် ဗုဒ္ဓဘာသာဝင်တို့ ထံနည်းအမျိုးမျိုးနှင့် ကပ်လာနေပြီးဖြစ်သည်။ အကြောင်းမှာ ၎င်းတို့သည် အိစ္စလာမ်ဘာသာ၊ ခရစ်ယာန်နှင့် ပါရစီဘာသာ ဝင်တို့ထံ ကပ်နိုင်မည်မဟုတ် ထိုဘာသာရပ်များသည် လုံးဝခြားနားနေသော ဘာသာယဉ်ကျေးမှုများဖြစ်ကြသည်။ ကျန်ရှိနေသော ဘာသာဝင်များဖြစ်ကြ သော ဗုဒ္ဓဘာသာ၊ ဂျိန်းဘာသာနှင့်၊ သိက္ခဘာသာဝင်တို့ထံ ချဉ်းကပ်စရာပင် ကျန်ရစ်လျက်ရှိသည်။ ဂျိန်းဘာသာဝင်တို့ကို နဂိုကတည်းကပင် ဟိန္ဒူအသွင် ပြောင်းထားပြီးဖြစ်နေသည်။ သိက္ခာတို့က မိမိတို့ကို ဟိန္ဒူလို့ မသတ်မှတ်ကြပါ။ သို့သော် အိန္ဒိယနိုင်ငံ၏ အခြေခံဥပဒေအတိုင်း ၎င်းတို့အားလုံးကို ဟိန္ဒူဘာ သာဝင်အဖြစ် သတ်မှတ်ထားသည်။ ထိုသတ်မှတ်ခြင်းမှာ မရိုးမသားသည့် လုပ် ငန်းတခုဖြစ်နေရပါသည်။ ဘာသာရေး၊ ဓမ္မရေးနှင့်၊ ဒဿနရေးတို့ကို အခြေခံ လျက် ဟိန္ဒူတို့နှင့် ဆန့်ကျင်ဘက်ဖြစ်နေသော ဗုဒ္ဓဘာသာကို သန်းကောင် စာရင်းတွင် မလိမ့်တပတ်လုပ်၍ ဟိန္ဒူတို့နှင့် ပေါင်းစပ်ပေးခြင်းမှာ လုံးဝ မ ဖြစ်နိုင်သည့် ကိစ္စတခုဖြစ်နေပါသည်။ ဤအခြေအနေများအောက် ဟိန္ဒူဘာ သာဝင်များအတွက် နောက်ဆုံးတလမ်းဖြစ်သည့် ဗုဒ္ဓဘာသာဝင်တို့အား လိမ် လည်လှည့်ဖြားသွားရန်သာ ရှိတော့သည်။ အကယ်၍ ဟိန္ဒူဘာသာဝင်တို့၏ အကောက်ကြံဉာဏ်စဉ်းလဲမှု အောင်မြင်သွားပါက ဗုဒ္ဓဓမ္မသည် နဂိုအတိုင်း ပြန်လည်ပျက်သုဉ်းသွားပြီး ဟိန္ဒူ၊ အိစ္စလာမ်၊ ခရိယာန်စသည့်ဘာသာများတွင်



ရောနှောပျောက်ကွယ်ခံရပါလိမ့်မည်။ အလားတူအခြေအနေမျိုးမှ ရှောင်ထွက် လွတ်မြောက်နိုင်ရန်အတွက် ဟိန္ဒူဘာသာဝင်တို့၏ ယင်းအစီစဉ်များကို ဖြစ် သည့် နည်းလမ်းမျိုးနှင့် ဆန့်ကျင့်သွားဘိုဘဲဖြစ်သည်။ ဤအခြေအနေမျိုးကို ကမ္ဘာ့ဗုဒ္ဓဘာသာဝင်များကလည်း ဆန့်ကျင်သွားရပါမည်။ ဘုရားရှင်ဗုဒ္ဓအား ဝိသနိုး၏ ကိုယ်ပွါးတော်ဟုခေါ်သောသူများကို ကန့်ကွယ်သွားရမည်။ ဗုဒ္ဓဓမ္မ ဟာ ဟိန္ဒူဓမ္မမှ ပေါက်ဖွားလာသည်ဟု ခေါ်ဆိုနေကြခြင်းကို ကန့်ကွက်ဆန့်ကျင် သွားရမှာဖြစ်ပါသည်။ ဗုဒ္ဓဓမ္မသည် ဟိန္ဒူဓမ္မ၏ဂိုဏ်းတခုဖြစ်သည်ဟု ခေါ်ဆိုနေ ကြသူများအားလည်း ကန့်ကွက်ဆန့်ကျင်သွားရမှာဖြစ်ပါသည်။ ဗုဒ္ဓဓမ္မကို လွတ်လပ်သည့်တရားဓမ္မမဟုတ်ပါဘူးလို့ ပြောဆိုနေခြင်းတို့ကိုလည်း အစွမ်း ကုန် ကန့်ကွက်ဆန့်ကျင်သွားရမှာဖြစ်သည်။

ဤအလုပ်ကို အိန္ဒိယနိုင်ငံရှိ ဘရုဝါလူမျိုးဗုဒ္ဓဘာသာက မလုပ်နိုင်ဘူး။ အဘယ်ကြောင့်ဆိုသော် ၎င်းဘရုဝါလူမျိုးဗုဒ္ဓဘာသာများက ဟိန္ဒူဘာသာယဉ် ကျေးမှုနှင့် နီးကပ်စွာ ဆက်ဆံထားသည့် လူမျိုးများဖြစ်ကြသည်။ လာဒခ်နှင့် ဟိမာဠလပြည်နယ်မှာ နေထိုင်ကြသော ဗုဒ္ဓဘာသာဝင်များက ရိုးအလွန်းအား ကြီးသည်။ ၎င်းတို့မှာ ဟိန္ဒူများပြောစကားကို နားဝင်သွားပြီး ဟိန္ဒူဘာသာ ဝင်များ၏ နီးစပ်မှုအနည်းအများကို ရရှိထားပြီးဖြစ်သည်။ ဗုဒ္ဓယဉ်ကျေးမှုအရ ပေးထားသည့် အမည်နာမများကို ပြောင်းလဲပြီး မိမိတို့နာမည်သစ်များတွင် ရာမ၊ ကိရိစ္စန စသည်တို့ဖြင့် ပြောင်းတပ်နေပါပြီ။ ဟိမာဠလပရဒေ့ရှ်ပြည်နယ်ရှိ ဗုဒ္ဓဘာသာဝင်များက တော်လှန်ရေးစိတ်ဓါတ်ရှိပါသည်။ ၎င်းတို့မှာ ဟိန္ဒူဘာ သာဝင်တို့နှင့် ရောနှောနေခြင်းကို မကြိုက်ကြပါ။ ထိုအခြေအနေမျိုးတွင် ဗုဒ္ဓဘာ သာဝင်လူငယ်၊ လူရွယ်များက ဟိန္ဒူတို့၏ ကလိမ်ဆင့်ဉာဏ်ဆင်မှုကို ဆန့် ကျင်ခုခံသွားရပါမည်။ ဗုဒ္ဓအား ဝိသနိုး၏ ကိုယ်ပွါးပါ ဗုဒ္ဓဓမ္မသည်ဟိန္ဒူဓမ္မမှ ဆင်းသက်လာသည့် ဗုဒ္ဓဓမ္မသည် ဟိန္ဒူဓမ္မ၏ ဂိုဏ်းတခုဖြစ်သည်။ ဗုဒ္ဓဓမ္မမှာ ဟိန္ဒူဓမ္မ၏ အစိပ်အပိုင်းတခုဖြစ်သည်စသောဝါဒဖြန့်ချိမှုကို အစည်းအဝေး၊ စု စည်းမှု seminar စသော ပြုလုပ်ချိန်တွင် ကန့်ကွက်ဆန့်ကျင်သွားရမှာ ဖြစ်သည်။ ယင်းရည်ရွယ်ချက်နှင့်ရေးသားသည်စာအုပ်စာတမ်း၊ ဗွီဒီယို၊ ရုပ်ရှင်ဇာတ်လမ်း များကို အခွင့်အရေးကြုံတိုင်း ကန့်ကွက်ဆန့်ကျင့်သွားရပါမည်။ ဗုဒ္ဓဓမ္မဒဿနကို ကိုယ့်ကိုယ်တိုင် ကောင်းကောင်းနားလည်ရမည်။ ပြီးတော့ လူထုရှေ့၌ မှန်ကန် သော တရားဓမ္မကိုသာ ပြောဆိုဆွေးနွေးရမည်။ ဒါမှသာလျှင် ဗုဒ္ဓဓမ္မကို ဘာ

သာဝင်မဟုတ်သေးသူများထံမှ ကယ်တင်နိုင်မည်ဖြစ်သည်။ ထိုအရာများကို တိတိကျကျ ဆောင်ရွက်သွားရန် မိမိတို့မှာ တာဝန်ရှိကြောင်းခံယူရပါမည်။ ဘာဘာဆာဗ်ဒေါက်တာအမ္ဗေဒကာရ်၏ ဗုဒ္ဓနောက်လိုက်များက ယနေ့ အဆင့်မြင့်ပညာတတ်၊ သမိုင်းဆရာ၊ ဉာဏလုပ်သား ပရော်ဖက်ဆာ၊ စာရေးဆရာ၊ ဒဿနဆရာကြီး၊ စာအုပ်ထုတ်ဝေသူစာပေသမ္မား၊ သတင်းစာဆရာများစသည်တို့ရှိကြပါသည်။ ၄င်းတို့က မိမိတို့၏လုပ်ငန်းဆိုင်ရာနယ်ပယ်ကနေ၍ ဤလုပ်ငန်းဆိုင်ရာများကို တာဝန်ယူဆောင်ရွက်သွားပါက ထိရောက်မှုရှိနိုင်ပါသည်။

ရှေးဟောင်းဘာရတီယစာပေတွင် နေရာအတော်များများတို့တွင် ယင်းယဉ်ကျေးမှုနှစ်ရပ်အကြောင်း ရေးသားဖော်ပြပေးထားပါသည်။ ဗြဟ္မဏနှင့်၊ သမဏဟူသော စကားလုံးများကို ထင်ထင်ရှားရှား ရေးသားထားသည်ကို ပါဠိ၊ တိပိဋက၊ ဂျိန်းဘာသာကျမ်းစာအုပ်များကို ဆရာကြီးပါဏိနိ ရေးအဋ္ဌာဓျာယီ၊ အသောကကျောက်တိုင်၊ ကျောက်စာတို့တွင် တွေ့ရှိနိုင်ပါသည်။ ထိုသက်သေသာဓကများကို ထောက်ရှုခြင်းအားဖြင့် ဤနိုင်ငံတွင် ရှေးပဝေသဏီကါလကတည်းက ယဉ်ကျေးမှုနှစ်ရပ်သတ်သတ်မှတ်မှတ်ရှိခဲ့ပါကြောင်းကို အနိုင်အမာပြောဆိုရပါသည်။ အံ့ဩစရာဖြစ်နေသည့်ကိစ္စတခုမှာ ယင်းယဉ်ကျေးမှုနှစ်ရပ်တွင် အချင်းချင်းဆန့်ကျင်ဘက်ဖြစ်နေသော အချက်အလက် ဒဿနအမြင်ရှိပါလျက်နှင့် ယင်းယဉ်ကျေးမှုနှစ်ရပ်လုံးမှာ အတူတကွရှင်သန်လာခဲ့ရပါသည်။ အိစ္စလာမ်၊ ခရစ်ယာန်နှင့်၊ ဟိန္ဒူယဉ်ကျေးမှုများ ကွဲပြားခြားနားမှုရှိသော်လည်း အတူတကွ ရှင်သန်နေထိုင်သွားသည်။ ထိုနည်းပမာ ဝေဒယဉ်ကျေးမှုနှင့် သမဏယဉ်ကျေးမှုများက အချင်းချင်းဆန့်ကျင်ဘက်ဖြစ်သော်လည်း ၄င်းယဉ်ကျေးမှုများက အတူတကွ ရှင်သန်နေထိုင်သွားနိုင်ခဲ့ကြသည်။ ဤသို့ရှင်သန်နေထိုင်ရခြင်းသည် ယဉ်ကျေးမှုတို့၏ တိုးတက်ရာတိုးတက်ကြောင်းဖြစ်သည့် လုပ်ရိုးလုပ်စဉ်ပင်ဖြစ်ရသည်။ ဤအကြောင်းအရာနှင့်ပါတ်သက်ပြီး ထိုယဉ်ကျေးမှုနှစ်ရပ်မှာ မြွေနှင့်မြွေပါပမဖြစ်ကြောင်း သတ်မှတ်နိုင်သည်။ အဘယ်ကြောင့်ဆိုသော် ဤယဉ်ကျေးမှုနှစ်ရပ်တို့၏ ရေသောက်မြစ်မှာ တခြားစီဖြစ်နေလို့ ၄င်းတို့၏ တိုးတက်ခြင်းတို့ကလည်း တခုနှင့်တခုမတူနိုင်ပါ။ ဤသို့ဖြစ်နေရသော်လည်း ၄င်းယဉ်ကျေးမှုနှစ်ရပ်တို့သည် အချင်းချင်းအပေးအယူရှိလျှက် ကြီးထွားလာခဲ့ရပါသည်။



ဤစာအုပ်၏ ရှေ့အခန်းများတွင်ဗုဒ္ဓဓမ္မ၏ ဂုဏ်အင်္ဂါများကို ဖော်ပြပေးခဲ့ပြီးဖြစ်သည်။ ဗုဒ္ဓဓမ္မသည်တုခြားသော ထိုဂုဏ်အင်္ဂါတို့ကြောင့် ယနေ့ကမ္ဘာတွင်ရှိ အခြားဘာသာဓမ္မတို့အနက် ဒဿနရေးရာဆိုင်ရာထင်ပေါ်ကျော်ကြားနေပါသည်။ ဗုဒ္ဓဘာသာရပ်များအနက် နေရာထူးတခုကို ရရှိထားပါသည်။ ထိုနေရာမျိုးမှာ အခြားဘာသာရပ်မှာမရရှိခဲ့ပါ။ လွန်ခဲ့သည့်အနှစ်ငါးဆယ်ကျော်ခန့်မှစ၍ ဟိန္ဒူဘာသာတို့က ဗုဒ္ဓဘာသာကို မိမိတို့ဟိန္ဒူဘာသာမှ ဆင်းသက်လာကြောင်း ဟိန္ဒူဘာသာ၏ ဂုဏ်းတခုဖြစ်ကြောင်း ပြသနိုင်ရန် ကြိုးပမ်းလာခဲ့ကြပါသည်။ ဤသို့ပြုလုပ်ရာ၌ ဒေါက်တာရာဒါကိရိစ္စနန်း၏ လက်ချက်လည်းပါဝင်သည်။ ထိုသို့ကြိုးပမ်းမှုများက အိန္ဒိယပြည် လွတ်လပ်ရေးမရခင်က စခဲ့ပါသည်။ အိန္ဒိယနိုင်ငံ အခြေခံဥပဒေပြုကော်မီတီအစည်းဝေးများ၌ ဤပြဿနာကြီးက ပိုပြီးအရေးပါလာခဲ့သည်။ ထိုကြောင့် အခြေခံဥပဒေပြုကော်မီတီမှာ ဥပဒေပုဒ်မ ၂၅–ပုဒ်မခွဲ(၂)ကို လက်ခံခဲ့ရပါ၍ ရေးသားဖော်ပြအတည်ပြုခဲ့ရပါသည်။ ၄င်းဥပဒေပုဒ်မ ၂၅–ပုဒ်မခွဲ(၂)အရ ဗုဒ္ဓ၊ ဂျိန်းနှင့်၊ သိက္ခာဘာသာဝင်များတို့သည် ဟိန္ဒူဘာသာလက်အောက်သို့ ကျရောက်ခဲ့ရပါသည်။ အခြေခံဥပဒေပြုကော်မီတီဝင် သိက္ခာဘာသာဝင်နှစ်ဦးတို့က ဤသို့ပြုလုပ်ရခြင်းကို အကြီးအကျယ်ကန့်ကွက်ဆန့်ကျင်သမှုပြုခဲ့ကြသော်လည်း အများဆန္ဒအရ ယ္ခုလိုပြုလုပ်အတည်ပြုခြင်းကို ခံလိုက်ရပါသည်။ လူနည်းစုများဖြစ်ကြသည့် ဗုဒ္ဓ၊ ဂျိန်းနှင့်၊ သိက္ခာလူမျိုးများ၏ အလွန်အရေးကြီးသည့်ပြဿနာမျိုးကို မမခွဲဘဲ စကားသက်သက်ဖြင့် ပါယ်ချခြင်းသည် ဘယ်အဆင့်အထိ တရားမျှမှုရှိကြမည့်ပြဿနာကြီးက ကျန်ရစ်လျက်ရှိခဲ့ပါသည်။ ထိုစဉ် ထိုအချိန်ကာလက ပြုလုပ်ခဲ့ရသည့် ဤကိစ္စမျိုးမှာ ရယ်စရာဖြစ်သည်ဟု ဆိုရမည်။ လူမျိုးစု၊ လူနည်းစုများ ဘာသာရေးအခွင့်အရေးကို ထိုသို့ပိတ်ပင်လိုက်ခြင်းသည် လောကသ္တုရဒီမိုကရေစီ စံနစ်ကြီးကို ချိုးဖျက်ကြပါသည်။ ဤသို့ပြုလုပ်ခြင်းသည် တရားမျှတမှုရှိပါသည်ဆိုပါလျှင် အိစ္စလာမ်ဘာသာဝင် ခရစ်ယာန်ဘာသာဝင်များတို့ကိုလည်း ဟိန္ဒူဘာသာထဲသို့ ထည့်သွင်းလိုရနိုင်ပါသည်။ ၄င်းဘာသာဝင်တို့ အားလည်း ဟိန္ဒူပါဟု ခေါ်ဆိုလို့ ရနိုင်ပါသည်။ ဤသို့ပြုလုပ်ခြင်းသည် ဒီမိုကရေစီစံနစ်ကြီးနှင့် ဆန့်ကျင့်ဘက် ကျင့်ကြံမှုဖြစ်သည်။ ဤသို့ပြုလုပ်ခြင်းဖြင့် နိုင်ငံတော်ကို ချိုးဖောက်ရာဖြစ်လိမ့်မည်။ သတိထားစရာဖြစ်ရသည်။ နိုင်ငံတော်သည် အစိပ်စိပ်ကွဲပျက်ခြားနားသွားနိုင်သည့် အချက်မျိုးဖြစ်နေပါသည်။

သတင်းစာဂျာနယ်များတွင် ယခုအခါကြည့်ရှုဖတ်ရှုရသော သတင်းများကို ကြည့်ခြင်းအားဖြင့် သိရှိရသည်မှာ ဟိန္ဒူအစည်းအရုံးအချို့တို့က ဗုဒ္ဓဘာသာဝင်တို့ကို မိမိတို့ဘက်ပါလာအောင် အထူးစွဲဆောင် ကြိုးပမ်းနေကြကြောင်း တွေ့ရှိရပါသည်။ ၎င်းအစည်းအဖွဲ့ဝင်များက ဟိန္ဒူတို့လျော့ပါးသွားနေသည် လူဦးရေကိုမြင်၍ များစွာစိုမ်းရိမ်ပူပမ်လျက် ရှိနေကြသည်။ အခြားဘာသာဝင်တို့ ဖြစ်ကြသည့် အိစ္စလာမ်နှင့်၊ ခရစ်ယာန်တို့၏ တိုးတက်လာနေသည့် ကမ္ဘာ့လူဦးရေမှာ ၎င်းတို့ထိပ်လန့်နေကြသည်။ သို့အတွက်ကြောင့် ဗုဒ္ဓဘာသာဝင်တို့ကို မိမိတို့နှင့်အတူထား၍ ကမ္ဘာ့အလယ်မှာ မိမိတို့လူဦးရေကို ပြသလိုကြပါသည်။ သို့သော် ယခုကိစ္စမျိုးသည် လွယ်ကူသည့် ကိစ္စမျိုးမဟုတ်ပါ။ အဘယ်ကြောင့်ဆိုသော် မည်သည့်ဗုဒ္ဓဘာသာဝင်တစ်ဦးယောက်က ဤကိစ္စမျိုးကို လက်ခံနိုင်ကြမည်မဟုတ်။ ဟိန္ဒူအစည်းအရုံးအချို့က ဤအကြောင်းအရာနှင့် စပ်လျဉ်းပြီး ဓမ္မညီလာခံ seminar နှင့် အခြားစုစည်းမှု အမျိုးမျိုးတို့ကို ကျင်းပနေကြပြီး ကြိုးပမ်းနေကြသော်လည်း အချည်းနှီးပင် ဖြစ်နေပါသည်။ ငွေကုန်ကြေးကုန်လုပင်ပမ်းရုံသာ အဖတ်တင်ရပါသည်။ ဟိန္ဒူဘာသာဝင်တို့ အစည်းအရုံး၊ အဖွဲ့အစည်းများ၏ အခြေအမြစ်မရှိသော ယင်းပြောဆိုချက်၊ အော်ဟစ်နေကြခြင်းများကို ဗုဒ္ဓဘာသာဝင်တို့က နားယောင်လာကြမည်မဟုတ်ပေ။ အမှန်တကယ် သာမန်ဗုဒ္ဓဘာသာဝင်ဘဲဖြစ်ဖြစ်၊ ပညာတတ်လူတန်းစားထဲ့ကဘဲဖြစ်ဖြစ် ဤသိပ္ပံခေတ်ကြီးမှာ ထိုအခြေအမြစ်ကင်းမဲ့နေသည့်စကားများကို ယုံကြည်ကြမည်မဟုတ် လုံးဝကန့်ကွက်ထားပြီးသား ဖြစ်နေပါပြီ။

၁၉၅၆–ခုနှစ် ဒေါက်တာဘီမာရ် အမ္ဗေဒကာရ်သည် မိမိ၏ ၁၀–သိန်းကျော်သော နောက်လိုက်များနှင့်အတူ နာဂပူရ်မြို့၌ ဗုဒ္ဓဘာသာဝင်အဖြစ် သိက္ခာခံယူကတည်းက ဟိန္ဒူတို့၏ စိတ်နေသဘောထားကို သံသယရှိခဲ့ပါသည်။ ထို့သို့ဖြစ်သဖြင့် သူသည် နောက်လိုက်များအား နှစ်ဆယ့်နှစ်ခုသော အဓိဋ္ဌာန်ကတိကဝတ်များကို နောက်နောင်တွင် ဗုဒ္ဓဘာသာနှင့်စပ်လျဉ်းပြီး အဓိပ္ပါယ်ကို မှားမှားယွင်းယွင်း မကောက်ခံနိုင်အောင် ရည်ရွယ်ခဲ့ပါသည်။ ယခုနှစ်ဆယ့်နှစ်ခုသော ကတိကဝတ်များက ရှင်းရှင်းလင်းဖြစ်ပါသည်။ clear and distinct ဖြစ်နေပါသည်။ ဗုဒ္ဓဓမ္မကို ဘယ်သောအခါမျှ ဟိန္ဒူဓမ္မနှင့် ရောနှောလို့မရနိုင်အောင် ရည်ရွယ်ခဲခြင်းဖြစ်ပါသည်။ ဤနှစ်ဆယ့်နှစ်ခုသော အဓိဋ္ဌာန်တို့သည် ဒလိသ်နှင့်၊ ဇာတ်နိမ့်များကြားထဲမှာ ပျံ့နှံ့နေခဲ့သည်။ မှားယွင်းနေသော



အယူအဆ၊ ယုံကြည်မှုခမ်းသိမ်တို့ကို ပါယ်ဖြတ်နိုင်သည့် ကတိကဝတ်များ ဖြစ်ခဲ့ရပါသည်။ ဗုဒ္ဓဘာသာဝင်များအဖြစ် ခံယူပြီးနောက် ၎င်းတို့လမ်းမှာ ပေါ်ပေါက်နိုင်သည့် အဟန့်အတားများအားလုံးကို ပါယ်ဖျက်နိုင်ပြီး အစွန်ရှည်သည့်ကာလတာလျှောက် မှားယွင်းနေသည့် အယူအဆယုံကြည်မှုမျိုးဝင်မလာဘဲ အမြဲသန့်စင်နေသော ဗုဒ္ဓဘာသာအယူအဆသာ ကျန်ရှိနေရန်ဖြစ်သည်။ အိန္ဒိယနိုင်ငံရှိ ဗုဒ္ဓဘာသာဝင်များအားလည်း တစ်စုတဝေးတည်းနှင့် အိန္ဒိယအစိုရထံသွားရောက်ပြီး၊ တောင်းဆိုချက်တခုကို ပြုလုပ်ရန်ဖြစ်သည်။ ထိုတောင်းဆိုချက်မှာ လွတ်လပ်သည့် အိန္ဒိယနိုင်ငံ၏ အခြေခံဥပဒေတွင် ၎င်းတို့၏ဘာသာ ဖြစ်သော ဗုဒ္ဓဘာသာကို လုံးဝလွတ်လပ်သည့် ဘာသာတရားတခုအနေဖြင့် အသိမှတ်ပြုပေးရန်ဖြစ်သည်။ ၎င်းတို့ကို ဟိန္ဒူများနှင့် ရောနှော၍ သန်းခေါင်းစာရင်းကောက်ခြင်းမျိုးကို လုံးဝမလုပ်ကြပါရန်ဖြစ်ပါသည်။

ဘာဘာဆာဗ် ဒေါက်တာဘီအာရ် အမ္ဗေဒကာရ်က ပြုခိုင်းသည့် အဓိဋ္ဌာန်(၂၂)ခုတို့ကို အောက်တွင် ဖော်ပြပေးလိုက်ပါသည်။ ဤအဓိဋ္ဌာန်ကို ပြုပြီးနောက် ဗုဒ္ဓဓမ္မကို ဘယ်သောအခါမျှ ဟိန္ဒူဓမ္မနှင့် ရောနှောလို့မရသော အဓိဋ္ဌာန်များဖြစ်ကြသည်။ ၎င်းတို့မှာ––

(၁)။ ငါသည် ဗြာဟ္မာ၊ ဝိသနိုးနှင့် မဟေစ်တို့ကို ဘယ်သောအခါမှ ဣသွာရ ထာဝရဘုရားသခင်ဟု မယူဆနိုင်၊ ထိုနတ်ဘုရားများကို ဘယ်သောအခါမှ ပူဇော်နိုင်မှာ မဟုတ်ပါဘူး။

(၂)။ ငါသည် ရာမနှင့်၊ ကရိဿနတို့ကို ထာဝရဘုရားသခင်ဟု မယူဆ၊ မယုံကြည်၊ ပူဇော်ခြင်းကို မပြုနိုင်။

(၃)။ ငါသည် ဂေါရီ၊ ဂဏာပတိစသည့် ဟိန္ဒူဓမ္မက လက်ခံယုံကြည်ထားသော၊ နတ်ဘုရားနှင့်၊ နတ်ဘုရားမများကို မယုံကြည်နိုင်၊ ပူဇော်ခြင်းတို့ကို မလုပ်နိုင်ပါ။

(၄)။ ငါသည် ထာဝရဘုရား၏ ကိုယ်ပွါးတော်များဟူသောစကားကို မယုံကြည်နိုင်၊ ထိုကြောင့် ၎င်းတို့အားဘုရား၏ ကိုယ်ပွါးဖြစ်ကြောင်းကိုလည်း လက်မခံနိုင်ပါ။

(၅)။ ငါသည် ဘုရားရှင်ဗုဒ္ဓအား ဝိသနိုး၏ ကိုယ်ပွါးတော်ဖြစ်သည်ဟု မဟုတ်မမှန်သောစကားကို မယုံကြည်နိုင်ပါ။

(၆)။ ငါသည် လူသေလျှင် ဟိန္ဒူဓလေ့ထုံးစံအတိုင်း ပြုလုပ်ရသည့် သဒ္ဓကိရိယသော်၊ ၄င်းသည် ကျွတ်ရာလွတ်ရာသို့ ရောက်နိုင်ခြင်းအလို့ငှါ 'ကိန္ဒ ဒါန'ကို မပြု။

(၇)။ ငါသည် ဗုဒ္ဓဓမ္မကို ဆန့်ကျင်၍ ဘာတခုမျှ မပြုလုပ်ပါ။

(၈)။ ငါသည် မည်သည့်သံသကါရကို လုပ်ရာ၌ ဗြာဟ္မဏတစ်ဦး တယောက်ကို ငှါးယမ်းလုပ်ကိုင်မည် မဟုတ်။

(၉)။ ငါသည် လူသားတရပ်လုံးက တူညီနေကြသည်ဟူသော သဘောထားခံယူချက်ကို လက်ခံပါမည်။

(၁၀)။ ငါသည် တန်းတူညီမျှခြင်းကို တည်ဆောက်သွားရန် အမြဲ ကြိုးပမ်းသွားမည်။

(၁၁)။ ငါသည် မြတ်ဗုဒ္ဓချမှတ်ခဲ့သည့် မဂ္ဂင်းရှစ်ပါး(လမ်းစဉ်)ကို အမြဲ လက်ခံလိုက်နာပါမည်။

(၁၂)။ ငါသည် အရှင်ဗုဒ္ဓချမှတ်ခဲ့သည့် ပါရမီသာများကို ပြည့်ပြည့်စုံစုံ လက်ခံကျင့်ကြံသွားပါမည်။

(၁၃)။ ငါသည် သတ္တဝါခပ်းသိမ်းစုကို့အပေါ် သနားကြင်နာမှုရှိ၍ ၄င်းတို့ ကို ကျွေးမွေးသွားပါမည်။

(၁၄)။ ငါသည် သူ့တပါးပစ္စည်း <u>ခိုးယူခြင်းကို ရှောင်ကြဉ်သွားပါမည်။</u>

(၁၅)။ ငါသည် မဟုတ်မတရား ပြောဆိုခြင်း (မုသာဝါဒ) ရှောင်ကြဉ်သွားပါမည်။

(၁၆)။ ငါသည် သူ့များသားသမီးအား ပြစ်မှားခြင်းကို မပြုလုပ်ရန် အမြဲ သတိရှိရှိ ရှောင်ကြဉ်သွားပါမည်။

(၁၇)။ ငါသည် သေရည်သေရက်များကို သောက်သုံးခြင်းမှ ရှောင်ကြဉ်သွားပါမည်။

(၁၈)။ ငါသည် မိမိဘဝကို ဗုဒ္ဓဘာသာ၏ သွန်သင်မှုဖြစ်သော ပညာဉာဏ်၊ သီလ၊ ကရုဏာတို့ကို လက်တွေ့ဆည်းပူးသွားရန် ကြိုးစားသွားပါမည်။

(၁၉)။ ငါသည် လူသားအားလုံးအတွက် အကျိုးမရှိသော ဇာတ်နိမ့်ဇာတ်မြင့် ခွဲခြားသော ဟိန္ဒူဘာသာကို အမြဲတန်းအတွက် စွန့်ပယ်လျက်ရှိပါသည်။



(၂၀)။ ငါသည် ဗုဒ္ဓဘာသာသည်သာ သဒ္ဓါဓမ္မဖြစ်ကြောင်း အလေးအနက် ခံယူပါသည်။

(၂၁)ငါသည် လူသစ်တဖန်မွေးဖွားလာသည်ဟု ခံယူပါသည်။

(၂၂)။ ငါသည် ယနေ့မှစ၍ ဗုဒ္ဓဓမ္မ၏ သွန်သင်းမှုနှင့်အညီ နေထိုင်သွားမည်ဟု အဓိဋ္ဌာန်ပြုပါသည်။

ဤစာအုပ်နှင့် စာအုပ်ပါအချက်အလက်တို့ကို အခြေခံ၍-

(၁)။ ဗုဒ္ဓဓမ္မသည် ဟိန္ဒူဓမ္မ၏ အစိပ်အပိုင်းတခုမဖြစ်ကြောင်း၊

(၂)။ ဗုဒ္ဓဓမ္မသည် ဟိန္ဒူဓမ္မ၏ ဂိုဏ်းတခုမဖြစ်ကြောင်း၊

(၃)။ ရှင်ဗုဒ္ဓသည် ဝိသနိုး၏ ကိုးကြိမ်မြောက်ကိုယ်ပွားမဟုတ်ကြောင်း ထင်ရှားနေပါသည်။

ထိုစကားမျိုးကို ပြောဆိုသူများက ရန်ကရာခါရိယပင်ဖြစ်ဖြစ် ဒေါက်တာရာဒါကိရိစ္စနန်းကပင်ဖြစ်ဖြစ် ၄င်းတို့ပြောဆိုခဲ့၊ ရေးသားခဲ့သည့် အပြောအဆိုသည် သမိုင်းရှုဒေါင့်နှင့်ဘဲဖြစ်ဖြစ်၊ ဒဿနအတွေးအခေါ်ရှုဒေါင့်နှင့်ပင်ဖြစ်ဖြစ် လုံးဝ မှားယွင်းနေပါသည်။ သူ့တို၏ ပြောဆိုရေးသားချက်များက မဟုတ်မတရားသာ ဖြစ်ပါ၍ လုံးဝလက်ခံယုံကြည်ဘွယ်ရာ မဖြစ်နိုင်။ ဗုဒ္ဓဓမ္မသည် သစ်ဆန်းသော ဓမ္မတရားတခုဖြစ်ပါသည်။ ဗုဒ္ဓဓမ္မသည် ဝေဒနှင့် ဥပနိသျှဒ်ကျမ်းတို့အပေါ် အခြေခံခြင်း လုံးဝမဟုတ်ပါ။ စသည့်အကြောင်းအရာများ ထင်ရှားနေပါသည်။ နောက်ဆုံးပြောဆိုသည်မှာ ဗုဒ္ဓဘာသာဝင်များက အထူးသတိထားပြီး မိမိတို့ ကိုးကွယ်သည်တရားဓမ္မကို ကျင့်ကြံကိုးကွယ်သွားကြရန်သာ ဖြစ်ပါသည်။

## "ဗုဒ္ဓဓမ္မနှင့် ဟိန္ဒူဓမ္မတို့အား နှိုင်းယှဉ်လေ့လာခြင်း"

ယနေ့ အိန္ဒိယနိုင်ငံတွင် အချို့ဆိုးသွမ်းနေသူများက၊ ဟိန္ဒူဓမ္မနှင့် ဗုဒ္ဓဓမ္မတို့ကို အချင်းချင်းပူးကပ်သွားရန် အချိန်တန်လာပြီးလို့ ပြောဆိုနေကြပါသည်။ ၄င်းတို့မသိနားမလည်းခြင်းကတော့ တူညီသောအချက်အလက်ပေါ် တည်ဆောက်ထားသော (cementing force) အဆင့်တန်းမြင့်သော ဒဿနိက concept မရှိလျှင် ဘာမှာလုပ်မရနိုင်သလို၊ သဲမှုန့်သက်သက်ဖြင့် နံရံကြီး တခုဖြစ်လာအောင် တည်ဆောက်သွားလို့မရနိုင်ပါဘူး။ ဟိန္ဒူဓမ္မအတွင်းစုစည်း

လက်ခံလောက်သည့် concept ခံယူချက်မျိုး လုံးဝမပါဘူး၊ ဤသို့အခြေအနေမျိုးတွင် ဤဓမ္မနှစ်ရပ်တို့ကို အချင်းချင်းပူးကပ်ထားလို့ မရနိုင်ပါဘူး။ ပေါင်းစပ်ခြင်း၊ ပူးကပ်ခြင်းစသည်တို့ကို ပြောဆိုနေကြခြင်းသည် အပိုစကားသက်သက်ဖြစ်သည်။ သာမန်စကားနှင့်ဆိုရင် ရူးသွပ်နေသည့် လူတို့၏ အလုပ်သာဖြစ်သည်၊ စိတ္တဇဖြစ်နေကြသူများဟူ၍ပင် ခေါ်ဆိုရပါမည်။

ဒဿနရှုဒွာရနှင့်၊ သိပ္ပံပညာတို့၏ အရေးကြီးဆုံးခံယူချက်သဘောထားမှာ အကြောင်းမရှိ၊ အကျိုးမဖြစ်ဆိုသည့် သဘောထားပင်ဖြစ်သည်။ ဤနေရာတွင် ဗုဒ္ဓဓမ္မနှင့်၊ ဟိန္ဒူဓမ္မတို့ ရောနှောပေါင်းစပ်မှုဖြစ်လာဘို့က အကြောင်းမရှိပါဘူး။ မဖြစ်နိုင်သောကိစ္စတခု ဖြစ်နေသည်၊ ဤနေရာမှာ ပေါ်ပေါက်လာသည် မေးခွန်းတရပ်မှာ ဟိန္ဒူဓမ္မနှင့်၊ ဗုဒ္ဓဓမ္မတို့ အချင်းချင်းပေါင်းစပ်သွားဘို့ အခြေအမြစ်မရှိသည့်စကားမျိုး Logical မကျသည့်စကားမျိုး၊ သိပ္ပံပညာနှင့် လုံးဝဆန့်ကျင်နေသည့်စကားမျိုး၊ အပြောအဆိုမျိုးကို ဘာကြောင့် ပြောဆိုလုပ်နေရပါသနည်း? ဒီနောက်ခေတ် ဒီနေ့အခါ၏ အရေးကြီးတောင်းဆိုချက် တစ်ခုပါလို့ ပြောလာရခြင်း၏ အကြောင်းရင်းက ဘာပါလိမ့်? ဒီနေ့ဟိန္ဒူဓမ္မမိခင်များတို့၏ နို့အုံမှ ဗုဒ္ဓဘာသာဝင်တို့အား နို့တိုက်ကျွေးပါမည်ဟု ပြောဆိုလာခြင်းသည် ဘာအတွက် ဖြစ်ရပါသနည်း? တချိန်က ဟိန္ဒူများ နှုတ်ခမ်းမွေးကပ်ကပ်နှင့် ထောင်းလွှားနေခဲ့ကြသော ဟိန္ဒူများက ဘာဖြစ်လို့ ဗုဒ္ဓဘာသာဝင်တို့အပေါ် ချက်ချင်းသဘောထားပြောင်းလာရသည့် အဖြစ်မျိုးကို ပြသနေကြပြီး အကြောင်းမှန်က ဘယ်လိုပါလဲ?

ယနေ့ခေတ်၊ ယနေ့အခါတွင် ဟိန္ဒူတို့မှာ မိမိတို့ရပ်တည်မှုကို ကာကွယ်သွားနိုင်ဘို့ ပြဿနာကြီးတခုဖြစ်လာပြီမို့ ယခုလို့ပြောဆို လုပ်နေရခြင်းဖြစ်သည်။ ယခုလိုဘာသာဝင်တို့အား မြူဆွယ်နေရပါသည်။ အကြပ်အတည်းနှင့်တွေ့ကြုံရလို့ ယခုလိုတပ်မက်လာခဲ့ရခြင်း ဖြစ်နေပါသည်။ အိန္ဒိယနိုင်ငံ၏ နောက်ဆုံးသန်းခေါင်စာရင်းက ပြသနေသည့် လူဦးရေစာရင်းတွင် ဟိန္ဒူတို့၏ အရေအတွက်သည် အနှုတ်လက္ခဏာပြသနေပါပြီ။ ထိုကြုံတွေ့နေရမည့် အခြေအနေကို ခန့်မှန်းစဉ်စားပြီး ဟိန္ဒူများက တုန်လှုပ်လာပြီ။ ထိုအခြေအနေနှင့်ကြုံလာမည်ကို စိုးရိမ်ကာ အခြားဘာသာတခုခုနှင့် ပေါင်းစပ်သွားရန် အရေးကြီးလာပြီး ဟိန္ဒူများက ဤနိုင်ငံရှိ ခရစ်ယာန်နှင့်၊ မွတ်စလင်ဘာသာဝင်တို့ ပေါင်း



စပ်လို့မဖြစ်နိုင်၊ အဘယ်ကြောင့်ဆိုသော် ယင်းဘာသာနှစ်ရပ်စလုံးမှာ နိုင်ငံခြားပေါက် ဘာသာများဖြစ်ကြသည်။ ၎င်းတို့၏ ယုံကြည်မှုသဘောထား တို့ကလည်း လုံးဝခြားနားနေကြသည်။ သမိုင်းအစဉ်အလာအရ ဟိန္ဒူဘာသာဝင်များက ၎င်းမတူညီကြသည့် ဒဿနအမြင် ထုံးတမ်းစဉ်လာ ယဉ်ကျေးမှုတို့ကို လက်မခံနိုင်အောင်ဖြစ်နေကြသည်။ ထိုအခြေအနေသို့ ကျရောက်နေသော ဟိန္ဒူအစွန်းရောက် နိုင်ငံရေးပါတီများ လူမှုရေးအဖွဲ့အစည်းများဖြစ်ကြသော ရာဇ္ဇတိယသွာယံသေဝက (Sangh Rashtriya sauam Seveka Sangh ) ဝိဇ္ဇာဟိန္ဒူပရိဆာဒ် (ကမ္ဘာလုံးဆိုင်ရာဟိန္ဒူပရိဆဒ်) (Viswa Hindu parishad) ဘာရတိယဂျနတာပါတီလို အစွန်းရောက်ပါတီ အဖွဲ့အစည်းများက လူနည်းစုဖြစ်သော ခရစ်ယာန်ဘာသာဝင်များနှင့် မွတ်စလင်ဘာသာဝင်တို့အပေါ် နိုင်ထက်စီးနင်းမှု အမျိုးမျိုးတို့ကိုလုပ်နေကြသည်။ တနည်းပြောရမည်ဆိုပါက မဟာလူကြီးမျိုးဝါဒကို ကျင့်သုံး၍ လူကို အရှင်လတ်လတ်သတ်ဖြတ်ခြင်း၊ နေအိမ်များကို ရွာလုံးကျွတ် မီးရှို့ခြင်းစသည်လုပ်ရပ်များကို တရားဥပဒေစိုးမိုးရေးကို မကြောက်ရွံ့ ချိုးဖောက်နေကြပါသည်။ အိန္ဒိယပြည်တောင်ပိုင်းနှင့် ဥရိသာပြည်နယ်များတွင် ဤဥပဒေမဲ့ လုပ်ရပ်များက သာမန်လုပ်ရပ်များဖြစ်နေကြသည်။

အိန္ဒိယနိုင်ငံတွင် မွတ်စလင်နှင့်၊ ခရစ်ယာန်ကလွဲလို ဗုဒ္ဓ၊ ဂျိန်း၊ သိက္ခ၊ ရဟူဒီနှင့် ပါရစီဘာသာဝင်များ နေထိုင်ကြပါသည်။ ဂျိန်းဘာသာဝင်က ဟိန္ဒူဘာသာနှင့် လုံးဝကွဲပြားခြားနားနေသော ဘာသာတရပ်ဖြစ်နေသော်လည်း ထိုဘာသာဝင်တို့က ဟိန္ဒူဘာသာဝင်များနှင့် နားလည်းမှု ရရှိနေပြီး ဖြစ်ပါသည်။ ယင်းဘာသာဝင်များကို ဟိန္ဒူအနေဖြင့် သတ်မှတ်ပြီးနေပြီ၊ အိန္ဒိယနိုင်ငံတွင် ပါရစီဘာသာဝင်တို့၏ ဦးရေသည် အလွန်နည်းလှပါသည်။ ၎င်းတို့ဘာသာမွေးဖွားရာအရပ်မှာလည်း နိုင်ငံခြားမှာရှိနေ၍ ဟိန္ဒူတို့က ၎င်းတို့နှင့် ပါတ်သက်လို စိတ်ဝင်စားမှု မရှိခဲ့ကြ။ သိက္ခဘာသာဝင်များကို မိမိကိုယ်မိမိ ဟိန္ဒူပါလို့ မယူဆကြသော်လည်း အနည်းနှင့်အများသူတို့ကိုလည်း ဟိန္ဒူပင် ထင်လာခဲ့ကြသည်။ နားလည်းမှုရှိနေပါပြီး။

ဒဿနအမြင်နှင့် ကြည့်ပါက ဗုဒ္ဓဘာသာနှင့် ဟိန္ဒူဘာသာတို့က လုံးဝခြားနားသော ဘာသာတရားများဖြစ်ကြသည်။ ထို့အပြင် ကမ္ဘာနိုင်ငံများဖြစ်ကြသော သီရိလင်္ကာ၊ မြန်မာ၊ ကမ္ဘောဒီးယား၊ ထိုင်၊ ဘူတန်၊ ဂျပန်၊ ကိုးရီးယား၊

ဒီယက်နာမ်နှင့်၊ မွန်ဂိုးလီယားစသည့်နိုင်ငံများမှာ ဗုဒ္ဓဘာသာကိုးကွယ်ကြသည့် လူဦးရေများပြားလှပါသည်။ ဗုဒ္ဓဘာသာဝင်တို့၏ လူဦးရေသည် သန်းကုဋေနှင့်ချီ၍ များပြားနေပါသည်။ ကမ္ဘာမှာ ဗုဒ္ဓမြေကို အိစ္စလာမ်နှင့်၊ ခရစ်ယာန်တို့နှင့် တန်းတူနေသော ဘာသာတရပ်ဖြစ်နေသည်။ အပြည်ပြည်ဆိုင်ရာနယ်ပယ်တွင် ဗုဒ္ဓဘာသာတို့၏ အသံမှာ ယူအန်စသည့်အဖွဲ့အစည်းများက ဂရုတစ်စိုက်နားထောင်နေရသည်။ ဗုဒ္ဓဘာသာနိုင်ငံများအပြင် တရုတ်၊ တိဘက်၊ အိန္ဒိယစသည့် နိုင်ငံများတွင် ဗုဒ္ဓဘာသာဝင်တို့၏ ဦးရေမှာ သန်းကုဋေနှင့် ချီ၍ရှိနေပါသည်။ ထိုသို့သော အခြေအနေများအောက် ဗုဒ္ဓဘာသာနှင့် ဟိန္ဒူဘာသာတို့ကို တူညီမှုရှိကြောင်းကို လက်ခံခြင်းသည် ဟိန္ဒူဘာသာဝင်တို့၏ အကျိုးများအတွက်ပဲ ဖြစ်သည်။

ယှုလိုအဆင်ပြေနားလည်းမှု ယူနေရခြင်း၏နောက်အကြောင်းတခုမှာ အိန္ဒိယနိုင်ငံရှိ ဗုဒ္ဓဘာသာဝင်ဘို့မှာလည်း ဟိန္ဒူဘာသာဝင်တို့ကို အချိန်မရွေး ရင်ဆိုင်ရဲသည်။ အခါတပါး၌ ဗုဒ္ဓဘာသာဝင်တို့က ဘုံဘေမြို့တွင် ဒေါက်တာ အမွေဒကာရ်၏ ရာပြည့်နှစ်အခမ်းအနားကို ကျင်းပခဲ့ကြရာ အစွန်းရောက်ဟိန္ဒူတို့၏ နိုင်ငံရေးပါတီတခုဖြစ်သော 'သျှိဝသေန'မှ လူမိုက်တစ်စုက လာရောက်တိုက်ခိုက်ခဲ့ကြလေသည်၊ ဂလဲစားချေလိုသော ဗုဒ္ဓဘာသာဝင်တို့က "သျှိဝသေန" အဖွဲ့တို့ကို လိုက်လံရှာဖွေကာ တိုက်ခိုက်ပြန်လေသည်။ ယင်းကိစ္စမှာ 'သျှိဝသေန'က အရေးနိမ်ခဲ့ရလေသည်၊ ထိုအချိန်မှစ၍ သျှိဝသေနမှ လူများသည် ဗုဒ္ဓဘာသာဝင်များအပေါ်ထားရှိကြသည့် သဘောထားမှာ ပြောင်းလဲလာခဲ့ရာ ယှုဆိုပါလျှင် ထိုအစွန်းရောက် ဟိန္ဒူအဖွဲ့အစည်းမှ အဖွဲ့ဝင်များသည် ငြိမ်သက်သွားခဲ့ပြီး ဗုဒ္ဓဘာသာဝင်တို့နှင့် ပြေပြေလည်လည်နေထိုင်လျက် ရှိကြပါသည်။ မိတ်ဆွေဖြစ်မှုနှင့် ရန်လိုမှုတို့က အင်အားတူညီနေကြသော သူများနှင့်သာ လုပ်ရ၏ဟူသော စကားရှိပါသည်။ အိန္ဒိယနိုင်ငံအဆင့်နှင့်ဖြစ်ဖြစ်၊ ကမ္ဘာအဆင့်နှင့်ဘဲဖြစ်ဖြစ်၊ ဗုဒ္ဓဘာသာဝင်တို့နှင့် ရင်းရင်းနှီးနှီးနေသွားမှသာ ဖြစ်နိုင်မည်ဟူသောအမြင်မှာ ဟိန္ဒူဘာသာဝင်တို့၌ ဖြစ်လာပြီဆိုသော အမှန်တရားက ထင်းရှာလာခဲ့ပါပြီ။ Charles Darwin ၏ သဘောတရပ်တခုမှာ 'လောကကြီး၌ ဖြစ်သမျှကြိုးပမ်းမှုနှင့် ပဋိပက္ခခပ်သိမ်းတို့က ရပ်တည်မှုတခုတည်းကိုသာ အခြေခံဖြစ်ပွားနေကြသည်' ဤသို့သော သဘောသဘာဝရှိသည့် လောကတွင် မိမိရပ်တည်မှုကို လိုချင်ကြသော သတ္တဝါအပေါင်းတို့မှာ



နိုင်သူများသည်သာ အသက်ရှင်ရပ်တည်သွားနိုင်ကြောင်း အတွေးအခေါ် ပညာရှင်ကြီးဒါဝင်က ပြောထားသည်ကိုလည်း သတိရှိကြပါရန် လိုအပ်ပါသည်။ ဟိန္ဒူဘာသာဝင်တို့၏ လူဦးရေ လျော့ပါးလာရခြင်းအကြောင်းရင်းအချို့ကို အောက်တွင် ရေးသားဖော်ပြပေးပါမည်။

(၁)။ ဟိန္ဒူဘာသာဝင်တို့မှာ 'ဇာတိဝါဒ အနိမ့်အမြင့် သူတပါးအား မထိတွေ့နိုင်မှုတို့က ဆိုးဆိုးဝါးဝါးရှိနေကြသည်။ သို့ဖြစ်ပါ၍ ဟိန္ဒူလူ့အဖွဲ့အစည်း၌ စည်းလုံးညီညွတ်မှုရှိနိုင်ရန် ခက်ခဲနေသည်။ ရာစုနှစ်ပေါင်းများစွာကပင် ဟိန္ဒူတို့အချင်းချင်း ကွဲကွဲပြားပြားရှိနေကြပါသည်။ အသက်ရှင်မွေးမြူရေးကို လုပ်နေရပါသည်။

(၂)။ ဟိန္ဒူလူ့အဖွဲ့အစည်းတွင် ပျံ့နှံ့နေသော ယင်းရောဂါဆိုးကြီးကြောင့် လူများက ထိုဟိန္ဒူလူ့အဖွဲ့အစည်းကို စွန့်ပါယ်ကာ အခြားမွတ်စလင်၊ ခရစ်ယာန်၊ ဗုဒ္ဓဘာသာစသည့် လူ့အဖွဲ့အစည်းများသို့ ကူးပြောင်းလျက်ရှိနေပါသည်။ ယင်းသို့သော အကြောင်းခံရှိနေပါ၍ ဟိန္ဒူဦးရေသည် တနေ့တခြား လျော့ပါးလျက် အနုတ်လက္ခဏာကို ပြသနေပါသည်။

(၃)။ ဟိန္ဒူမြေတွင် တန်းတူညီမျှမှုတို့က မရှိသလောက်ဖြစ်နေသည့် အချက်က အဓိကဖြစ်နေသည်။ ထိုကြောင့် ဇာတ်နိမ့်သူ ဟိန္ဒူများက ယင်းဘာသာမြေကို စွန့်ပါယ်ကာ ဗုဒ္ဓ၊ ခရစ်ယာန်နှင့်၊ အိစ္စလာမ်ဘာသာသို့ ကူးပြောင်းသွားနေခြင်းဖြစ်ပါသည်။ ထိုဘာသာများသည် တန်းတူညီမျှမှုနှင့် အချင်းချင်း ညီအစ်ကိုစိတ်ဓါတ်ထားရှိရေးကို အခြေခံကြပါ၏။

(၄)။ ဟိန္ဒူဘာသာလူ့အဖွဲ့အစည်းတွင် ၂၅–ရာခိုင်နှုန်းခန့်ရှိ လူများသည် (ဒလိသ်) သွေးစုပ်ခံလူ့တန်းစားဖြစ်နေသည်။ ၄င်းတို့မှာ အလွန်တရာ ဆင်းရဲနွမ်းပါးမှု အခြေအနေမျိုးတွင် အသက်ရှင်နေကြရသည်။ ဟိန္ဒူလူ့အဖွဲ့မှ ယင်းသွေးစုပ်ခံနေရသော လူတန်းစားကို ဇာတ်နိမ့်(ဒလိသ်)ပညာအမျှော် အမြင်ကင်းမဲ့သူများဆိုပြီး ၄င်းတို့အပေါ် ထင်သလိုကျင့်နေကြ၍ ရွာများကို မီးရှို့ပစ်ကြပြီး၊ ၄င်းတို့သားမယားတွေကို ထင်သလိုပြုကျင့်၊ လုပ်နေကြ၍ လူသူမဆန်စွာ ကျင့်ကြံပုံကို ခံနေရသော သူဆင်းရဲနွမ်းပါးသော ဒလိသ်လူတန်းစားမှ ဗုဒ္ဓ၊ အိစ္စလာမ်၊ ခရစ်ယာန်ဘာသာသို့ ကူးပြောင်းသွားကာ ၄င်းတို့၏

ရပ်တည်မှုကို ကာကွယ်စောင့်ရှောက်နေကြရပါသည်။ ဟိန္ဒူတို့၏ တရိစ္ဆာန်ဆန်သော အဆိုပါအပြုအကျင့်တို့ကြောင့် ၄င်းတို့လူဦးရေသည် တနေ့တခြား လျော့ပါးလာခြင်း ဖြစ်ရပါသည်။

(၅)။ ဇာတ်နိမ့်မြင့်သူများက တောတောင်တွင် နေထိုင်ရပြီး ဆင်းရဲနွမ်းပါးမှုတို့ဒါဏ်ကြောင့် တရိစ္ဆာန်တို့ပမာ အသက်ရှင်ကြရသူတို့အတွက် လူ့ဘဝသည် ငရဲခန်းတခုဖြစ်နေရသော ဘဝတွင် ကျရောက်လျက် ရှိနေကြပါသည်။ ခရစ်ယာန်နှင့် အစ္စလာမ်ဘာသာဝင်တို့မှ လူ့အကျိုးဆောင်အဖွဲ့အစည်းအချို့တို့က ၄င်းရဲခံနေသူများ၏ ဘဝတိုးတက်မှု ရှိနိုင်ရန် ၄င်းတို့အား အဝတ်အစား ကောင်း ဆေးဝါးအမျိုးမျိုး သူတို့၏ကလေးသူငယ်များကို ပညာတတ်လာအောင် ကျောင်းဖွင့်ပေးခြင်းစသော လူထုအကျိုးပြုလုပ်ငန်းအမျိုးမျိုးတို့ကို တည်ဆောက်ပေးခြင်းဟူသော ပရဟိတအကျိုးပြုလုပ်ငန်းအမျိုးမျိုးတို့ကို လုပ်ပေးနေကြသည်။ ကူညီထောက်ပံ့နေကြသည်။ ယခုလို Globigataion ခေတ်ကြီးမှာ လူတိုင်းက သိက္ခာရှိရှိ လူလိုသူလိုနေထိုင်ချင်လာပြီး ကမ္ဘာကြီးမှာ ခံယူချက် သက်သက် တိုက်ကျွေးနေကြသည်။ လူ့အဖွဲ့အစည်းမှ အလေးအနက်ပြန်လည်စဉ်းစားသင့်သည်။ အစွန့်ရောက်ဝါဒသဘောထားကိုသာ လက်ပိုက်ထားသော သူများမှာ ခေတ်ကုန်ပြီလို့မှတ်ယူရမည်။ ဒီမိုကရေစီအုပ်ချုပ်မှုစံနစ်အောက်တွင် သူတို့ထင်သလို မကျင့်ကြံနိုင်ဘူး၊ ထင်သလိုလုပ်လို့ မရတော့ပါဘူးဆိုတာကို မှတ်ယူရန်ဖြစ်သည်။ မိမိတို့လူဦးရေလျော့ပါးလာနေပြီဆိုတာကို သင်တို့ထင်သလို တိုးမြှင့်လာအောင် မလုပ်နိုင်ဘူးဆိုသောအချက်ကို ကောင်းကောင်း သိရှိထားဘို့ လိုအပ်ပေလိမ့်မည်။ ထိုသို့သောအခြေအနေအောက်တွင် ဗုဒ္ဓဓမ္မနှင့် ဟိန္ဒူဓမ္မတို့ အတူတူပါဘဲလို့ ခေါ်ဆိုရခြင်း၊ ထင်မြင်ချက်တို့က စိတ်ကူးယဉ်သက်သက်ပင် ဖြစ်ပါလိမ့်မည်။ (Law of contradiction) အရ ဆန့်ကျင်ဘက်အရာ ဆန့်ကျင်ဘက်အကြံအစည် တချိန်တည်းတွင် အတူတူမပါရှိနိုင်ပါ။ ထိုအချက်များတခုကမှန်ပြီး နောက်တခုမှာ မှားလိမ့်မည်။ ဆန့်ကျင်ဘက်ဖြစ်သော အချက်အလက်၊ သဘောထားခံယူချက်၊ အကြံအစည်၊ တပြိုင်တည်းနှင့် တခါတည်းမှာ မှန်ကန်နေလိမ့်မဟုတ်ဟူသောသဘောတရားကို နားလည်းထားဘို့ လိုအပ်မည်။ ဗုဒ္ဓဓမ္မ၏ဒဿနိကအချက်အလက် concepts လူမှုရေးထုံးတမ်းစဉ်လာ အဓိပ္ပါယ်ဖွင့်ဆိုမှုများ သဘောသဘာဝနှင့် အကြံအစည်များ တမျိုးတည်းမဖြစ်နိုင်။ ဟိန္ဒူဓမ္မနှင့် ဗုဒ္ဓဓမ္မတို့လက်ခံထားသည့် ခံယူချက်များနှင့် သဘောထားတို့က အချင်းချင်း တောင်ယဉ်စွန်းတန်းနှင့် မြောက်ယဉ်စွန်းတန်း



အဖြစ် ကွာခြားနေပါသည်။ တခုက (positive concept) ဖြစ်ပြီး နောက်တခုက (Negative concept) ဖြစ်နေကြပါသည်။ ထို့သို့ဖြစ်နေလို့ ယင်းဓမ္မအချင်းချင်းတို့၏ တူညီမှုမှာ လုံးဝမဖြစ်နိုင်သည့် ကိစ္စတခုဖြစ်နေပါသည်။

ဗုဒ္ဓဓမ္မနှင့် ဟိန္ဒူဓမ္မတို့၏ အခြေခံသဘောတရား (concepts)ကို ရေးသားဖော်ပြပေးဦးမည်။ ထိုအချက်အလက်သဘောသဘာဝကို ကြည့်ရှု၍ အသိဉာဏ်ကြွယ်ဝသော စာဖတ်ပရိသတ်များက မိမိကိုယ်တိုင် ယင်းကိစ္စကို ဆုံးဖြတ်သွားနိုင်သည်။ ဗုဒ္ဓဘာသာခံယူထားသည့် အခြေခံယူဆချက်များ--

## Concept of Buddhism

(၁)။ ဗုဒ္ဓဓမ္မမှာ ထာဝရဘုရားသခင် ပရမတ္တမ၊ ဗြာဟ္မဏစသည်တွေကို လက်မခံသော အနိစ္စာရဝါဒီတရားဓမ္မဖြစ်သည်။ ထိုကြောင့် ရှင်ဗုဒ္ဓအား နာစ္စတိက ဘုရားအကြောင်း မယုံကြည်၊ လက်မခံသောသူဟု ခေါ်ဆိုရပါသည်။

(၂)။ ဗုဒ္ဓဓမ္မ၏ အလိုအရ၊ သက်ရှိသက်မဲ့လောကတွင် အစဉ်ပြောင်းလဲမှုရှိနေပါသည်။ သို့အတွက်ကြောင့် ဤဓမ္မကို တစ်ဏေဝါဒီဓမ္မနှင့် ဒဿနပြောဆိုထားသည်။

(၃)။ ဤစကြဝဠာကို ဖန်ဆင်းပေးသူမှာ ဘယ်ထာဝရဘုရားသခင်၊ ဘယ်ဗြာဟ္မာမှ မဟုတ်ကြောင်း၊ စကြဝဠာသည် တိုးတက်မှုတို့၏ ဖန်တီးမှုဖြစ်သည်။

(၄)။ ဗုဒ္ဓဓမ္မမှာ အတ္တမကို အမြဲတည်မြဲနေသည့်အရာဟု မခံယူ၊ ထိုကြောင့် ဗုဒ္ဓဓမ္မကို အနတ္တမဝါဒီဓမ္မဟု ခေါ်တွင်ရပါသည်။

(၅)။ ဗုဒ္ဓဓမ္မမှာ (Energy)၏ ပြန်လည်ပေါ်ထွန်းမှု ဝါ (Rebirt) ကို ယုံကြည်သည်။ ထိုအချက်သည် သိပ္ပံပညာအပေါ် အခြေခံထားပါသည်။

(၆)။ ဗုဒ္ဓမှာ ဝေဒကျမ်းများကို လူသားတို့၏ ဖန်တီးမှုဟု ယူဆသည်။ ဆိုလိုရင်းမှာ ဝေဒကျမ်းများကို ရိက္ခိမုနိများ ရေးသားချက်ဖြစ်ကြောင်း ယုံကြည်သည်။

(၇)။ ဗုဒ္ဓဓမ္မမှာ အဟိံသတရားများကို ယုံကြည်သည်။ ရှင်ဗုဒ္ဓက ယာဇ်ပူဇော်ပွဲများ၌ တိရိစ္ဆာန်တို့ကို သတ်ဖြတ်ပူဇော်ခြင်းကို ကန့်ကွက်သည်။

(၈)။ ဗုဒ္ဓဓမ္မမှာ ဉာဏ်၊ ပရဂျန်းဉာဏ် ရရှိနိုင်ရန် မျက်ဝါးထင်ထင်နှင့် အနုမာနသက်သက်ကိုသာ လက်ခံသည်။

(၉)။ ဗုဒ္ဓဓမ္မမှာ ဇာတ်ပိုင်းဖြတ်မှု အစီအစဉ်နှင့် ဇာတ်ဝါဒကို လက်မခံ၊ ဇာတ်ဝါဒသည် လူတို့က လုပ်ထားသော အစီစဉ်တခုသာ ဖြစ်သည်ဟု ယုံကြည်ပါသည်။

(၁၀)။ ဗုဒ္ဓဓမ္မမှာ လူသားအချင်းချင်း တန်းတူညီမျှမှုကို ယုံကြည်သည် သို့အတွက်ကြောင့် ထိတွေ့မှုကို အရေးမပေး။

(၁၁)။ ဗုဒ္ဓဓမ္မမှာ မိန်းမသားများကို ယောကျ်ားများနှင့် တစ်တန်းတည်းထားဆက်ဆံသည်၊ နေရာပေးထားသည်။

(၁၂)။ ဗုဒ္ဓဓမ္မမှာ သံဃာ အမျိုးသမီးများပေါ် ညှင်းပန်းနှိပ်စက်၊ သွေးစုပ်မှုစသည့်မကောင်းဆိုးဝါးဖြစ်သော နှိပ်စက်မှုတို့ကို မပြုလုပ်ရန် တားမြစ်ထားသည်။

(၁၃)။ ဗုဒ္ဓဓမ္မမှာ သံဃာများဖြစ်သော မိန်းမသားများအားလုံးကို ယောကျာ်းပမာ ပညာသင်ကြားခွင့်၊ ဆည်းပူးခွင့်ပေးထားသည်။

(၁၄)။ ဗုဒ္ဓဓမ္မမှာ 'အရှုရှမ်းစီစဉ်မှု' ကို မယုံကြည်ကြပါ။ (ဝါ)ဗြာဟ္မစရိယ၊ ဂဟပတိ၊ ဝါဏပရဆတ္တနှင့်၊ သံယောစ်ဟူသော သက်တမ်းပိုင်းခြားမှုမရှိ။

(၁၅)။ ဗုဒ္ဓဓမ္မမှာ ကျွန်ပြုခြင်း၊ ကျွန်ခံခြင်းစံနစ်ဆိုးကို လက်မခံ။

(၁၆)။ ဗုဒ္ဓဓမ္မမှာ ပရဂျန်းဉာဏ်ကို အခြေခံသည် (ဝါ) သိပ္ပံဉာဏ်ပေါ် အမှီသဟဲပြုထားသည်။

(၁၇)။ ဗုဒ္ဓဓမ္မမှာ သက်ရှိသတ္တဝါနှင့် သဘာဝပတ်ဝန်းကျင်အပေါ် သက်ညှာထောက်ထားမှုရှိရန် သွန်သင်ပေးသည်။

(၁၈)။ ဗုဒ္ဓဓမ္မမှာ သီလ၊ ကျင့်ဝတ်ကောင်းနှင့်၊ သဒ္ဓါကျရစေသော တရားများကို ကျင့်ကြံခြင်းကို အားပေးထောက်ခံသည်။

(၁၉)။ ဗုဒ္ဓဓမ္မမှာ ခိုကိုးရာမဲ့နေသော သူတို့အပေါ် သနား၊ ကြင်နာ၊ ထောက်ထားမှု၊ ကရုဏာတရားထားမှုတို့ကို သွန်းသင်ပေးသည်။

(၂၀)။ ဗုဒ္ဓဓမ္မမှာ လူတို့နိဗ္ဗာန်ရောက်ကြောင်း တရားတွေကို ကျင့်ဝတ်ကောင်း ကျင့်ယူခြင်း မင်္ဂလာရှိစေသည့် အလုပ်ကောင်းများကို ပြုလုပ်ခြင်းစသည့် အပြုအကျင့် စိတ်ကောင်း စေတနာကောင်းထားရှိခြင်းတရားများကိုသာ လက်ခံယုံကြည်၊ ကျင့်ကြံခြင်းတို့ကိုသာ ပြဋ္ဌာန်းပါသည်။

## ဟိန္ဒူဓမ္မ၏ (concepts) စိတ်ကူးများ

၁။ ဟိန္ဒူဓမ္မမှာ ဣသွာရ၊ ထာဝရဘုရားသခင်၊ ဖန်ဆင်းရှင်၊ ဗြာဟ္မစသည့်စိတ်ကူးစိတ်သန်းများကို ယုံကြည်လက်ခံသည်။ ထိုကြောင့် ဟိန္ဒူဓမ္မကို အစ္စိသိကဓမ္မဟုခေါ်ကြသည်။

၂။ ဟိန္ဒူဓမ္မမှာ စကြဝဠာ၏ နောက်ဆုံးအာဏာပိုင်ကို ထာဝရမပြောင်းလဲနိုင်သော အဏာစက်ဟုထင်သည်။ ယင်းအဏာပိုင်များကို ထာဝရတည်မြဲနေသော အရာဟု လက်ခံယုံကြည်ကြပါသည်။ ယင်းအာဏာပိုင်တို့မှာ ဣသွာရ ဗြာဟ္မနှင့်၊ အတ္တမန်များဖြစ်ကြသည်ဟု ယူဆထင်မြင်ကြသည်။

၃။ ဟိန္ဒူဓမ္မမှာ ဣသွာရ ထာဝရဘုရားသခင်အား စကြဝဠာ၏ ဖန်ဆင်းရှင်ဖြစ်သည်။

၄။ ဟိန္ဒူဓမ္မမှာ အတ္တမကို အမြဲတည်ရှိနေသည့်အရာတခုဟု ထင်မြင်ပါသည်။ ထို့ကြောင့် ယင်းဓမ္မကို အတ္တမဝါဒီဟုခေါ်ကြသည်။

၅။ ဟိန္ဒူဓမ္မမှာ အတ္တမကို ဘဝကူးပြောင်းပေးသောအရာဟု သတ်မှတ်သည်။ ထိုသို့ စိတ်ကူးစိတ်သန်းသည် စိတ်ကူးယဉ် သက်သက်ဖြစ်၍ သိပ္ပံမဆန်သော အမြင်ဖြစ်ပါသည်။

၆။ ဟိန္ဒူဓမ္မမှာ ဝေဒကျမ်းများကို ထာဝရဘုရားသခင်က ပြုစုထားကြောင်း ယုံကြည်သည်။ ထိုကျမ်းများမှာ ပုရိသတို့ဉာဏ်မမှီဟု ဆိုကြသည်။ အာပ္ပတဝါဆဖြစ်သည်။

၇။ ဟိန္ဒူဓမ္မမှာ ယာဇ်ပူဇော်ပွဲများ၌ သားကောင်သတ္တဝါများကို သတ်ဖြတ်၍ ဗလိနတ်စာပြုရန် အလေ့အထရှိသည်။ ထိုအတွက်ကြောင့် သံသကရိုက်ဘာသာစကားတွင်'ဝေဒိကဟိသ၊ ဟိသနဘဝသိ' ဟုဆိုထားသည်။ ထိုသို့သတ်ဖြတ်ပူဇော်ခြင်းသည် သတ်ဖြတ်ခြင်း မမြောက်ရဟု ဆိုထားသည်။

၈။ ဟိန္ဒူဓမ္မမှာ ပရဂျန်ညာဏ်ရရှိရေး အရာတို့က မျက်မြင်၊ အနုမာန စကားလုံးနှင့် ဥပမာနတို့ကို သတ်မှတ် လက်ခံယူကြ၏။ စကါးလုံးနှင့် ဥပမာနတို့ အမြဲသံသယဖြစ်စရာ ဖြစ်ကြသည်။

၉။ ဟိန္ဒူဓမ္မမှာ ဝရဏစီစဉ်မှုနှင့် သတ်မှတ်မှုတွေကို ယုံကြည်သည်။ ဇာတ်ဝါဒကို လက်ခံသည်။ ဝရဏစီစဉ်မှုက ဘုရားကိုယ်တော်တိုင်က သတ်မှတ်ပေးသည်ဟု ယုံကြည်ကြပါသည်။

၁၀။ ဟိန္ဒူဓမ္မမှာ မတူညီမှု ဇာတ်အနိမ့်အမြင့်ရှိကြောင်း ယုံကြည်သည်။ ထိုအကြောင်းများကြောင့် ထိတွေ့မှု၊ မထိတွေ့မှုကိစ္စများ ပေါ်ထွန်းရပါသည်။

၁၁။ ဟိန္ဒူဓမ္မမှာ မိန်းမသားတို့အား ယောကျ်ားသားနှင့် နိမ့်ကျသော အဆင့်တွင် ထားရပါသည်။ သို့ဖြစ်ပါ၍ ဟိန္ဒူဓမ္မထဲမှာ ယနေ့အထိ မိန်းမသားများက တန်းတူအခွင့်အရေးရှိကြောင်းကို မခံစားရဘဲဖြစ်နေသည်။

၁၂။ ဟိန္ဒူဓမ္မမှာ သုံဒရများနှင့်၊ မိန်းမသားများအား ညှင်းပန်းနှိပ်စက်၊ အကြမ်းပတမ်းပြုခြင်းတို့ကို ခွင့်ပြုထားသည်။ မနုသမ္မတိကျမ်းနှင့် ဟိန္ဒူဓမ္မကျမ်းတို့တွင် ဤကဲ့သို့ ကြမ်းတမ်းမှုဥပမာများကို စိတ်ကုန်အောင် တွေ့ရှိနိုင်ပါသည်။

၁၃။ ဟိန္ဒူဓမ္မကျမ်းတခုဖြစ်သော မနုသမ္မတိကျမ်းမှာ သုံဒရအနွယ်ဘွားမိန်းမသားများအား ပညာသင်ကြားခွင့်ကို ပိတ်ပင်ထားပါသည်။

၁၄။ 'အာစ်ရမ်းစိစဉ်မှု' သက်တမ်းတခုကို ပိုင်းဖြတ်၍ သတ်မှတ်ခြင်းစံနှစ်ရှိပါသည်။ ဤစံနှစ်ကို ဗြာဟ္မဏ၊ ခတ္တိယ၊ ဝေသယတို့ လိုက်နာရန်ဖြစ်သည်။ သုံဒရအနွယ်များနှင့် မိန်းမသားများအား ဤစံနှစ်ကို လိုက်နာမှုရှိရန်မလို့။

၁၅။ ဟိန္ဒူဓမ္မမှာ ကျွန်စံနစ်ရှိကြောင်း ကျွန်စံနစ်ကို ထောက်ခံပါကြောင်း ရှိနေကြပါသည်။

၁၆။ ဟိန္ဒူဓမ္မမှာ အဝိဇ္ဇာ၊ မျက်ကန်းယုံကြည်မှုနှင့် ပရကဠများပြားမှုတို့အပေါ် အခြေခံထားပါသည်။

၁၇။ ဟိန္ဒူဓမ္မမှာ သတ္တဝါနှင့် သဘာဝပတ်ဝန်းကျင်အပေါ် သက်ညှာထောက်ထားမှုမရှိစေတို့ စကားတွေပြောကြပါသည်။

၁၈။ ဟိန္ဒူဓမ္မမှာ နိတိမဲ့ကျင့်ဝတ်များ ဒုရာစာရနှင့် အဓမ္မလုပ်ငန်းများကို ပြုလုပ်ရန် အားပေးသော ဓမ္မတခုဖြစ်သည်။

၁၉။ ဟိန္ဒူဓမ္မမှာ သတ်ဖြတ်မှု၊ ဟိသနှင့် ဖိနှိပ်၊ နှိပ်စက်မှုတို့ကို အားပေးသည်။

၂၀။ ဟိန္ဒူဓမ္မမှာ ဗျာဘိစာရီ၊ အရက်သွား၊ လူ့သတ်သွား ဘဝထက်ဆုံးပါပကံအမျိုးမျိုးတို့ကို ကျူးလွန်ကြသောသူများမှာ သေခါနီးတွင် ဝိသနီး၊ ရာမ၊ သိရိကိရိစ္စနတို့၏ အမည်နာမများကို တမ်းတမိရင်း နိဗ္ဗာန်သုဂတိသို့ ရောက်ရသည်ဟု ဆိုကြပါသည်။



၂၁။ ဟိန္ဒူဓမ္မမှာ ရာဂသတ္တရက္ခပ်ကဲမှု ကင်းမဲ့သော အုပ်ချုပ်မှုစံနစ်၊ အာဏာရှင်စံနစ်ကို အားပေးအားထားပြုသည်။

ဗုဒ္ဓဓမ္မနှင့် ဟိန္ဒူဓမ္မတို့ စိတ်ကူးစိတ်သန်း concepts များကို အထက်တွင်ဖော်ပြထားသည့်အတိုင်း ရှိနေကြောင်းကို ကြည့်ရှုခြင်းအားဖြင့် ယင်းဓမ္မနှစ်ရပ်ကို အတူတူထားစရာ အကြောင်းတခုမှာ မပါကြောင်း ပြောဆိုလို့ ရနိုင်ပါသည်။ အမှန်အမှား၊ သုဘအသုဘ၊ မင်္ဂလာ အမင်္ဂလာ၊ ဓမ္မ အဓမ္မ၊ နိတိကျင့်ဝတ်နှင့်၊ အညီမညီ၊ ယုတ်မာမှုနှင့်၊ ရိုးဖြောင့်မှု၊ လူသားဆန်မှုနှင့် တရိစ္ဆာန်ဆန်မှု ကုသိုလ် အကုသိုလ်၊ သဒ္ဓါစာရနှင့် ဒုရာစာရ၊ ယထာဘူတကျမှု မကျမှု၊ ပညာနှင့်အဝိဇ္ဇာ၊ ဖြူသော မည်းသော၊ နေနှင့် ည၊ သိက္ခာနှင့် အသိက္ခာစသည့် ဆန့်ကျင်ဘက်အချက်အလက်များကို အချင်းချင်းအတူထား နှိုင်းယှဉ်လို့ မရသလို၊ ဗုဒ္ဓဓမ္မနှင့်ဟိန္ဒူဓမ္မတို့၏ စိတ်ကူးယဉ်ခံစားချက်များကို အတူထားနှိုင်းယှဉ်သွားလို့ မဖြစ်နိုင်ပါ။

ယနေ့အခါတွင် အချို့သော ဟိန္ဒူဘာသာဝင်တို့၏ ဆရာဟုခေါ်အပ်သော ပုဂ္ဂိုလ်အချို့တို့က မီဒီယာလောကတွင် ထင်ပေါ်ကျော်ကြားနေကြသည်။ ယင်းပုဂ္ဂိုလ်များကိုကြည့်ရတော့ ဗုဒ္ဓဘာသာ၏ သာမန်ကျသောစကားများကိုလည်းနားလည်သည့် ပုံမပေါ်၊ သူတို့ပြောချင်ရာကို ဇွတ်ပြောနေကြသည်။ ထိုလူမိုက်လူပလာတို့က ဗုဒ္ဓဘာသာနှင့်ပါတ်သက်လို့ ဘာမှနားလည်တာလည်း မဟုတ်၊ ဟိန္ဒူနှင့် ဗုဒ္ဓဓမ္မတို့ အချင်းချင်း မတူကွဲပြားခြားနားနေပြီး ဆန့်ကျင်ဘက်အချက်အလက်ပေါ် အခြေခံထားကြောင်းကိုလည်း မသိ။ အတင်းအဓမ္မဝါဒီတရားများပေါ် concepts တည်ဆောက်လျက် ရှိနေကြသည်။ ယွှ ကြိုး စားမှုသည် Logic ရက္ခရာကိုဆန့်ကျင်ပြီး၊ သမိုင်းအချက်အလက်နှင့်လည်း မညီမျှအချည်းနှီးဖြစ်နေကြောင်းကိုလည်း မသိ။ ပြောချင်ရာပြောနေကြပါသည်။ ဦးနှောက်ဉာဏ်ရှိသော လေ့လာဖတ်ရှုသူများ ကိုယ်ဘာသာကိုယ် စဉ်းစားဝေဖန်သွားရန် ဖြစ်နေသည်။

## နိုင်ငံခြားမှ ဗုဒ္ဓဘာသာဝင်တို့ ဟိန္ဒူဘာသာဝင်တို့အား သတိထားကြလော၊

ဗုဒ္ဓဓမ္မ၏ စိတ်ကူး (concepts) များကို နားလည်နိုင်ရန်နှင့် သူ့တပါးတို့နားလည်သဘောပေါက်စေရန် နားချခြင်းမှာမူ သာမန်တို့ မှားယွင်းသွားနိုင်သည့် ထိုပုဂ္ဂိုလ်မျိုးကို ခွင့်လွှတ်လို့ရနိုင်ပါသည်။ သို့သော် ဒေါက်တာ ရာဒါကရိရှ္စနန်းနှင့် အာဒိဂုရုလို့အခေါ်ခံ အကျော်အမော်ပုဂ္ဂိုလ်ကြီး ဖြစ်ခဲ့သည့် ရှန်ကရာစာရိယလို ပုဂ္ဂိုလ်ကြီးမျိုးက အကြောင်းအရာ (အထူး) တခုကို အခြေခံပြီး တမင် ယှူလိုလုပ်ပြီး ပြောဆိုဝါဒဖြန့်လာသည့်အခါမျိုး၌ ထိုပုဂ္ဂိုလ်ကြီးများကို အကြီးအကျယ် တိုက်ခိုက်ဆန့်ကျင့်ဝေဖန်သွားကြရန် ဗုဒ္ဓဘာသာဝင်ပရဗုဒ္ဓပုဂ္ဂိုလ်တိုင်း၏ တာဝန်ရှိကြောင်း ကျနော်ယူဆပါသည်။

နိုင်ငံခြားမှ ဗုဒ္ဓဘာသာဝင်တို့က အိန္ဒိယမြေပေါ် သဒ္ဓါကြည်ညိုမှုကြီးကြပါသည်။ အကြောင်းက ၎င်းတို့ရှိခိုးပူဇော်ကိုးကွယ်ကြသော အရှင်ဗုဒ္ဓကိုယ်တော်မြတ်သည် အိန္ဒိယမြေပေါ် မွေးဖွားလို့ဖြစ်ရပါသည်။ ဤမြေသည် အရှင်ဗုဒ္ဓ၏ ကမ္ဘာ့ဘူမိမြေဖြစ်ခဲ့ရပါသည်။ ထိုအကြောင်းများကို အခြေခံပြီး ဤမြေကို သဒ္ဓါကြည်ညိုမှု ရှိကြပါသည်။ ကျနော်ပြောစကားများကို ထောက်ခံမှုရအောင် သက်သေဥပမာတခုကို ပြပါရစေ။ တခါက မဟာပဏ္ဍိတ ရာဟုလာ သံကိစ္စည်းက အာဂရာမြို့သို့ ရောက်လာခဲ့ရာ ပုဖ္ဖိဒယကျောင်း၌ တည်းခိုခဲ့ပါသည်၊ ဂျုံမှုန့်နှင့် ပြုလုပ်ထားသော ဘောလုံးတလုံးကို သူ့အဆင်သင့် အဝတ်ဖြူတခုတွင် ချည်၍ တပါတည်း ဆွဲလာခဲ့ရာ တရုပ်ပြည်မှ မိန်းမကြီးထံမှ ပို့ပေးလိုက်သော ဘောလုံးဖြစ်နေသည်။ ထိုဘောလုံးထဲမှာ ထိုမိန်းမကြီးသည် မိမိ၏ ဆံကေသာများကို ရိတ်၍ ထည့်ကာ လုံးပေးသော ဂျုံမှုန့်ဘောလုံးဖြစ်သည်။ ဘောလုံးမှာ ခြောက်သွေ့နေပြီးဖြစ်ရာ ရာဟုလသံကိစ္စည်းက ထိုမဏ္ဍပ်မှ ရောက်နေကြသော ပရိသတ်ကို ယင်းဘော်လုံးအား ပြသရင်း ဤသို့ဆိုခဲ့သည်။ ကြည့်ကြပါ၊ ပရိသတ်အပေါင်းတို့ ဤဘောလုံးကို ကြည့်ကြပါ၊ တရုပ်ပြည်မှ မိန်းမအိုကြီးတစ်ဦးက ပို့ပေးသော ဘောလုံးဖြစ်သည်။ ဤဂျုံမှုန်ဘောလုံးထဲမှာ ထိုမိန်းမကြီး၏ ဆံကေသများကို လုံး၍ ထည့်ထားပါသည်။ တရုပ်ပြည်သို့ ဘုန်းကြီးရောက်တုန်းက ဒီဘောလုံးကို ဘုန်းကြီးလက်ထဲထည့်ပေးလိုက်ရင်း သူ့မှာကြားလိုက်သည့်စကားမှာ ကျမ အိန္ဒိယမြေကို သိပ်ဖူးမျှော်လိုသည်။ သို့သော် အကြောင်း အမျိုးမျိုးကြောင့် လူကိုယ်တိုင် မသွားရောက်နိုင်ပါ။ ဘုန်းကြီးမှာ အိန္ဒိယက ရောက်



လာသည့် ဘုန်းကြီးတပါးဖြစ်နေသည်အားလျော်စွာ ဒီဘောလုံးကို ယူသွားပေးပါ ပြီးတော့ ဒီဘောလုံးကို သကျမုနိရှင်ဗုဒ္ဓမွေးဖွားသည့်နေရာတွင် မြေမြှုပ်ပေးပါ၊ အရှင်မြတ်အား ကျေးဇူးများစွာတင်ပါမည်အရှင်ဘုရားလို့ မှာကြားရင်းထည့်ပေးလိုက်သော ဘောလုံးဖြစ်ကြောင်း ရာဟုလသံကိစ္စည်းက ပရိသတ်တို့အား ရှင်းပြခဲ့ပါသည်။ ဤဥပမာကို ထောက်ရှုသော် နိုင်ငံခြားနေဗုဒ္ဓဘာသာဝင်တို့က အိန္ဒိယမြေကို မည်မျှသဒ္ဓါကြည်ညိုမှုထားရှိပါကြောင်း ပေါ်လွင်နေပါသည်။ ဤမြေကို မည်မျှချစ်မြတ်နိုးကြသည်ဆိုတာ ထင်ရှားနေပါသည်၊ သိန်းသောင်းနှင့်ချီ၍ ဓမ္မခရီးသည်တို့က နှစ်စဉ်နှစ်တိုင်း ကပိလဝတ္ထု၊ ဗုဒ္ဓဂယာ၊ သရနာထ၊ ကုသိနဂရအပြင် သာဝတ္တိ၊ ရာဇဂြိုဟ်၊ နလန္ဒာ၊ ဝေသာလီ၊ ဆန်းချီ၊ အာဂျန္တာ၊ အာလိုရာစသည်နေရာတို့သို့ ဖူးမျှော်ရန် ကြွရောက်လာကြပါသည်။ ဘုရားရှင်ဗုဒ္ဓကလည်း ရှင်အာနန္ဒာအား အထက်ဖော်ပြပါ လေးဌာနဖြစ်သော လုမ္ဗိနီ (ဘုရားရှင်မွေးဖွါးတော်မူသည့်နေရာ)၊ ဗုဒ္ဓဂယါ (ရွှေညာဏ်တော်ရ သည့်နေရာ) သာရနာထ (ပဉ္စဝဂ္ဂီငါးပါးတို့အား တရားဦး ဟောခဲ့သည့်နေရာ)နှင့် ကုသိနဂရ (ဘုရားရှင်ပရိနိဗ္ဗာန်စံတော်မူခဲ့သည်)ဤဌာနကြီးလေးခုတို့သည် ဖူးမျှော်ရာ ဌာနကြီးလေးခုဖြစ်၏။ ဖူးမျှော်သူများက အကျိုးထူးခံစားရပေလိမ့်မည်ဟု ပြောခဲ့ပါသည်။ တရားဓမ္မတို့ ပွါးများလာနိုင်သည်။

နိုင်ငံခြားမှ ဘုရားဖူးများရောက်လာကြသည့်အခါ အိန္ဒိယအစိုးရနှင့် အိန္ဒိယပြည်သူတို့၏ တာဝန်တခုမှာ ၎င်းဘုရားဖူးခရီးသည်များအား မှန်မှန်ကန်ကန် သက်ဆိုင်ရာဌာနသို့ အကြောင်းအကျိုးများကို ပြောပေးနိုင်သည်၊ လမ်းပြ (Guide) များကိုသာ တာဝန်ပေးသင့်ပါသည်။ လက်တွေ့ရှိရသည့် ထိုလမ်းပြများမှာ ဗုဒ္ဓအကြောင်းကို တစိုးတစိမျှ မသိကြတဲ့ လမ်းပြပုဂ္ဂိုလ်များဖြစ်နေကြပြီး ဗုဒ္ဓနှင့်စပ်လျဉ်း၍ မဟုတ်မမှန်ဆန်းကြယ်ဘွယ်ရာဖြစ်သော အဖြစ်အပျက်များကိုသာ တင်ပြပြောဆိုနေကြပါသည်။ သမိုင်းအကြောင်းလည်း နားမလည် ဗုဒ္ဓဓမ္မအကြောင်းလည်း ဂဃနဏ မသိရှာသူများ ဖြစ်နေသည်ကို တွေ့ရပါသည်။ သူတို့အတိုင်းဆိုရင် ရှင်ဗုဒ္ဓက သမိုင်းဝင်မဟာလူသား နည်းနည်းပုရာဏကျမ်းဝင်ပုဂ္ဂိုလ်တဦးများများဖြစ်နေရပါသည်။ ယူပီပြည်နယ်နှင့် ဘီဟာရ်ပြည်နယ်အစိုးရတို့မှာ တာဝန်ရှိပါကြောင်း ပြောလိုသည်။ နိုင်ငံခြားမှ ရောက်လာသော ဘုရားဖူးခရီးသည်တို့ထံ ဘုရားရှင်နှင့်ပါတ်သက်လို့ သတင်းအမှန်ပေးသွားသင့်သည်။ ဗုဒ္ဓဒဿနအမြင်နှင့် သိပ္ပံပညာများကောင်းမွန်စွာတတ်

ထားသည့် ပုဂ္ဂိုလ်များကိုသာ ထိုနေရာမျိုး၌ တာဝန်ပေး၊ ခန့်အပ်ပေးသင့်ပါသည်။

နိုင်ငံခြားမှ ဘုရားရှင်ဗုဒ္ဓနှင့် ဗုဒ္ဓမြေအတွက် အတိုင်းထက်အလွန်လေးစားသဒ္ဓါညီမှုရှိပါသဖြင့် ဗုဒ္ဓနှင့်၊ ဗုဒ္ဓမြေနှင့်စပ်လျဉ်းပြီး သတင်းအချက်အလက် အမှန်ကိုမရရှိဘဲဖြစ်ရပါသည်။ ကျနော်စကားကို အခြားဥဒါဟရဏ်တခုနှင့် တင်ပြပေးမည်။ ကျနော် အသိတယောက် တခါက ဂျပန်ပြည်ကို ရောက်သွားခဲ့သည်။ ထိုပုဂ္ဂိုလ်မှာ ရန်ကုန်မြို့နေ ဟိန္ဒူဘာသာဝင်တစ်ဦးဖြစ်ပြီး စာပေဆိုင်ရာအဖွဲ့အစည်းတခုမှာ တာဝန်ရှိသူဖြစ်ပါသည်။ သူသည် ဂျပန်ပြည်ရှိ ဗုဒ္ဓဘုရားရှိခိုးကျောင်းကို ဖူးမျော်ရန် ဝင်သွားခဲ့သည်။ ထိုပုဂ္ဂိုလ်သည် ကျောင်းကိုဝင်နေချိန်တွင် မင်းမျိုးမင်းဆက်အနွယ်ဝင် လူပုဂ္ဂိုလ်အချို့တို့က ဗုဒ္ဓရုပ်ပွါးတော်ကို ရှိခိုးပူဇော်ပြီး ကျောင်းအပြင်သို့ ထွက်လာခဲ့ချိန်ဖြစ်ပါသည်။ လုံခြုံရေးတာဝန်ရှိအာဏာပိုင်တဦးက အဆိုပါလူကို စစ်ဆေးမေးမြန်းခဲ့ရာ သူ့မှာ အိန္ဒိယပြည်သူတစ်ဦးဖြစ်၍ ဗုဒ္ဓဘာသာဝင်တစ်ဦးဖြစ်ပါသည်။ ဘုရားဖူးလိုသောဆန္ဒဖြင့် ဤကျောင်းသို့ ဝင်လာခြင်းဖြစ်ပါသည်ဟု ပြန်ပြောခဲ့မိသည်။ တာဝန်ရှိလုံခြုံရေးအရာရှိက ထိုစကားများကို မင်းမျိုးမင်းနွယ်မှ ဘုရားဖူးလာခဲ့သော ပုဂ္ဂိုလ်များအား ပြောပြသည့်အခါ ယောကျ်ား၊ မိန်းမအားလုံးက သူ့ကို တွေ့ရတာဝမ်းသာမိကြောင်း နှုတ်ခွန်းစကား ပြောမိခဲ့ကြသည်။ ယင်းလူအုပ်ထဲက မိန်းမတယောက်က ရှေ့သို့တိုးလာ၍ မိမိရင်သွေးတယောက်ကို ထိုအိန္ဒိယလူမျိုး ခြေရင်းမှာချ၍ သူ့မခလေးအတွက် ဆုမွန်းကောင်းတောင်းပေးပါဟု လေးလေးစားစား ပြောဆိုတောင်းပန်လာခဲ့သည်။ ထိုပုဂ္ဂိုလ်မှာလည်း သံသကရိုက်ဘာသာဖြင့် ခလေးကျန်းမာရေးနှင့် တိုးတက်မှုအတွက် ဆုမွန်ကောင်းများ တောင်းပေးခဲ့ပါသည်။ အမှန်တကယ်တော့ ဆုမွန်တောင်းပေးသူမှာ အကျင့်စာရိတ္တပျက်ပြားနေပြီး အရက်သမားတစ်ဦးဖြစ်ခဲ့ပါသည်။ ငွေစားမှုနှင့် အပြစ်ပေးခံထားရသော ဗျာဘိကျာရီတစ်ဦးဖြစ်သည်။ ပြီးတော့ ဗုဒ္ဓဘာသာဝင်တစ်ဦးလည်းမဟုတ် အစွန်းရောက်ဟိန္ဒူတစ်ဦးဖြစ်ခဲ့သည်။ ဆိုလိုရင်းမှာ နိုင်ငံခြားမှာ အိန္ဒိယလူမျိုးတယောက်ကို ယခုလိုလေးစားမှုရှိခဲ့ကြပါသည်။ ဗုဒ္ဓဘာသာဝင်တစ်ဦးဖြစ်ကြောင်းကိုလည်း ဆိုခဲ့ပြန်သည်။



ဤနေရာတွင် ဂျပန်ဗုဒ္ဓဘာသာဆရာကြီးများ၏ အကြံပြုပြောဆိုချက်များကို ရေးသားဖော်ပြပေးမည်ဖြစ်ပါသည်။ ၎င်းတို့၏ အကြံပြုချက်၊ ဆွေးနွေးချက်များကို ဖတ်ရှုလေ့လာကြည့်သည့်အခါ ဘာရတီယဟိန္ဒူများ၏ အကောက်ကြံဉာဏ်က ထင်ရှားပေါ်လွင်မှု အနည်းငယ်မျှသာ ရှိကြပါသည်။ ဒေါက်တာရာကိရိစ္စနန်း၏ ဖွတ်ကိုင်မှုကို ဥပမာတခုဖြင့် တင်ပြပေးမည်ဖြစ်ပါသည်။ တနေ့တွင် လူမိုက်လူဗာလတစ်ဦးက ဖနီးသည်အား ဤသို့ဆိုခဲ့လေသည် ငါဒီကနေ့ လမ်းခုလတ်မှာ တွေ့ရှိမည့် ဆိတ်တကောင်ကို ခြေငါးချောင်းနှင့် မြင်မှာဖြစ်သည်။ ထိုလူပြိန်း၏ စကားကိုကြားရ၍ သူ့မိန်းမမှာ ဤသို့ပြန်ပြောလေသည်။ ‘ဆိတ်တို့မည်သည်မှာ ခြေလေးချောင်းသတ္တဝါဖြစ်သည်၊ ရှင်က ခြေငါးချောင်းရှိဆိတ်ကို ဘယ်လို မြင်နိုင်မှာလဲရှင်’ ဟု မိန်းမက ပြန်ပြောသောစကားကိုကြားရပြန်၍ ထိုလူမိုက်က ဘာဘဲဖြစ်ဖြစ် ဘယ်လိုဘဲဖြစ်ဖြစ်ငါကတော့ခြေငါးချောင်းလို့ဘဲ မြင်မှာပါ။ ထိုအခါ မိန်းမဖြစ်သူက ရှင့်ကို ဆိတ်၏ ခြေထောက်တဖက်တစ်ချောင်းစီကို ကိုင်ကာ ပြသလာရင်ကော့ ရှင့်ဘယ်လိုလုပ်မှာလဲ? မိန်းမက ပြန်မေးခဲ့သည်။ ထိုအခါ လူမိုက်က ဤသို့ဆိုလာခဲ့သည်။ ဘာဘဲဖြစ်ဖြစ် ဘယ်လိုဘဲကိုင်ပြပြ ငါကတော့ ငါးချောင်းဘဲ မြင်သွားမှာပါ။ ငါ ဘယ်သူ့ စကားနားထောင်မှာ မဟုတ်ဘူး။ ဒေါက်တာရာဒါကရိစ္စနန်းတို့ အဖြစ်မှာ ထိုလူမိုက်နှင့်တူနေပါသည်။ စွဲမက်ဘွယ်ရာကောင်းသော စာပေဟောပြောပွဲများ အရေးသားများကို သုံးစွဲကာ နိုင်ငံခြားသားဆရာ၊ ဆရာမများကို အသံတိတ်၊ ပိတ်ထားခဲ့သည်။

ယခုလိုလုပ်ခြင်းအားဖြင့် အိန္ဒိယနိုင်ငံရှိ ဟိန္ဒူအများဖြစ်သော မနုဝါဒီသမားများ အကျိုးရှိပါသည်။ အကြောင်းမှာ အိန္ဒိယနိုင်ငံတွင် ဗုဒ္ဓဘာသာအစစ်အမှန် ပြန့်ပွါးလာခဲ့သည်ရှိသော် မနုဝါဒီများ၏ ခပ်သိမ်းသော မဟုတ်မမှန်ဝါဒပြန့်ချီမှုမှာ ပြိုလဲသွားနိုင်စရာ အကြောင်းရှိပါသည်။ မနုဝါဒီများပြိုလဲသွားလျှင် ဗြာဟ္မဏများ အထူးအခွင့်အရေးခံ လူတန်းစားအဖြစ်မှ လျော့လဲသွားနိုင်သည်။ အလုပ်လုပ်စားနိုင်ရန် ခက်ခဲသွားနိုင်သည်။ ယနေ့ ဘီဟာရ်ပြည်နယ်တွင် များပြားသော ဝိဟာရကျောင်းများရှိနေကြသည်။ ယင်းဝိဟာရကျောင်းများ စေတီပုထိုးများကို မနုဝါဒီများက မတရားသိမ်းဆီထားသည်။ မဟာဗောဓိဝိဟာရကျောင်းတော်ကို ဟိန္ဒူများကပိုင်သည်ဟုစွပ်စွဲက သိမ်းဆည်းထားသည့် မဟာဝိဟာရကျောင်းတွင်းမှာ သျှိဝလိင်္ဂကို ထာပနာထားခြင်းမှာ ဟိန္ဒူများ

လက်ချက်ဖြစ်သည်။ အရွန္တရယ်ဖြစ်အောင်ဖန်တီးထားသော လုပ်ရပ်ဖြစ်နေပါသည်။ ဝိဟာရကျောင်းအပြင်ရှိ အခန်း (၅) ခန်းထဲမှာရှိနေသော ပဥ္စဝဂ္ဂီငါးပါးတို့၏ရုပ်ထုများကို ပဏ္ဍဝမင်းသားငါးပါးတို့၏ ရုပ်ထုပါဟု မဟုတ်မတရားကြေငြာခြင်း ပြောဆိုခြင်းမျိုးမှာ ဟိန္ဒူမနုဝါဒီတို့၏ ပြောဆိုခြင်းများ ကြေငြာခြင်းများမှာ ရယ်စရာဖြစ်နေပါသည်။ ယျွလိုဝါဒဖြန့်ချီမှုမျိုးက နိုင်ငံခြားသားဧည့်သည် ဗုဒ္ဓဘာသာဝင်တို့ အကြားသံသယပွါးများစေပါသည်။ ထိုအပြုအမူများက မနုဝါဒီတို့၏ သေချာစဉ်းစားထားသော ကလိမ်ဉာဏ်သာဖြစ်သည်။

ထိုအခြေအနေနှင့် အဖြစ်မျိုးတွင် ရှင်ဗုဒ္ဓအား ဝိသနိုး၏ ကိုယ်ပွါးဗုဒ္ဓဘာသာကဟိန္ဒူဓမ္မမှ ဆင်းသက်လာသောဓမ္မ၊ ဗုဒ္ဓဘာသာသည် ဟိန္ဒူဘာသာ၏ အစိတ်အပိုင်းတခုဖြစ်သည်ဟု ပြောဆိုဝါဒဖြန့်သူများကို ကန့်ကွက်ဆန့်ကျင်သွားရပါမည်။ ထိုအဖြစ်မှ လွတ်ကင်းရန် အောက်ဖေါ်ပြ ထားသည့်အတိုင်း ကြိုးပမ်းသွားရမည်ဖြစ်သည်။

၁။ ရှေးခေတ်ဟောင်းက တည်ဆောက်ထားခဲ့သည့် ဗုဒ္ဓကျောင်းဝိဟာရ၊ ပုထိုးစေတီများကို ဗြာဟ္မဏလက်ထဲမှ မိမိတို့လက်ထဲ့သို့ ယူနိုင်ရန် အဆက်မပြတ် ကြိုးစားသွားရမည်။

၂။ ရှင်ဗုဒ္ဓမှာ ဝိသနိုး၏ ကိုယ်ပွါးမဟုတ်ကြောင်းနှင့် စပ်လျဉ်းပြီး အကြံဖလှယ်ပွဲများ seminar များ၊ အလုပ်ရုံများအခါလျော်စွာ ကျင်းပပြုစုပြီး အကြံပြုချက်များ အခြားစာရွက်စာတမ်းများကို ရေးသားပြုစုပုံနှိပ်က အဘိုးအခနည်းနည်းနှင့် ဖြန့်ချီဝေသွားရမည်။ သို့ရာတွင် ကမ္ဘာ့နိုင်ငံများသို့လည်း ပို့ပေးရန်ဖြစ်သည်။

၃။ အကြံဖလှယ်ပွဲများ seminar များတွင် နိုင်ငံခြားမှ ဗုဒ္ဓဘာသာများကို ဖိတ်ခေါ်ရမည်။

၄။ ဗုဒ္ဓမ္မတို့၏ ဒဿနဆိုင်ရာ စာအုပ်စာပေများ ရေးသားပြုစု၊ ဝါဒဖြန့်လုပ်ငန်းကို စံနစ်တကျလုပ်သွားရပါမည်။

၅။ ဗုဒ္ဓဘာသာဝင်များက မိမိတို့ပိုင် တီဗွီ channel တောင်းရပါမည်။

၆။ ဘုရားရှင်ဗုဒ္ဓအား ဝိသနိုး၏ ကိုယ်ပွါးပါဟုဆိုသော စာအုပ်စာတမ်းများကို ဝိုင်းပယ်သည့်အနေဖြင့် လမ်းဆုံနေရာတို့မှာ မီးရှို့ဖျက်ဆီးပေးရမည်။

၇။ ဗုဒ္ဓဓမ္မ၏ သမိုင်းအမှန်ကို ပြည်သူ့ရှေ့မှောက် ရောက်လာအောင် လုပ်ရမည်။



၈။ ဗုဒ္ဓ၏ အနတ္တဝါဒနှင့် အနိစ္စဝါဒကို ပြည်သူအများ သိရှိနားလည်လာရန် နည်းအမျိုးမျိုးနှင့် ပို့ချသွားရမည်။

၉။ ဗုဒ္ဓ၏ သိပ္ပံသဏ္ဌာန်ကို လူတိုင်းနားလည်လာရန် ကြိုးပမ်းသွားရမည်။

၁၀။ ဗုဒ္ဓဓမ္မ၏ အဓိက သွန်သင်ချက်များဖြစ်ကြသော သီလ၊ သမာဓိ၊ ပရဂျန်းစသည်တို့ကို ဖြန့်ချီပေးသွားရမည်။

၁၁။ ဗုဒ္ဓဘာသာဝင်နိုင်ငံများတွင် ဗုဒ္ဓဘိက္ခု ဗုဒ္ဓပညာရှင် ဗုဒ္ဓသမိုင်းကို နားလည်တတ်ကျွမ်းသည့် ပညာရှင်များ စေလွှတ်ကြပြီး ဓမ္မ၏ အနှစ်အမြစ်ကို ဝါဒဖြန့်သွားရမည်။

၁၂။ C.D.I.T.V များသုံးစွဲကာ နိုင်ငံခြားရှိ ဗုဒ္ဓဘာသာဝင်များ၏ သံသယဖြစ်ဘွယ်များ ကင်းရှင်းသန့်စင်လာစေရန် ကြိုးပမ်းအားထုတ်သွားရမည်။ ထိုသို့ကြိုးပမ်းအားထုတ်သဖြင့် နိုင်ငံခြားရှိ ဗုဒ္ဓဘာသာဝင်တို့အကြား ဗုဒ္ဓဓမ္မ၏ အစ်အမှန်သွန်သင်ခြင်းများ ပွားများလာအောင် လုပ်ကိုင်ဆောင်ရွက်သွားရပါမည်။

ဘဝတု သဗ္ဗမင်္ဂလံ။

အင်္ဂလိပ်နေ့တွင်ဘာသာပြန်လို့ပြီးသွားသည်။

## ဒေါက်တာဓမ္မကီးတိ (မိတ်ဆက်)

မွေးနေ့၊ ၂၅–ဇူလိုင် ၁၉၃၇ခုနှစ်။

မွေးရပ်၊ ဂုမ္မတတခွပဟာလဝါန၊

ဆဒါရိဘဂျာ အာဂရာ၊ ယူးပီ။

ဖခင်၊ ဘူ (ပ်) ဆင့် (ကွယ်လွန်) လွန်လပ်ရေး တိုက်ပွဲဝင်အာဇာနည်။

အဘိုး၊ စီတာရာမ်း (ကွယ်လွန်) လယ်သမားကြီး။

ပညာအရည်အချင်း၊ M.A. (Philosophy) M.Ed., M.Phil., Ph.D (Budhist Education) D.litt.(Philosophy)

တသက်တာအဖွဲ့ဝင်–1. The Indian Science Congress, Kolkata

2. The Indian Philosophical Congress, Delhi
3. Indian Psychological Association, Delhi
4. Akhil Bhartiya Darshan Parishad, Jabalpur
5. Mahabodhi Society of India, Kolkata
6. Consumer Forum, Delhi
7. Uttar Pradesh Samaj, New Delhi

Founder Trustee
(1) Ambedkar Education trust Delhi and (2) International Buddhist Cultural Trust, Delhi.

ဥက္ကဋ္ဌ– မိလိန္ဒ သိက္ခာ သမိတိ– ဂွဖိယာဘာဒ်

Award-

1. Indira Gandhi Memorial Award - 1988, Delhi
2. Prakashvir Shastri Award - 1988, Delhi
3. Bal Sahitya Award, Hindi Academy - 1987, Delhi
4. Ambedkar Award - 1993, Delhi
5. Buddha Ratna Award - 2002, Delhi
6. Dr. Ambedkar International Buddhist Literacy Award - 2003, Canada
7. Bodhhisatva Ambedkar Award - 2005, Haryana
8. Dhamma Ratna Award - 2007, Agra
9. Dushyant Award - 2007, Delhi
10. Ambedkar Ratna Award - Delhi Government, 2008
11. Ambedkar Samman, Ambedkar Bhawan - 2008, Delhi
12. Samaj Ratna Award - 2008, Satana, Madhya Pradesh
13. Kanishka Award - 2008, Ludhiana, Punjab
14. Award of Honour - 2009, Jammu. (J&K)

နေရပ်လိပ်စာ– B/4/109, Paschim Vihar New Delhi- 110068
Phone: 011-25285769, Mb: 9811064733

သမ္မယက ပရကာရှန်
32/3 Paschim puri, New Delhi-110068
Phone: 9810249452, 9810161821
Email: budhadhrama@bol.net.in
Web: www.samayakprakashan.com

## NOTES

